ဆဋ္ဌသင်္ဂီတိပုစ္ဆက

အဂ္ဂမဟာပဏ္ဍိတ

ကျေးဇူးတော်ရှင်

# မဟာစည်ဆရာတော်ဘုရားကြီး

ဟောကြားတော်မူသော

# အဘိဓမ္မာတရားတော်ကြီး

သာသနာ - ၂၅၅၂ ကောဇာ - ၁၃၇၀ ခရစ် - ၂၀၀၉

(စတုတ္ထကြိမ်မြောက်)

# လူးကဲတဲ့တရား

မြတ်စွာဘုရားဟောကြားတဲ့ တရားတော်တွေဟာ ဝိနည်းရယ်၊ သုတ်ရယ်၊ အဘိဓမ္မာရယ်လို့ သုံးမျိုးရှိတယ်။ ပိဋကတ်သုံးပုံလို့လဲ သိမ်းကျုံးပြီး ခေါ်သေးတယ်။

ဝိနည်းဆိုတာကတော့ ရဟန်းတော်တို့ ကျင့်ဝတ်ဥပဒေစည်းကမ်း တွေပါပဲ။

သုတ်ကတော့ လူနတ်ပြဟ္မာ သတ္တဝါအကုန်လုံး လိုက်နာကျင့်သုံးဖို့ တရားတွေဖြစ်တယ်၊ အဲဒီသတ္တဝါတွေရဲ့ အာသယာနုသယစသည်တို့နဲ့ သင့်တင့်အောင် သတ္တဝါတွေနားလည်အောင် ဟောထားတဲ့ တရား၊ သတ္တဝါတွေကျင့်နိုင်လောက်တဲ့ တရား။ အဲဒီတရားတွေကို ဟောကြားထားတယ်။

အဘိဓမ္မာတရား ဆိုတာကတော့ သတ္တဝါတွေကို မငဲ့ဘူး။ ဟောသင့်ဟောထိုက်တဲ့ သဘောသဘာဝတွေကိုအကုန်လုံးအကျယ်ချဲ့ပြီး အသေးစိတ် ဟောထားတယ်၊ အဲဒါကြောင့် အဘိဓမ္မာလို့ ခေါ်တယ်။

**မဟာစည်ဆရာတော်**

ဆဋ္ဌသင်္ဂါယနာ တိပိဋက
အဂ္ဂမဟာပဏ္ဍိတ
မဟာစည်ဆရာတော်ဘုရားကြီး
ဟောကြားတော်မူသော

# အဘိဓမ္မာတရားတော်ကြီး

ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ချုပ်
မဟာစည်သာသနာ့ရိပ်သာ
ရန်ကုန်မြို့။

သာသနာ–၂၅၅၂ ကောဇာ–၁၃၇၀ ခရစ်–၂၀၀၉
(စတုတ္ထအကြိမ်)

## ပုံနှိပ်မှတ်တမ်း

| | |
|---|---|
| စာမူခွင့်ပြုချက်အမှတ် | - ၃၂၀၄၀၀၀၇၀၉ |
| မျက်နှာဖုံးခွင့်ပြုချက်အမှတ် | - ၃၂၀၃၉၄၀၇၀၉ |
| ပုံနှိပ်ခြင်း | စတုတ္ထအကြိမ်၊ ဇူလိုင်လ၊ ၂၀၀၉။ |
| အုပ်ရေ | ၃၀၀၀ |
| မျက်နှာဖုံးဖလင် | **Eagle** |
| ပရုဖတ် | ဦးဇဝန (သာသနဓဇ ဓမ္မစရိယ)<br>မဟာစည်ဝန်ဆောင်ဆရာတော်<br>ဆရာကြီး ဒေါ်ပညာဝတီ (ဓမ္မဂဝေသီအဆောင်မှူး) |
| အတွင်းကွန်ပျူတာစာစီ | ကိုအေးချမ်း (တင့်တူ)<br>ကိုကျော်ကျော်ဝင်း (ငါန်းဌန်) |
| အတွင်းဖလင် | ကိုအောင်မင်းလွင် |
| စာအုပ်ချုပ် | ကိုမြင့်လွင် |
| မျက်နှာဖုံးနှင့်အတွင်းပုံနှိပ် | ဦးနိုင်လေး (၀၈၈၅၀)<br>သိရိတိပိဋကပုံနှိပ်တိုက်<br>အမှတ် (၃၃၃)၊ ဗိုလ်ဆွန်ပက်လမ်း၊<br>ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| ထုတ်ဝေသူ | ဦးဖုန်းမြင့် (၀၂၄၀) ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ချုပ်<br>အမှတ် (၁၆)၊ သာသနာ့ရိပ်သာလမ်း၊ ဗဟန်း၊<br>ရန်ကုန်မြို့။ |

" ထုတ်ဝေသည့်စာအုပ် ကတ်တလောက်အညွှန်း " (CIP)

၂၉၄.၃၈၂၄

မဟာစည်ဆရာတော်ဘုရားကြီး

အဘိဓမ္မာတရားတော်ကြီး / မဟာစည်ဆရာတော်ဘုရားကြီး။

- ရန်ကုန် ၊

ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ချုပ်၊ စတုတ္ထကြိမ်မြောက်၊ ၂၀၀၉။

၅၄၈ - စာ ၊ အလျား - ၁၆ စင်တီမီတာ

(၁) အဘိဓမ္မာတရားတော်ကြီး အနံ - ၁၀ စင်တီမီတာ



အနန္တကျေးဇူးတော်ရှင် ဆဋ္ဌသင်္ဂီတိပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ

# မဟာစည် ဆရာတော်ဘုရားကြီး

# မဟာစည်ဆရာတော်ဘုရားကြီး၏ ဘဝဖြစ်စဉ်အကျဉ်း

ဆဋ္ဌသင်္ဂါယနာပုစ္ဆက အဂ္ဂမဟာပဏ္ဍိတ မဟာစည်ဆရာတော် လောင်းလျာ သားရတနာကို ရွှေဘိုခရိုင်၊ ဆိပ်ခွန်ရွာ၌ အဘဦးကံတော်+အမိဒေါ်ရွှေအုပ်–တို့မှ သက္ကရာဇ် ၁၂၆၆–ခုနှစ်၊ ဒုတိယဝါဆိုလပြည့်ကျော်(၃)ရက်၊ သောကြာနေ့ (၂၉–၇–၁၉၀၄)တွင် ဖွားမြင်ခဲ့လေသည်။ ငယ်နာမည်မှာ "မောင်သွင်" ဖြစ်သည်။

အသက်(၁၂)နှစ်အရွယ်တွင် ရှင်သာမဏေဝတ်၍ သက်တော်(၂၀)တွင် ရဟန်းပြုခဲ့သည်။ ပရိယတ္တိစာပေ၊ နေ့ဝါ၊ ညဝါ ကျမ်းစာအရပ်ရပ်ကို သင်ယူတော်မူခဲ့ပြီး၊ ၁၃၀၃–ခုနှစ်တွင် "သာသနဓဇသိရိပဝရ ဓမ္မာစရိယ" ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်ခံယူရရှိတော်မူသည်။

ငယ်ဆရာများနှင့်တကွ မန္တလေးမြို့၊ အနောက်ပြင် ခင်မကန်တိုက်၌ ကျော်စောသော ဆရာတော်များထံ ပရိယတ္တိကျမ်းစာများ သင်ယူဆည်းပူးတော်မူခြင်း၊ သထုံမင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးထံ ပဋိပတ်ကို နည်းခံကျင့်ကြံအားထုတ်ခြင်းတို့ဖြင့် ပရိယတ္တိ၊ ပဋိပတ္တိ စွယ်စုံထူးချွန်သည့် ပုဂ္ဂိုလ်မြတ် ဖြစ်တော်မူခဲ့လေသည်။

ဆရာတော်သည် သိက္ခာတော်(၂၅)ဝါ၊ ရသည်ထိ ဆိပ်ခွန်ရွာ မဟာစည်ကျောင်းနှင့် မော်လမြိုင်၊ တောင်ဝိုင်းကလေးကျောင်းတို့တွင် အခါအားလျော်စွာ သီတင်းသုံးနေထိုင်တော်မူ၍ ပရိယတ္တိ၊ ပဋိပတ္တိသင်ကြားပို့ချနည်းနာညွှန်ပြတော်မူခဲ့သည်။

၁၃၁၁–ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော်(၆)ရက်နေ့ (၁၀–၁၁–၁၉၄၉)တွင် ရန်ကုန်မြို့၊ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ကြီး၏ ပင့်ဆောင် ကိုးကွယ်မှုဖြင့် ရန်ကုန်မြို့၊ သာသနာ့ရိပ်သာသို့ ကြွရောက်တော်မူကာ ၁၃၁၁ ခုနှစ်

# မဟာစည်ဆရာတော်ဘုရားကြီး၏ ဘဝဖြစ်စဉ်

နတ်တော်လပြည့်နေ့ (၄–၁၂–၁၉၄၉)မှစ၍ ယောဂီများအား ဝိပဿနာတရား ဟောကြားပြသတော်မူခဲ့သည်။ ရိပ်သာ၏အမည်သည်လည်း "မဟာစည် သာသနာ့ရိပ်သာ"ဟု တွင်ခဲ့လေသည်။

ဆရာတော်ဘုရားကြီးသည် ၁၃၁၉–ခုနှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကို ဆက်ကပ် ခံယူရရှိတော်မူသည်။ ဆဋ္ဌသင်္ဂါယနာတင်ပွဲတွင် "ဆဋ္ဌသင်္ဂီတိပုစ္ဆက" တာဝန်ကို ဆောင်ရွက်တော်မူသည်။ ၎င်းအပြင် "ဆဋ္ဌ သင်္ဂါယနဩဝါဒါစရိယ"စသည့် သာသနာ့တာဝန်အရပ်ရပ်ကိုလည်း စွမ်းစွမ်းတမံ ကြိုးပမ်းဆောင်ရွက်တော်မူခဲ့လေသည်။ ထိုစဉ်က ဆဋ္ဌသင်္ဂီတိ ဝိသဇ္ဇကကား တိပိဋကဆရာတော် "အရှင်ဝိစိတ္တသာရာဘိဝံသ"ပင်တည်း။

၁၃၀၅–ခုနှစ်တွင် မဟာစည်ဆရာတော် စီရင်ရေးသားတော်မူသော ဝိပဿနာရှုနည်းကျမ်းကြီးနှစ်တွဲသည် ကျော်စောထင်ရှားလှပေသည်။

ဆက်လက်ပြုစုသောကျမ်းများနှင့် ဟောစဉ်တရားများမှ စာအုပ် အဖြစ်သို့ ရောက်ရှိလာသော ကျမ်းစာအုပ်ပေါင်း မှာ(၇၀)ကျော် ရှိပေသည်။

ဆရာတော်ဘုရားကြီးသည် သက်တော်ထင်ရှားရှိစဉ် မြန်မာနိုင်ငံ အတွင်း မဟာစည်ဩဝါဒခံရိပ်သာခွဲပေါင်း (၃၀၀)ကျော် တည်ရှိခဲ့ပြီး၊ ကမ္ဘာ အရပ်ရပ်တွင်လည်း သာသနာပြုရိပ်သာခွဲများကို တည်ထောင်ပေးတော်မူခဲ့ သည်။ ဆရာတော်ဘုရားကြီးပြသတော်မူသော ဝိပဿနာတရားပွားများ ကျင့်ကြံအားထုတ်ပြီးသူ ရဟန်း၊ ရှင်၊ လူ၊ ယောဂီဦးရေ(၇၀၀၀၀၀)ကျော် ရှိခဲ့လေသည်။

ဆရာတော်ဘုရားကြီးသည် အိန္ဒိယ၊ သီရိလင်္ကာ၊ နီပေါ၊ စင်္ကာပူ၊ ဂျပန်၊မလေးရှား၊ ထိုင်း၊ ဗီယက်နမ်၊ ကမ္ဘောဒီးယား၊ လာအို၊ အင်ဒိုနီးရှား၊ စသော အရှေ့တိုင်းနိုင်ငံများနှင့် ဥရောပ၊ အင်္ဂလန်၊အမေရိကစသော အနောက် နိုင်ငံများအပါအဝင် ကမ္ဘာအရပ်ရပ်တို့မှ ပင့်ဖိတ်လျှောက်ထားချက်များအရ ကြွရောက်တော်မူပြီးလျှင် ထေရဝါဒဗုဒ္ဓသာသနာတော် စည်ပင်ပြန့်ပွား

ထွန်းကားရေးကို ဆောင်ရွက်တော်မူခဲ့လေသည်။

ဆရာတော်ဘုရားကြီးသည် သက်တော် (၇၈)၊ သိက္ခာတော် (၅၈)ဝါ ရရှိရာ ၁၃၄၄–ခုနှစ်၊ ဒုတိယဝါဆိုလပြည့်ကျော် (၁၀) ရက်နေ့ (၁၄–၈–၁၉၈၂) စနေနေ့တွင် မဟာစည်သာသနာ့ရိပ်သာ စံကျောင်းတော်၌ စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူခဲ့ပါသည်။

# မာတိကာ


| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၁။ | နိဒါန်း | (က) |
| ၂။ | မတူညီသောဘုံနှင့်ဘဝ | (က) |
| ၃။ | လူခန္ဓာနှင့် နတ်ခန္ဓာ | (က) |
| ၄။ | အသက်တန်းကလည်းကွာ | (ဂ) |
| ၅။ | လူတို့ပြည်တွင် အဘိဓမ္မာတရားကို မဟော | (ဃ) |
| ၆။ | ပဏ္ဍုကမ္ဗလာနှင့် မြတ်စွာဘုရား | (ဃ) |
| ၇။ | ထူးခြားလွန်ကဲသော အဘိဓမ္မာ | (န) |
| ၈။ | အဘိဓမ္မာဟောပုံနှင့် သုတ္တန်ဟောပုံ | (ပ) |
| ၉။ | အဘိဓမ္မာတရားတော်ကြီး | ၁ |
| ၁၀။ | ပါရမီဖြည့်ကျင့်ရတာ သိပ်ပင်ပန်းတယ် | ၇ |
| ၁၁။ | ဆေးမသောက်ရင် ရောဂါမပျောက်ဘူး | ၉ |
| ၁၂။ | သုတ္တန်အဋ္ဌကထာ ပဏာမ | ၁၂ |
| ၁၃။ | ပြောစရာရှိတာလေးတွေကို ပြောရဦးမယ် | ၂၀ |
| ၁၄။ | စန္ဒကူးတုံးကြီးတစ်တုံးလာပြီတယ် | ၂၁ |
| ၁၅။ | သိကြားပုဒ်ပညတ်တော်မူတယ် | ၂၇ |
| ၁၆။ | ခါချဉ်ထုပ်ထဲက သရက်သီး | ၃၁ |
| ၁၇။ | တစ်သိန်းတန် မဏ္ဍပ်ကြီး | ၃၃ |
| ၁၈။ | ယမကပါဋိဟာရိယ | ၃၆ |
| ၁၉။ | နှစ်လှမ်း သုံးဖဝါးတဲ့ | ၃၈ |
| ၂၀။ | ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာ | ၃၈ |
| ၂၁။ | ဣန္ဒကနှင့် အင်္ကုရနတ်သား နှစ်ဦး | ၃၉ |
| ၂၂။ | အကျိုးပေးရာမှာတော့ ကွာကြတယ် | ၄၁ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၂၃။ | အလှူခံပုဂ္ဂိုလ်ချင်းက မတူခဲ့ကြဘူး | ၄၂ |
| ၂၄။ | ထူးကဲတဲ့တရား | ၄၃ |
| ၂၅။ | နိမ္မိတကိုယ်စား ဖန်းဆင်းထားခဲ့ရ | ၅၂ |
| ၂၆။ | အရှင်သာရိပုတ္တရာကို ဟောတဲ့တရား | ၅၃ |
| ၂၇။ | တပည့်ထူးတွေ | ၅၄ |
| ၂၈။ | ကုသိုလ်အထုံရှိခဲ့ကြသည် | ၅၅ |
| ၂၉။ | ဓမ္မုဒ္ဒေသဝါရတဲ့ | ၅၈ |
| ၃၀။ | ကောဋ္ဌာသဝါရစသည် | ၅၉ |
| ၃၁။ | ဈာနင်ငါးပါး | ၆၅ |
| ၃၂။ | ဣန္ဒြေတရားစု | ၆၇ |
| ၃၃။ | ရှင်နာဂသိန်က ချီးကျူးတယ် | ၆၉ |
| ၃၄။ | မဂ္ဂင်အစု | ၇၀ |
| ၃၅။ | ဗိုလ်အစု | ၇၂ |
| ၃၆။ | မူလတရားစု | ၇၃ |
| ၃၇။ | ကမ္မပထတရား | ၇၅ |
| ၃၈။ | ကာယပဿဒ္ဓိစသည် | ၇၈ |
| ၃၉။ | လဟုတာ | ၇၉ |
| ၄၀။ | မုဒုတာ | ၈၀ |
| ၄၁။ | ကမ္မညတာ | ၈၀ |
| ၄၂။ | ပါဂုညတာ | ၈၁ |
| ၄၃။ | ဥဇုကတာ | ၈၁ |
| ၄၄။ | ဥပကာရတရား ၂–ပါး | ၈၂ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၄၅။ | သမ္မဖဉ်တရား | ၈၂ |
| ၄၆။ | ဂေါစရသမ္ပဇဉ် | ၈၄ |
| ၄၇။ | အသမ္မောဟသမ္ပဇဉ် | ၈၄ |
| ၄၈။ | ယုဂနဒ္ဓတရား ၂-ပါး | ၈၅ |
| ၄၉။ | မှတ်သားဖွယ် | ၈၆ |
| ၅၀။ | ပဋိဂ္ဂါဟနဲ့အဝိက္ခေပ | ၈၈ |
| ၅၁။ | စောင်းဥပမာ | ၈၉ |
| ၅၂။ | ပတိပူဇိကာနတ်သမီးဝတ္ထု | ၉၃ |
| ၅၃။ | ခင်ပွန်းဟောင်းကို စွဲနေတယ် | ၉၅ |
| ၅၄။ | အိမ်ထောင်ပြုတော့လည်း ဒီလိုပဲ | ၉၆ |
| ၅၅။ | သူ့ဆုတောင်းပြည့်သွားတယ် | ၉၇ |
| ၅၆။ | အရိယာနတ်သားကြီးနဲ့ တူပါတယ် | ၉၈ |
| ၅၇။ | ဋီကာဖွင့်ပြတဲ့အတိုင်း မဖြစ်နိုင်ဘူး | ၉၉ |
| ၅၈။ | သူတို့ပါပုံက ဒီလိုပါတယ် | ၁၀၂ |
| ၅၉။ | ဒီလိုဥပမာပြထားတယ် | ၁၀၃ |
| ၆၀။ | ဗြဟ္မဝိဟာရတရား | ၁၀၄ |
| ၆၁။ | ဝိရတီ ၃-ပါး | ၁၀၅ |
| ၆၂။ | ရူပါဝစရကုသိုလ် ၅-ပါး | ၁၀၆ |
| ၆၃။ | ဈာန်အာရုံထဲမှာပဲ ရောက်နေတယ် | ၁၁၀ |
| ၆၄။ | ပြစ်မှားမိတတ်ကြတယ် | ၁၁၄ |
| ၆၅။ | ဗြဟ္မာပြည်ကိုရောက်နိုင်တယ် | ၁၁၆ |
| ၆၆။ | ဒီမှာအာရုံက ပထဝီကသိုဏ်း | ၁၁၇ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|


| | | |
|---|---|---|
| ၂၃။ | အလှူခံပုဂ္ဂိုလ်ချင်းက မတူခဲ့ကြဘူး | ၄၂ |
| ၂၄။ | ထူးကဲတဲ့တရား | ၄၃ |
| ၂၅။ | နိမ္မိတကိုယ်စား ဖန်းဆင်းထားခဲ့ရ | ၅၂ |
| ၂၆။ | အရှင်သာရိပုတ္တရာကို ဟောတဲ့တရား | ၅၃ |
| ၂၇။ | တပည့်ထူးတွေ | ၅၄ |
| ၂၈။ | ကုသိုလ်အထုံရှိခဲ့ကြသည် | ၅၅ |
| ၂၉။ | ဓမ္မုဒ္ဒေသဝါရတဲ့ | ၅၈ |
| ၃၀။ | ကောဋ္ဌာသဝါရစသည် | ၅၉ |
| ၃၁။ | ဈာနင်ငါးပါး | ၆၅ |
| ၃၂။ | ဣန္ဒြေတရားစု | ၆၇ |
| ၃၃။ | ရှင်နာဂသိန်က ချီးကျူးတယ် | ၆၉ |
| ၃၄။ | မဂ္ဂင်အစု | ၇၀ |
| ၃၅။ | ဗိုလ်အစု | ၇၂ |
| ၃၆။ | မူလတရားစု | ၇၃ |
| ၃၇။ | ကမ္မပထတရား | ၇၅ |
| ၃၈။ | ကာယပဿဒ္ဓိစသည် | ၇၈ |
| ၃၉။ | လဟုတာ | ၇၉ |
| ၄၀။ | မုဒုတာ | ၈၀ |
| ၄၁။ | ကမ္မညတာ | ၈၀ |
| ၄၂။ | ပါဂုညတာ | ၈၁ |
| ၄၃။ | ဥဇုကတာ | ၈၁ |
| ၄၄။ | ဥပကာရတရား ၂-ပါး | ၈၂ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |
| ၆၇။ | မလ္လကမထေရ်ကြီးဝတ္ထု | ၁၁၈ |
| ၆၈။ | ကသိုဏ်းဝန်းလုပ်ရတယ် | ၁၁၉ |
| ၆၉။ | ရှုတော့ ဒီလိုရှုရတယ် | ၁၂၁ |
| ၇၀။ | နောက်တော့ခွာလို့ရတယ် | ၁၂၂ |
| ၇၁။ | နိုင်နေတော့လွယ်ကူပါတယ် | ၁၂၄ |
| ၇၂။ | ပိုတယ်လို့ထင်ကြမယ် | ၁၂၆ |
| ၇၃။ | သူ့ထက်ကြီးကျယ်တဲ့တရားမရှိဘူး | ၁၂၇ |
| ၇၄။ | ဒုတိယဈာန်စိတ် | ၁၂၈ |
| ၇၅။ | တတိယဈာန် | ၁၃၀ |
| ၇၆။ | ဥဒယဗ္ဗယဉာဏ်အရင့်ပိုင်းရောက်မှ ရှင်းတယ် | ၁၃၀ |
| ၇၇။ | စတုတ္ထဈာန် | ၁၃၁ |
| ၇၈။ | ပဋိပဒါ ၄-မျိုး | ၁၃၃ |
| ၇၉။ | အဲဒီလိုပုဂ္ဂိုလ်ရှိသေးတယ် | ၁၃၆ |
| ၈၀။ | ဟဲ့ဆို ငြိမ်းသွားတဲ့ ကလေးလိုပဲတဲ့ | ၁၃၆ |
| ၈၁။ | သမထဈာန်မှာလည်း ဒီလိုပဲ | ၁၃၇ |
| ၈၂။ | တယ်တော်တဲ့ အရေးပိုင်ကတော် | ၁၃၉ |
| ၈၃။ | ဈာန်နဲ့ ဈာန်အာရုံ | ၁၄၂ |
| ၈၄။ | ဖြဟ္မဝိဟာရဈာန် | ၁၄၇ |
| ၈၅။ | တိုက်ရိုက်လာတဲ့ ကသိုဏ်းရှစ်ပါး | ၁၄၈ |
| ၈၆။ | အသုဘကမ္မဋ္ဌာန်း | ၁၅၃ |
| ၈၇။ | အင်မတန် ခြောက်သွေ့တဲ့တရား | ၁၅၄ |
| ၈၈။ | သိပ္ပံဆရာတွေမတွေ့တဲ့ တာဝတိံသာ | ၁၅၇ |

စဉ် အကြောင်းအရာ တမျက်နှာ


| | | |
|---|---|---|
| ၈၉။ | အရှုပါဝစရ | ၁၅၈ |
| ၉၀။ | အသညာသတ်ပြပုံ | ၁၆၁ |
| ၉၁။ | ရှုပ်ရောနှာမ်ရောရှိတဲ့ဘုံ | ၁၆၃ |
| ၉၂။ | အရှုပဘုံနှင့် အရှုပဈာန် | ၁၆၃ |
| ၉၃။ | မှောင်ရိပ်ထဲကလူ | ၁၆၄ |
| ၉၄။ | ပါဠိ အဋ္ဌကထာ ဋီကာတွေကို မကြိုက်လို့လား | ၁၆၆ |
| ၉၅။ | ရှုပသညာ စသည်ဖြစ်လာတယ် | ၁၆၈ |
| ၉၆။ | အင်မတန်သိမ်မွေ့တယ် | ၁၇၀ |
| ၉၇။ | ရှင်လန်းဝမ်းသာမှုတွေလည်း ငြိမ်းသွားတယ် | ၁၇၂ |
| ၉၈။ | တကယ်ဖြစ်တဲ့ တရားတွေ | ၁၇၃ |
| ၉၉။ | ဒီဈာန်နဲ့ အလားတူတယ် | ၁၇၄ |
| ၁၀၀။ | ဝိညာဏဉ္စာယတနဈာန် | ၁၇၆ |
| ၁၀၁။ | ကျန်အရှုပဈာန်နှစ်မျိုး | ၁၇၆ |
| ၁၀၂။ | အားထုတ်ရာမှာ အမျိုးမျိုး | ၁၇၇ |
| ၁၀၃။ | အမျိုးမျိုးဝေဖန်ဟောကြားတယ် | ၁၇၈ |
| ၁၀၄။ | လောကုတ္တရာဈာန် | ၁၇၉ |
| ၁၀၅။ | မလုပ်ကောင်းဘူးလို့ ပြောဟောနေကြတယ် | ၁၈၁ |
| ၁၀၆။ | မဂ်ဖိုလ်နိဗ္ဗာန် ရနိုင်တဲ့ဘဝ | ၁၈၂ |
| ၁၀၇။ | ဂုဏ်ချင်းတူပေမယ့် သတ္တိချင်းကျတော့ ထူးတယ် | ၁၈၃ |
| ၁၀၈။ | ဘုံအဆင့်လေးခု ဟောထားတယ် | ၁၈၄ |
| ၁၀၉။ | ဆုတောင်းလေ့ရှိကြတယ် | ၁၈၅ |
| ၁၁၀။ | စိတ်စင်ကြယ်ရမယ် | ၁၈၉ |

စဉ် အကြောင်းအရာ စာမျက်နှာ


၁၁၁။ တံပူသွားခုတ်ကြတဲ့ ရဟန်းနဲ့ကိုရင် ၁၉၀
၁၁၂။ ရဟန်းတော်လည်း အနာဂါမ်တည် ၁၉၁
၁၁၃။ ရှုနည်းကိုသိထားရင် ကောင်းတယ် ၁၉၂
၁၁၄။ ဖြစ်တိုင်းဖြစ်တိုင်းကို ရှုရတယ် ၁၉၄
၁၁၅။ မိစ္ဆာအယူတွေ မရှိတော့ဘူး ၁၉၇
၁၁၆။ နိုင်မြဲနေတယ် မမေ့ဘူး ၁၉၈
၁၁၇။ လမ်းရှင်းပေးရသေးတယ် ၂၀၀
၁၁၈။ ပါဝင်နေတဲ့တရားတွေ ၂၀၂
၁၁၉။ ဉာဏ်စဉ်အတိုင်း ဆက်ဖြစ်လာတယ် ၂၀၅
၁၂၀။ ကိလေသာကို ဒီလိုပယ်ရတဲ့ထုံးစံမရှိဘူး ၂၀၆
၁၂၁။ မနီးနှောဘဲ အလွတ်ပြောနေတာ ၂၀၇
၁၂၂။ ရဟန်းတော်တွေက ပိုခက်တယ် ၂၀၈
၁၂၃။ နိဝရဏ ကင်းတဲ့စိတ် ၂၀၉
၁၂၄။ ဘာဝနာဉာဏ်နဲ့မှ အစွဲကင်းတယ် ၂၁၁
၁၂၅။ မှတ်စရာနဲ့ မှတ်သိတာ နှစ်ခုစီပဲရှိတယ် ၂၁၂
၁၂၆။ ကျမ်းဂန်တွေမှာ ဒီလိုညွှန်ပြထားတယ် ၂၁၃
၁၂၇။ ကျောက်နီနဲ့ ကြိုးပမာ ၂၁၅
၁၂၈။ အရိယမဂ္ဂင် ၂၂၄
၁၂၉။ နိဗ္ဗာန်ဆိုတာ အပဝတ္တတဲ့ ၂၂၈
၁၃၀။ ပြောချင်တိုင်း ပြောလို့မရဘူး ၂၃၀
၁၃၁။ နည်းနှစ်ပါး ၂၃၁
၁၃၂။ အင်မတန်မှတ်သားလောက်တဲ့ တရားတွေ ၂၃၆

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၁၃၃။ | အကြောင်းနဲ့အကျိုးမျှပဲ | ၂၃၇ |
| ၁၃၄။ | စဉ်းစားစရာရှိတယ် | ၂၄၁ |
| ၁၃၅။ | စိတ်စွဲသညာစွဲတော့ ရှိသေးတယ် | ၂၄၂ |
| ၁၃၆။ | အတ္တဒိဋ္ဌိက ပေါက်ပွားလာတယ် | ၂၄၃ |
| ၁၃၇။ | နွားခွေးလို ကျင့်တဲ့အကျင့် | ၂၄၇ |
| ၁၃၈။ | ပုဏ္ဏနှင့် သေနိယတို့အကျင့် | ၂၄၈ |
| ၁၃၉။ | အကူအညီပေးကြရတယ် | ၂၅၄ |
| ၁၄၀။ | သာမာန်ပုဂ္ဂိုလ်တွေ ဟုတ်ပုံမရဘူး | ၂၅၅ |
| ၁၄၁။ | နည်းတွေက အများကြီး | ၂၅၇ |
| ၁၄၂။ | စိတ်ကလေးကတော့ တစ်ကြိမ်တည်းပါပဲ | ၂၆၂ |
| ၁၄၃။ | ကုသလာဓမ္မာအရ ပြည့်စုံသွားပြီ | ၂၆၃ |
| ၁၄၄။ | အကုသိုလ်ပိုင်း | ၂၆၄ |
| ၁၄၅။ | ဒိဋ္ဌိဂတသမ္ပယုတ် | ၂၇၇ |
| ၁၄၆။ | အဋ္ဌကထာအဖွင့် | ၂၇၉ |
| ၁၄၇။ | မပြောလို့မဖြစ်ဘူး | ၂၈၆ |
| ၁၄၈။ | ဟုတ်နိုးနိုးဖြစ်နိုင်တယ် | ၂၈၇ |
| ၁၄၉။ | စာပေသိနဲ့တော့ မဖြစ်သေးဘူး | ၂၈၉ |
| ၁၅၀။ | ၃-နံပါတ်စိတ်ကို ကြည့်ရမယ် | ၂၉၄ |
| ၁၅၁။ | ဒေါသမူစိတ် ၂-ပါး | ၂၉၇ |
| ၁၅၂။ | မောဟမူစိတ် ၂-ပါး | ၃၀၁ |
| ၁၅၃။ | ယုံမှားမှုတွေက ဖြစ်တတ်တယ် | ၃၀၅ |
| ၁၅၄။ | အပါယ်မကျနိုင်တော့ဘူး | ၃၀၇ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|


| | | |
|---|---|---|
| ၁၅၅။ | အထက်ထက်ဆင့်တွေ | ၃၀၇ |
| ၁၅၆။ | လယ်တီဆရာတော်ဘုရားကြီး၏ အဆုံးအဖြတ် | ၃၁၀ |
| ၁၅၇။ | အဗျာကတပိုင်း | ၃၁၄ |
| ၁၅၈။ | ဉာဏ်နှင့်ယှဉ်မယှဉ်ကုသိုလ် | ၃၁၈ |
| ၁၅၉။ | စက္ခုဝိညာဉ်က မြင်ရုံမျှပဲ | ၃၂၁ |
| ၁၆၀။ | အဆင်းကိုပဲ မြင်တယ် | ၃၂၁ |
| ၁၆၁။ | မြင်ဆဲခဏမှာ ဖြစ်တဲ့တရား | ၃၂၂ |
| ၁၆၂။ | စက္ခုဝိညာဉ်တစ်ခုသိလျှင် အားလုံးအတူတူ | ၃၂၅ |
| ၁၆၃။ | ရုပ်ကျတော့ ကလာပ်တဲ့ | ၃၂၆ |
| ၁၆၄။ | စိတ်စေတသိက်တွေမှာ အနည်းဆုံးရှစ်ပါး | ၃၂၆ |
| ၁၆၅။ | လက္ခဏာစသည်နှင့် သိရမယ် | ၃၂၇ |
| ၁၆၆။ | ယောဂီပုဂ္ဂိုလ်တွေမှာ သိတော့သိတယ် | ၃၃၁ |
| ၁၆၇။ | ဘဝသစ်ဖြစ်ရပြန်တယ် | ၃၃၆ |
| ၁၆၈။ | သိစိတ်ကလေးတွေကလည်း သူ့အာရုံနဲ့သူ | ၃၃၈ |
| ၁၆၉။ | ဖြစ်ရိုးဖြစ်စဉ်က ဒီအတိုင်းပဲ | ၃၄၅ |
| ၁၇၀။ | ကြားသိစိတ်စသည်လည်း မတူတူပဲ | ၃၄၆ |
| ၁၇၁။ | ဒီလိုဥပမာထားတယ် | ၃၄၇ |
| ၁၇၂။ | ရုပ်သက်နဲ့နာမ်သက် မတူဘူး | ၃၄၈ |
| ၁၇၃။ | စိတ်ဆိုတာ ရှိုင်းတယ် | ၃၄၉ |
| ၁၇၄။ | အင်မတန်လည်း လျင်မြန်တယ် | ၃၅၀ |
| ၁၇၅။ | အာရုံပြုတော့လည်း ပေါက်တက်ကရ | ၃၅၁ |
| ၁၇၆။ | ဆုံးမပေးရမယ် | ၃၅၁ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၁၇၇။ | ယဉ်ကျေးရင် ချမ်းသာတယ် | ၃၅၂ |
| ၁၇၈။ | စိတ်နဲ့အာရုံတွေ့တော့ ဒီလိုဖြစ်တယ် | ၃၅၃ |
| ၁၇၉။ | ဝီထိစိတ်တွေ | ၃၅၄ |
| ၁၈၀။ | အာရုံပြုတော့လည်း ဒီလိုပြုတယ် | ၃၅၅ |
| ၁၈၁။ | ဝိပဿနာရှုတော့ ဖြစ်ခိုက်မှာ ရှုရတယ် | ၃၅၈ |
| ၁၈၂။ | ကုသိုလ်၊ အကုသိုလ်လို့ မဆိုအပ်တဲ့တရား | ၃၆၃ |
| ၁၈၃။ | ဓမ္မိကဉပါသကာဝတ္ထု | ၃၆၈ |
| ၁၈၄။ | နတ်ရထားခြောက်စင်းဆိုက်လာတယ် | ၃၇၀ |
| ၁၈၅။ | မျက်မှောက်ကာလမှာလည်း ရှိတာပဲ | ၃၇၃ |
| ၁၈၆။ | ဖြစ်ရိုးဖြစ်စဉ် | ၃၇၄ |
| ၁၈၇။ | မြင်ကာမျှစသည် ဖြစ်ဖို့ပဲ | ၃၇၇ |
| ၁၈၈။ | ဝီထိစိတ်ဖြစ် သိပုံ | ၃၇၉ |
| ၁၈၉။ | နှစ်မျိုးစလုံး ဖြစ်တာချည်းပဲ | ၃၈၃ |
| ၁၉၀။ | ပဋိစ္စသမုပ္ပါဒ်ဆိုဒါ | ၃၈၄ |
| ၁၉၁။ | ရှုမှတ်လို့သိမှ ကိုယ်ပိုင်သိ | ၃၈၆ |
| ၁၉၂။ | ကြံသိမှုဖြစ်ပုံ | ၃၉၃ |
| ၁၉၃။ | အာရုံနှင့်ဝိပါက် | ၃၉၅ |
| ၁၉၄။ | တိတိကျကျပောနေရင် မပြီးနိုင် | ၃၉၇ |
| ၁၉၅။ | ဝီထိစိတ်ဖြစ်ပုံ | ၃၉၉ |
| ၁၉၆။ | ဉာဏ်နှင့် ယှဉ်၊ မယှဉ်အကျိုးများ | ၄၀၈ |
| ၁၉၇။ | ပဋိသန္ဓေ ဘဝင်စုတိစိတ်ဖြစ်ပုံ | ၄၁၃ |
| ၁၉၈။ | ဝိပဿနာကို ရှုမှတ်ရတယ် | ၄၁၇ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၁၉၉။ | ကြိယာအဗျာကတတရား | ၄၂၂ |
| ၂၀၀။ | လေပန်းနဲ့တူတယ် | ၄၂၄ |
| ၂၀၁။ | အတူတကွ ဖြစ်တဲ့တရားတွေ | ၄၂၄ |
| ၂၀၂။ | ကြိယာမနောဝိညာဏဓာတ် | ၄၂၅ |
| ၂၀၃။ | ကြိယာမနောဝိညာဏဓာတ် ဟသိတုပ္ပါဒ | ၄၂၇ |
| ၂၀၄။ | ဃဋိကာရသုတ် | ၄၂၉ |
| ၂၀၅။ | ဃဋိကာရနှင့် ဇောတိပါလ | ၄၂၉ |
| ၂၀၆။ | ဆံပင်ကိုတောင် ကိုင်ချင်ရင် ကိုင်မယ့်လူ | ၄၃၀ |
| ၂၀၇။ | ကေန်ဘုရားဖြစ်မည့်ပုဂ္ဂိုလ် | ၄၃၂ |
| ၂၀၈။ | လျှော့ကျင့်ဖို့မလိုပါဘူး | ၄၃၃ |
| ၂၀၉။ | ဂဝေသီဥပါသကာတုန်းကလည်း ဒီလိုပါပဲ | ၄၃၄ |
| ၂၁၀။ | အရှင်မဟာမောဂ္ဂလာန် ပြုံးတော်မူစဉ်က | ၄၃၅ |
| ၂၁၁။ | အားပေးရာရောက်တယ် | ၄၃၇ |
| ၂၁၂။ | သဟိတ်ကာမာဝစရကြိယာ | ၄၄၀ |
| ၂၁၃။ | ရဟန္တာတို့မှာသာ ဖြစ်တဲ့စိတ် | ၄၄၂ |
| ၂၁၄။ | တချို့က သရုပ်ခွဲပြီးတော့ အရှုခိုင်းတယ် | ၄၄၂ |
| ၂၁၅။ | စာသင်တုန်းကလို မှန်းပြီးတော့ သိတာမျိုးမဟုတ်ဘူး | ၄၄၅ |
| ၂၁၆။ | စာလေးတစ်စောင်က မြင်းမိုရ်တောင် မရှိဘူးတဲ့ | ၄၄၆ |
| ၂၁၇။ | အကျိုးမရဘဲ ဆုံးရှုံးနေတယ် | ၄၄၇ |
| ၂၁၈။ | သဘောမပေါက်ကြဘူး | ၄၄၈ |
| ၂၁၉။ | ရှုပ အရှုပကြိယာ | ၄၄၉ |
| ၂၂၀။ | ကလာပသမ္မသနနည်းနဲ့ ရှုရတယ် | ၄၅၂ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|
| ၂၂၁။ | အလွဲတွေ မသိရအောင်လို့ ဝိပဿနာရှုရတာ | ၄၅၆ |
| ၂၂၂။ | ဆရာတော်ကြီးတစ်ပါးက ဒီလိုဆိုတယ် | ၄၅၉ |
| ၂၂၃။ | ဝိဘင်းကျမ်းမှ ခန္ဓာငါးပါး | ၄၆၆ |
| ၂၂၄။ | ရူပက္ခန္ဓာ ရုပ်အစု | ၄၆၈ |
| ၂၂၅။ | မဟာဘုတ်ကို မှီဖြစ်တဲ့ ဉပါဒါရုပ် | ၄၇၄ |
| ၂၂၆။ | အာပေါဓါတ်ကို ရှုမှတ်နည်း | ၄၈၀ |
| ၂၂၇။ | ဘာဝရုပ်စသည်ကို ရှုမှတ်နည်း | ၄၈၁ |
| ၂၂၈။ | ထင်းရှားတဲ့ရုပ်ကို ရှုရတယ် | ၄၈၇ |
| ၂၂၉။ | အနည်းဆုံးရုပ်ရှစ်ခု ပေါင်းဖြစ်တယ် | ၄၈၇ |
| ၂၃၀။ | ပဋိသန္ဓေအခါစဖြစ်တဲ့ ကလာပ်ရုပ် | ၄၉၄ |
| ၂၃၁။ | သံသေဒဇနဲ့ ဩပပါတ်ပုဂ္ဂိုလ်တို့ ပဋိသန္ဓေကာလ | ၄၉၆ |
| ၂၃၂။ | ရုပ်ကို ကာလစသည်ဖြင့် ခွဲခြင်း | ၄၉၈ |
| ၂၃၃။ | ကာမာဝစရကုသိုလ် ဝေဖန်ပုံ အကျဉ်းချုပ် | ၅၀၀ |
| ၂၃၄။ | ရူပကုသိုလ်နှင့် အရူပကုသိုလ်ဝေဖန်ပုံ | ၅၀၁ |
| ၂၃၅။ | လောကုတ္တရာကုသိုလ်ဝေဖန်ပုံ | ၅၀၂ |
| ၁၃၆။ | ပဋိပဒါနှင့် အဘိညာ ခွဲခြားချက် | ၅၀၃ |
| ၂၃၇။ | ဝိသုဒ္ဓိနှင့် ဉာဏ်ဖြစ်ပုံ | ၅၀၃ |
| ၂၃၈။ | အကုသိုလ်ဝေဖန်ပုံ အကျဉ်းချုပ် | ၅၀၄ |
| ၂၃၉။ | ဝိပါက်အဗျာကတအကျိုးတရား ဝေဖန်ပုံ | ၅၀၆ |
| ၂၄၀။ | မြင်စိတ်နှင့်တကွ ဝိထိစိတ်စဉ်ဖြစ်ပုံ | ၅၀၆ |
| ၂၄၁။ | သာမန်လူမျိုးတို့ မြင်ရာ၌ စိတ်ဖြစ်ပုံ | ၅၀၇ |
| ၂၄၂။ | ရှုမှတ်သူတို့ မြင်ရာ၌ စိတ်ဖြစ်ပုံ | ၅၀၇ |

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|


| | | |
|---|---|---|
| ၂၄၃။ | မြင်သိမှုစသည်တို့၏ အကြောင်းများ | ၅၀၈ |
| ၂၄၄။ | ကြိယာဇျာကတဖြစ်ပုံတရားဝေဖန်ပုံ | ၅၀၉ |
| ၂၄၅။ | ကုသိုလ်အကုသိုလ်အဇျာကတစာရင်းပေါင်းချုပ် | ၅၁၀ |
| ၂၄၆။ | ဗုဒ္ဓဝါတော်စဉ်တရားတော် | ၅၁၁ |
| ၂၄၇။ | ကာမာဝစရကုသိုလ် | ၅၁၂ |
| ၂၄၈။ | မဂ်စိတ်၌ ဝေဖန်ချက်အကျဉ်း | ၅၁၃ |
| ၂၄၉။ | ပဋိပဒါ အဘိညာဉ်ခွဲခြားချက် | ၅၁၄ |
| ၂၅၀။ | ဝိသုဒ္ဓိနှင့် ဉာဏ်ဖြစ်ပုံအကျဉ်းချုပ် | ၅၁၄ |
| ၂၅၁။ | အကုသိုလ်ဝေဖန်ပုံ အကျဉ်းချုပ် | ၅၁၅ |

# နိဒါန်း

## မတူညီသော ဘုံနှင့်ဘဝ

မိမိတို့ လက်ရှိဘုံဘဝမှ လှမ်းကြည့်လျှင် အခြားဌာနများမှာလည်း ဘုံတွေ ဘဝတွေ ရှိလေသေးသည်ကို သိနေကြရသည်။ အောက်ဘက်၌ အပါယ်ဘုံဘဝ၊ အထက်ဘက်၌ နတ်ပြည်ခြောက်ထပ်နှင့် ဗြဟ္မာနှစ်ဆယ်တို့ ဖြစ်လေသည်။ အထက်အောက်အနေနှင့် ကြည့်လိုက်မည်ဆိုလျှင် ဤလူတို့ဘုံသည် အလယ်ဆင့်ဟူ၍ပင်မဆိုနိုင်ဘဲ အောက်သို့ပင် အတော်ရောက်နေသည်။ သုဂတိဘုံအချင်းချင်းအားဖြင့်ဆိုပါမူ အောက်ဆုံးအဆင့်တွင် ဖြစ်နေသည်။ လူတို့ဘုံ၏အောက်တွင် အပါယ်လေးဘုံသာလျှင် ရှိလေတော့သည်။

အနိမ့်ဘက်တွင် နီးကပ်နေပါသော်လည်း လူတို့ဘုံ၊ လူတို့ဘဝကိုကား လူတို့က အထင်ကြီးလျက်ပင် ရှိနေကြသည်။ "ငါတို့ဘုံက လောကတွင် အမြတ်ဆုံး ဘုရားပွင့်တော်မူရတဲ့ဘုံ"ဟု ရသေ့စိတ်ဖြေ နှစ်သိမ့်နေကြရပြီး မာနမှာမူ ဘုရားရှင်ကို ရှေ့မှထားကာ အကာအကွယ်ယူလျက် နတ်ပြည် ခြောက်ထပ် ဗြဟ္မာနှစ်ဆယ်၏ အထက်သို့ရောက်အောင် မြင့်မောက်နေခဲ့ကြသည်။ သို့သော် အဘယ်မျှပင်အထင်ကြီးပြီး စိတ်က ဘယ်လောက်ပင် မြင့်မောက်နေစေကာမူ ဤလူတို့ဘုံကတော့ အနိမ့်မှာသာလျှင် ရှိနေလေသည်။

## လူ့ခန္ဓာနှင့် နတ်ခန္ဓာ

လူတို့၏ခန္ဓာကိုယ်မှာ နတ်ဩဇာကိုစားပြီး ကြီးထွားနေကြရသည် မဟုတ်၊ ကြမ်းတမ်းလှသည့် ထမင်းအစာအာဟာရကို စားသောက်ပြီး ကြီးထွား နေကြရသော ခန္ဓာကိုယ်တို့သာဖြစ်လေသည်။ ထို့ကြောင့် လူတို့ခန္ဓာကိုယ် သည် နတ်တို့ခန္ဓာကိုယ်နှင့် နှိုင်းစာလိုက်လျှင် နတ်ဩဇာကို စားသောက်နေကြ ရသော နတ်တို့ခန္ဓာကိုယ်လောက် သွက်လက်ပေါ့ပါးခြင်းမရှိပေ။ လူတို့ခန္ဓာ ကိုယ်က ထိုင်းလည်း ထိုင်းမှိုင်းသည်၊ လေးလည်း လေးတွဲသည်။

နတ်တို့သည် သူတို့ခန္ဓာကိုယ်ကို ပေါ့ပေါ့ပါးပါး သယ်ဆောင်၍ ကောင်းကင်တွင် လိုရာခရီးကို သွားလာနိုင်ကြသည်။ လူတို့ခန္ဓာကိုယ်မှာမူ စက်စသည်အကူအညီမပါဘဲဆိုလျှင် တစ်ထောင်ခန့်မြင့်သော အမြင့်ကိုပင် မနည်းအားခဲပြီး လွတ်အောင်ခုန်ကြရသည်။ ကျန်းမာရေးမှာလည်း မခိုင်ခံ့လှ၊ မကြာခဏ ပြုပြင်ပေးနေကြရသည်။ ဆေးရုံများတွင် လူနာတွေ ထားစရာ နေရာမလောက်သဖြင့် အပိုဆေးခန်းတွေ အမြောက်အများ ဖွင့်ပေးထား ကြရသည်။ အစိုးရဆေးရုံမဟုတ်သော ပုဂ္ဂလိက အိမ်ဆေးခန်းများမှာ ဆေးရုံကြီးတွင် နေရာမလောက်၍ ဖွင့်ထားသောဆေးခန်းများဟု ဆိုနိုင်သည်။ အထက်နတ်ပြည်တို့၌မူ နတ်လူနာရှိသည်ဟူ၍လည်း မကြားဖူး၊ နတ်ဆေးရုံ ရှိသည်ဟူ၍လည်း မကြားဖူးပေ။

နတ်ပြည်ရှိနတ်တို့မှာ ကံကိုသာမှီ၍ အသက်မွေးကြရသော (ကမ္မူပဇီဝိ) ပုဂ္ဂိုလ်တို့သာဖြစ်သောကြောင့် ရှေးကပြုခဲ့သောကံ၏ အထောက်အပံ့ဖြင့် စားစရာဆိုလည်း နတ်ဩဇာအသင့်, ဝတ်ရုံစရာဆိုလည်း နတ်ဝတ်တန်ဆာ အသင့်, နေစရာဆိုလည်း နတ်ဗိမာန်အသင့် ကံကထောက်ပံ့ပေးထားသည်။

လူတို့မှာမူ ထိုသို့မဟုတ်၊ လုံ့လဝီရိယကိုမှီ၍ အသက်မွေးကြ ရသော (ဝီရိယူပဇီဝိ) ပုဂ္ဂိုလ်တို့သာဖြစ်သောကြောင့် စားသောက်ရန် အစားအသောက် ကိုလည်း ကိုယ်တိုင်ချက်ပြုတ်စားသောက်ကြရသည်၊ ဝတ်ရန် အဝတ်ဆိုလည်း ကိုယ်တိုင်အားထုတ်ယက်လုပ်ပြီး ဝတ်ရုံကြရသည်။ နေထိုင်ရန်အိမ်ဆိုလျှင် လည်း ကိုယ်တိုင်ဆောက်လုပ်ပြီး နေကြ,ထိုင်ကြရသည်။ အားသေးလှသော လူတို့၏ကံကို ဝီရိယဖြင့် ကူပံ့ပေးနေကြရသည်။

ဉာဏ်ပညာရှေ့သွားမရှိသော ဝီရိယဆိုလျှင် လူ့ဘဝအတွက် မပြည့် စုံသေးပေ၊ ဝီရိယကိုအမှီပြုနေရသော လူ့ဘဝသည် ဉာဏ်ပညာက ရှေ့ဆောင် ညွှန်ကြားပေးမှသာ သင့်တင့်ရုံရှိသည်။ ဤကဲ့သို့ အဘက်ဘက်မှ ထောက်ကူ ပေးလျက်လည်း နတ်တို့ဘဝကို မမှီသေးပေ။ နတ်တို့ဘုံဘဝက များစွာ သာလျက်ပင် ရှိသေးသည်။ လောကီလူတို့အနေနှင့် နေချင်စဖွယ်ကောင်း

လှသော နတ်တို့၏ ဘုံဘဝပေတည်း။

လေ, မိုး, စသောရာသီဥတုတို့ကလည်း ဤလူတို့ပြည်လိုမဟုတ်ဘဲ နတ်ပြည်တွင် သာယာငြိမ်သက်လှပေသည်၊ နတ်တို့ပြည်၌ မည်သည့်နှစ်, မည်သည့်လက လေမုန်တိုင်းတိုက်သွား၍ နတ်ဗိမာန်တွေ ဘယ်ရွေ့ဘယ်မျှ ပျက်စီးသွားသည်ဟူလည်းကောင်း၊ မိုးရေတွေကြီး၍ နတ်ဗိမာန်တွေ မည်ရွေ့ မည်မျှ ရေတွင်မျောပါကုန်သည်ဟူ၍လည်းကောင်း မကြားမသိရဘူးသဖြင့် လူတို့ပြည်ကဲ့သို့ ဇရုတ်သုတ်ခ မရှိပေ။

## အသက်တန်းကလည်း ကွာ

သက်တမ်းအားဖြင့်လည်း မျက်မှောက်ခေတ် လူတို့သက်တမ်းနှင့် နှိုင်းစာလိုက်လျှင် နတ်တို့သက်တမ်းက မြင့်မားလှသည်။ နတ်ပြည်ခြောက်ထပ်တွင် အောက်ဆုံးဖြစ်သော စာတုမဟာရာဇ်နတ်တို့၏ သက်တမ်းသည်ပင် လူတို့သက်တမ်းနှင့် များစွာကွာခြားနေပေသည်။ စာတုမဟာရာဇ်နတ်တို့ သက်တမ်းသည် သူတို့အရေအတွက်ဖြင့် နှစ်ပေါင်း (၅၀၀)သည် လူတို့အရေအတွက်ဖြင့်ဆိုပါက နှစ်ပေါင်း ၉,၀၀၀,၀၀၀ (ကိုးသန်း) အသက်ရှည်သည်ဟု နှိုင်းယှဉ်ဖော်ပြထားသည်။ သူအထက်က တာဝတိံသာနတ်တို့၏ နတ်သက်မှာမူ သူတို့အရေအတွက်အားဖြင့် နှစ်ပေါင်း ၁၀၀၀(တစ်ထောင်)၊ လူတို့အရေအတွက်အားဖြင့် နှစ်ပေါင်း ၃၆,၀၀၀,၀၀၀ (သုံးဆယ့်ခြောက်သန်း) အသက်ရှည်သည်။

တာဝတိံသာနတ်တို့ပြည်တွင် နတ်တို့အရေအတွက်အားဖြင့် နှစ်ပေါင်း ၁,၀၀၀ တစ်ထောင်ဆိုပါက လပေါင်း ၁၂,၀၀၀ တစ်သောင်းနှစ်ထောင်၊ ရက်ပေါင်း ၃၆၀,၀၀၀ သုံးသိန်းခြောက်သောင်း၊ လူတို့အရေအတွက်အားဖြင့် (နှစ်ပေါင်းကိုဆိုခဲ့ပြီ) လပေါင်း ၁,၀၈၀,၀၀၀,၀၀၀ သန်းတစ်ထောင့်ရှစ်ဆယ်၊ ရက်အားဖြင့်ဆိုပါမူ ၁၅,၆၀၀,၀၀၀,၀၀၀–ကုဋေတစ်ထောင့်ငါးရာခြောက်ဆယ် ဖြစ်လေသည်။

## လူတို့ပြည်တွင် အဘိဓမ္မာတရားကို မဟော

မြတ်စွာဘုရားဟောကြားသော ဒေသနာတော်တို့မှာ သုတ်, အဘိဓမ္မာ, ဝိနည်းဟူ၍ သုံးမျိုးခွဲခြားထားရာတွင် အခြားဒေသနာတော်များကို ဤလူတို့ပြည်၌ ဟောကြားတော်မူခဲ့ပါသော်လည်း အဘိဓမ္မာဒေသနာတော်ကိုမူ ဤလူတို့ပြည်၌ ဟောကြားတော်မမူပေ။ ဝါတွင်းသုံးလပတ်လုံး (ရက်ပေါင်းကိုးဆယ်ခန့်) ဟောကြားရမည့် ဤအဘိဓမ္မာဒေသနာတော်ကြီးကို ဤလူတို့ပြည်တွင် ဟောကြားရန် မလျော်ဘဲဖြစ်နေသည်။ မြတ်စွာဘုရားက ဟောကြားနိုင်သည်ဆိုဦးတော့ နာကြားကြရမည်ဖြစ်သော လူပရိသတ်တို့တွင် နာကြားနိုင်ရာသော ပုဂ္ဂိုလ်ရှိယာပုထ်ကား မရှိပေ။

နေ့ရောညဉ့်ပါမပြတ် သုံးလတာကာလပတ်လုံး နာကြားဖို့မဆိုထားနှင့် လူတို့အနေဖြင့်မူ သုံးရက်ပင် မထတန်း နာကြားနိုင်ကြမည်မဟုတ်။ ယခုမျက်မှောက် ဓမ္မကထိကတို့ သုံးနာရီခန့်ဟောကြားလျှင်ပင် တချို့တရားနာပရိသတ်တို့မှာ ငိုက်သူငိုက်, ထပြန်သူပြန် ဖြစ်ကုန်ကြသည်။ ထို့ကြောင့် နတ်တို့ပြည်၌ နာရှိပိုင်းမျှသာကြာမည်ဖြစ်သော တာဝတိံသာနတ်တို့ဌာနကိုလည်းကောင်း, ဤမျှသောအချိန်ကာလ၌ ငြီးငွေ့ဖွယ်မရှိဘဲ နာကြားနိုင်သော နတ်၊ ဗြဟ္မာပရိသတ်ကိုလည်းကောင်း ရွေးချယ်တော်မူပြီးလျှင် ဤအဘိဓမ္မာဒေသနာတော်ကြီးကို တာဝတိံသာနတ်ပြည်၌ ဟောကြားတော်မူလေသည်။

## ပဏ္ဍုကမ္ဗလာကျောက်နေရာနှင့် မြတ်စွာဘုရား

ကဏ္ဍာအမည်ရှိသော ဥယျာဉ်စောင့်စိုက်ပျိုးအပ်သော သရက်ဖြူပင်၏ အနီး ယမိုက်ပြာဋိဟာကို ပြတော်မူပြီးသည်၏အဆုံး၌ အဘိဓမ္မာဒေသနာတော်ကို ဟောကြားတော်မူရန် မြတ်စွာဘုရားသည် တာဝတိံသာနတ်ပြည်သို့ ကြွတော်မူသည်။ အချိန်ကာလမှာ ဝါဆိုလပြည့်နေ့ဖြစ်လေသည်။ တာဝတိံသာ

နတ်ပြည်သို့ ကြွတော်မူလာသော မြတ်စွာဘုရားကို သိကြားမင်းကမြင်ရာ၌ သိကြားမင်းမှာ အကြံဖြစ်ခဲ့သည်။

"မြတ်စွာဘုရားသည် ဤတာဝတိံသာနတ်ပြည် ပဏ္ဍုကမ္ဗလာ ကျောက်ဖျာထက်၌ ဝါကပ်တော်မူကောင်း မူပေလိမ့်မည်၊ ဤပဏ္ဍု ကမ္ဗလာ ကျောက်ဖျာမှာ အလျားယူဇနာ ခြောက်ဆယ်၊ အနံယူဇနာ ငါးဆယ်ကျယ်ပြန့်သည်။ အမြင့်ယူဇနာသည်လည်း တစ်ဆယ့်ငါး ယူဇနာရှိနေသည်။ အင်မတန်ကြီးမားလှသော ဤကျောက်ဖျာထက် တွင် သီးတင်းသုံးတော်မူရာ၌ ဗန်းကြီးအလယ်တွင် ငှက်ငယ်လေးနား နေသကဲ့သို့ ရှိပေလိမ့်မည်။ အသုံးဝင်သောနေရာမှာ အနည်းငယ် သာဖြစ်ပြီး အသုံးမဝင်သော နေရာလပ်တွေ အချည်းနှီး ပိုနေလိမ့် မည်။ ပိုနေသောနေရာတွင် ဘယ်နတ်, ဘယ်ဗြဟ္မာမှ တက်နေဖို့ မဆိုထားနှင့် လက်သော်မှ တင်ထားနိုင်စွမ်း ရှိကြမည်မဟုတ်"ဟူ၍-

အကြံဖြစ်ခဲ့သည်။ ဝါတွင်းသုံးလပတ်လုံး မြတ်စွာဘုရားသီတင်းသုံးတော်မူလျှင် ပိုနေမည်ဖြစ်သောနေရာအတွက် အသုံးမဝင် အချည်းအနှီးဖြစ်နေမည်ကို အလိုမကျဘဲဖြစ်နေသော သိကြားမင်း၏အကြံကို မြတ်စွာဘုရားသိတော်မူရာ၌ မြတ်စွာဘုရားသည် ထိုင်တော်မူရန် သင်္ကန်းကြီးကို ကျောက်ဖျာတစ်ခုလုံး ဖုံးမိအောင် ခင်းတော်မူသည်။ ထိုအခင်းပေါ်တွင် ထိုင်တော်မူရာ၌လည်း နေရာလပ်မရှိ အပြည့်ပင် ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူလေသည်။ ထိုအခါ သိကြားမင်းသည် မြတ်စွာဘုရား၏ ဂုဏ်တော် တန်ခိုးတော်ကို မသိရာရောက် နေသော မိမိအကြံများအတွက် စိတ်မကောင်းဖြစ်မိသွားသည်။ ဤတွင် မြတ်စွာ ဘုရား၏ ဂုဏ်တော်, ကျေးဇူးတော်တို့ကို ဆင်ခြင်လျက် သိကြားမင်းသည် မြတ်စွာဘုရားအား ရှိသေမြတ်နိုး ရှိခိုးလေတော့သည်။

## စုရုံးရောက်လာကြသည့် နတ်ဗြဟ္မာတွေ

ပဏ္ဍုကမ္ဗလာ ကျောက်ဖျာထက်၌ သပ်သပ်ရပ်ရပ် တင့်တယ်စွာ ထိုင်နေတော်မူသော မြတ်စွာဘုရား၏ထံမှောက်သို့ ဇာတိခေတ်အနံ့ စကြာဝဠာ ပေါင်းတိုက်တစ်သောင်းရှိ နတ်၊ ဗြဟ္မာတို့သည် ဆည်းကပ်ဝိုင်းရံ ကြက်ပျံမကျ ရောက်လာကြတော့သည်။ သပ်သပ်ပယ်ပယ်နှင့် တင့်တယ်စွာ ထိုင်နေသော မြတ်စွာဘုရားကိုလည်း ဖူးမြော်လိုကြသည်။ ဟောကြားမည့်တရားတော်ကို လည်း နာကြားလိုသည်။

ကြီးကျယ်လှသော ထိုနတ်၊ ဗြဟ္မာတို့ ပရိသတ်ကြီးအတွင်းဝယ် လူဆို၍ တစ်စုံတစ်ယောက်မျှ ရောနှောပါဝင်ခြင်းမရှိပေ။ နတ်၊ ဗြဟ္မာတို့ ချည်းသာ ဖြစ်လေသည်။ ဝါတွင်းသုံးလပတ်လုံး အကျယ်ဟောကြားတော်မူ မည့် အဘိဓမ္မာဒေသနာတော်ကို အပြီးအဆုံးရောက်သည်အထိ နာကြားကြမည့် တရားနာပရိသတ်ကြီးဖြစ်လေသည်။ အဘိဓမ္မာဒေသနာတော်ကို နာကြားနိုင် ရန် နတ်ပြည်၊ ဗြဟ္မာပြည်တို့မှာ စောင့်မျှော်နေခဲ့ကြရာ ယခုသော် သူတို့၏ စောင့် မျှော်ခဲ့ရမှုမှာ ပြည့်စုံတော့မည့် အခါကာလသို့ ရောက်နေလေပြီဖြစ် သည်။ ထို့ကြောင့် ဤတရားပွဲကို လက်လွှတ်မခံဘဲ စုရုံးရောက်ရှိနေကြ ခြင်းလည်း ဖြစ်လေသည်။

## အစဉ်မပြတ် အသံမစဲ ဟောကြားတော်မူသည်

"ကုသလာ ဓမ္မာ၊ အကုသလာ ဓမ္မာ၊ အဗျာကတာ ဓမ္မာ" အစရှိ သော ဤအဘိဓမ္မာဒေသနာတော်မြတ်ကို မြတ်စွာဘုရားသည် နာကြားရန် စောင့်မျှော်လျက်ရှိကြသော နတ်၊ ဗြဟ္မာ တရားနာပရိသတ်တို့အား အစဉ်မပြတ် စီးဆင်းနေသော မြစ်ရေအလျဉ်ကဲ့သို့ ဝါတွင်းသုံးလပတ်လုံး အသံမစဲ မရပ် မနားဘဲ အကျယ်အားဖြင့် ဟောကြားတော်မူလေတော့သည်။ မြောက်ကျွန်းသို့ ဆွမ်းခံကြွချိန်၊ ဆွမ်းစားချိန်၊ နေ့သန့်စင်ရာ အချိန်တို့၌မူ ကိုယ်တော်မြတ်နှင့် တူစွာ နိမ္မိတတစ်ဆူ ဖန်ဆင်းတော်မူ၍ ဆက်လက်ပြီး ဟောရစ်စေတော်

မူပါသည်။

မြတ်စွာဘုရားသည် ဆွမ်းခံကြွတော်ချိန်တွင် မြောက်ကျွန်းသို့ ဆွမ်းခံကြွတော်မူပြီးလျှင် ဆွမ်းဘုဉ်းပေးရာအခါ၌ အနောတတ်အိုင်အနီးတွင် ဆွမ်းဘုဉ်းပေးတော်မူပြီးနောက် စန္ဒကူးတော၌ နေ့သန့်စင်တော်မူလေသည်။ ထိုအခါ အရှင်သာရိပုတ္တရာမထေရ်သည် မြတ်စွာဘုရား နေ့သန့်စင်တော်မူရာ စန္ဒကူးတောသို့ ကြွတော်ပြီးလျှင် မြတ်စွာဘုရား၏ ဝတ်ကြီးဝတ်ငယ်ကို ပြုတော်မူခဲ့သည်။ ပြုဖွယ်ရှိသော ဝတ်ကြီးဝတ်ငယ်တို့ကို ပြုတော်မူပြီးနောက် အရှင်သာရိပုတ္တရာ မထေရ်မြတ်သည် မြတ်စွာဘုရားထံမှောက်တွင် သင့်တင့်လျောက်ပတ်ရာနေရာ၌ ထိုင်နေတော်မူပေသည်။

ထိုအခါ မြတ်စွာဘုရားသည် အရှင်သာရိပုတ္တရာ မထေရ်မြတ်အား "ချစ်သား သာရိပုတ္တရာ၊ ငါဘုရားသည် ဤမျှသောတရားကို ဤသို့သော အခြင်းအရာအားဖြင့် ဟောကြားအပ်ခဲ့ပြီ"ဟု နည်းပေးညွှန်ကြားပြတော်မူလျက် အဘိဓမ္မာဒေနာတော်ကို အကျဉ်းချုပ်အားဖြင့် ဟောကြားတော်မူပေသည်။ အကျဉ်းချုပ်အားဖြင့် ဤမျှဟောကြားလိုက်သည်ဆိုလျှင် ပညာအရာတွင် ဧတဒဂ်ရဖြစ်တော်မူသော တရားစစ်သူကြီးဖြစ်သော အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီး၏ အသိဉာဏ်တွင် ကမ်းခြေမှရပ်၍ မဟာသမုဒ္ဒရာအပြင်ကို လက်ညှိုးဖြင့် ညွှန်ပြလိုက်ရာ၌ သမုဒ္ဒရာတစ်ပြင်လုံးကို မြင်ရသကဲ့သို့ အဘိဓမ္မာဒေသနာတော်ကြီး၏ နည်းအလုံးစုံ အကုန်သိလေတော့သည်။

မြတ်စွာဘုရားဟောကြား ညွှန်ပြလိုက်သော အကျဉ်းနည်းကို အကျယ်အားဖြင့် သိရှိတော်မူပြီးနောက် အရှင်သာရိပုတ္တရာမထေရ်မြတ်သည် သူ့တပည့် ရဟန်းငါးရာတို့ကို ပို့ချရာ၌ ဤအဘိဓမ္မာဒေသနာတော်ကို အကျဉ်းအကျယ် အလယ်အလတ်ဖြစ်သောနည်းဖြင့် ပို့ချသင်ကြားပေးတော်မူလေသည်။

## မျက်မှောက်ကာလ၌ ပို့ချသင်ယူနေကြသောနည်း

သာသနာတော်တရပ်လုံး ယခုမျက်မှောက်ကာလ၌ ပို့ချသင်ယူနေကြ

ရသော အဘိဓမ္မာဒေသနာတော်များမှာ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးက သူ့တပည့် ရဟန်းငါးရာတို့အား ပို့ချသင်ကြားပေးခဲ့သော နည်းအတိုင်းပင် သင်ကြားပို့ချပေးနေကြခြင်းဖြစ်သည်။ တာဝတိံသာနတ်ပြည်၌ နတ်, ဗြဟ္မာတို့အား ဝါတွင်းသုံးလပတ်လုံး ဟောကြားခဲ့သောနည်းမှာ ကျယ်လွန်းလှသဖြင့် သင်ကြားပို့ချရန် စွမ်းနိုင်ကြမည် မဟုတ်ပေ။ အရှင်သာရိပုတ္တရာအား ဟောကြားသော မြတ်စွာဘုရား၏နည်းမှာလည်း အင်မတန်ကျဉ်းလွန်းနေသဖြင့် လူတို့အသိဉာဏ်တွင် သက်ဝင်နိုင်မည်မဟုတ်။ ထို့ကြောင့် အဆိုပါကျယ်လွန်း, ကျဉ်းလွန်းသော ဤနည်းများကို သင်ကြားပို့ချခြင်းမပြုကြဘဲ မကျဉ်းလွန်း အကျယ်လွန်းသော အရှင်သာရိပုတ္တရာ၏ သင်ကြားပို့ချနည်းကိုသာ ယူ၍ သင်ကြားပို့ချပေးလျက်ရှိကြသည်။

## လျှောက်ထားတောင်းပန်ခဲ့ဖူးသည်

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး သီးခြားဟောကြားသော အဘိဓမ္မာတရားကို မနာမကြားရဖူးသေးသဖြင့် နာကြားလိုသော ဆန္ဒဖြစ်ပေါ်လာသည်။ ဆရာတော်ဘုရားကြီးမှာ တိကျပြီးဖြစ်သည့်အတိုင်း ပရိယတ်, ပဋိပတ် သာသနာနှစ်ရပ်တွင် ပဋိပတ်ကို ပို၍အားသန်တော်မူခဲ့သည်။ ထို့ကြောင့် ဟောကြားတော်မူရာတွင် ပဋိပတ်နှင့်လျော်သော သုတ္တန်တရားတော်ကြီးများကိုသာ အဟောအပြောများခဲ့သည်။ အဘိဓမ္မာတရားတော်ကိုကား အဟောအပြောနည်းလှသည်။ မိမိအတွက်ပြောရလျှင် ဆရာတော်ဘုရားကြီး ဟောကြားသော အဘိဓမ္မာတရားကို နာကြားရဖူးသည်ဟူ၍ မမှတ်မိပေ၊ ထို့ကြောင့် ဆရာတော်ဘုရားကြီးဟောကြားသော အဘိဓမ္မာတရားကိုလည်း နာကြားလိုစိတ် ဖြစ်ပေါ်လာမိသည်။

မိမိစိတ်တွင် ဖြစ်ပေါ်လာသော အလိုဆန္ဒကို လျှောက်ထား၍ ဆရာတော်ဘုရားကြီး ဟောကြားပါက အခြားက တရားနာပရိသတ်များစွာတို့ပါ နာကြားရသဖြင့် အင်မတန် ကျေးဇူးများပေလိမ့်မည်ဟု မြော်မြင်မိသည်။

သို့နှင့် လျှောက်ထားခွင့်ရသော အချိန်တချိန်တွင် မိမိ၏အလိုဆန္ဒကို ဆရာတော်ဘုရားကြီးအား လျှောက်ထားခဲ့သည်။

မိမိလျှောက်ထားသည်ကို အကြောင်းပြု၍ ဟောကြားတော်မူလေသလော။ ထိုသို့မဟုတ် အကြောင်းအခွင့်အားလျော်စွာ ဆရာတော်ဘုရားကြီး၏ သဘောဆန္ဒတော်အလျောက် ဟောကြားတော်မူလေသလောတော့ မသိ၊ ၁၃၃၆–ခုနှစ်၊ ပြာသိုလပြည့်နေ့မှစ၍ မိမိနာကြားလိုသော အဘိဓမ္မာတရားတော်ကြီးကို ဟောကြားတော်မူခဲ့ရာ မဟာစည်တရားနာပရိသတ်တို့ နာကြားခဲ့ကြရပြီး ဖြစ်ပေသည်။

ဆရာတော်ဘုရားကြီးဟောကြားသော ဤအဘိဓမ္မာတရားတော်ကြီးမှာ ၁၃၃၆–ခုနှစ်၊ ပြာသိုလပြည့်နေ့မှစ၍ ၁၃၃၉–ခုနှစ်၊ ပထမဝါဆိုလပြည့်နေ့အထိ ဟောကြားတော်မူသဖြင့် နှစ်အားဖြင့်ဆိုပါလျှင်၊ ၃–နှစ်၊ ရာသီ, လအားဖြင့် ၃၀၊ ၃–နှစ်ရာသီသို့ ဝင်ရောက်ခဲ့သော်လည်း ၆–လလျော့ရကား လပေါင်း ၃၆–လ မပြည့်၊ ၃၀–လသာလျှင် ဖြစ်သည်။

## အခြားဓမ္မကထိကတို့ဟောကြားသည့် အဘိဓမ္မာတရား

အခြား ဓမ္မကထိကများစွာတို့သည် အဘိဓမ္မာတရားတော်ကို သီးခြားသန့်သန့်ဟောကြားတော်မူလေ့ မရှိကြဘဲ သုတ္တန်တရား၏နောက်ဆွယ်တွင် တရားသိမ်းအနေဖြင့် အနည်းငယ်မျှသာ အဘိဓမ္မာပါဠိကိုသာ ရွတ်ဆိုဟောကြားတော်မူလေ့ရှိကြသည်။ အဘိဓမ္မာတရားတော်ဆိုသည်မှာ ကုသိုလ်, အကုသိုလ်, အဗျာကတအားဖြင့်လည်းကောင်း၊ ခန္ဓာ, အာယတန, ဓာတ်, သစ္စာ စသည်အားဖြင့်လည်းကောင်း မူထား၍ နည်းပေါင်းများစွာဖြင့် ဟောကြားထားသောတရားတော်ဖြစ်လေသည်။

အဘိဓမ္မာတရားမှာ သူ့ချည်း သီးခြားတရားတစ်လုံး ဟောကြားရန် အင်မတန်ခက်ခဲလှသည်။ သုတ္တန်တရားတော်ကို ဟောကြားရသကဲ့သို့

တရားနာပရိသတ်နားလည်အောင် ဟောကြားဖို့ လွယ်ကူသော တရားမဟုတ်၊ နည်းပေါင်းများစွာကို တန်ဆာဆင်၍ ဟောကြားထားခြင်းကြောင့် ဟောကြားသည့် ဓမ္မကထိကက ဘုရားဟောထားသည့် နည်းကိုပင် ဟောကြားဖို့ မဆိုထားနှင့် ထိုနည်းဤနည်းကို ဟောကြားသူကိုယ်တိုင်က သိဖို့ပင်မလွယ်ကူလှပေ။ ဟောကြားရန်ပင် မလွယ်ကူသော ဤအဘိဓမ္မာနည်းကို နာယူရသူပုဂ္ဂိုလ်တို့အနေဖြင့် သိနားလည်ဖို့ဆိုသည်က ပို၍ပင်ခက်ခဲလှသည်။ ထို့ကြောင့် ဤအဘိဓမ္မာတရားကြီးကို တရားတစ်ထိုင်တစ်ဖွဲ့အနေဖြင့် ဟောကြားသော ဓမ္မကထိက မရှိလောက်အောင် နည်းပါးနေခဲ့သည်။

ဤအဘိဓမ္မာ ဒေသနာတော်ကြီးကို တရားတစ်ထိုင်တစ်ဖွဲ့အနေဖြင့် ရှေးကဓမ္မကထိကတို့ ဟောကြားခဲ့ဖူးသည်ဟု မသိခဲ့ရသော ဤအဘိဓမ္မာဒေသနာတော်ကြီးကို မဟာစည်ဆရာတော်ဘုရားကြီးသည် တရားတစ်ထိုင်တစ်ဖွဲ့အနေဖြင့် နှစ်နှင့်ချီ စွမ်းရည်ဖြင့် ဟောကြားထားသော အဘိဓမ္မာဒေသနာတော်ကြီးကို နောင်လနောင်သားတို့အားလည်း ကျေးဇူးများစေရန် မပျောက်မပျက်စေဘဲ စာအုပ်ပေါ်တွင် အက္ခရာတင်ထားဖို့ လိုအပ်လှသည်။

# ခုနစ်ပိုင်း ပိုင်းခြားထားသည်

ဘုရားဟော အဘိဓမ္မာဒေသနာတော်ကို ခုနစ်ပိုင်းပိုင်းပြီး စုစည်းထားသည်။ စုစည်းထားသော ခုနစ်ပိုင်း ၁–ဓမ္မသင်္ဂဏီ၊ ၂–ဝိဘင်္ဂ၊ ၃–ဓာတုကထာ၊ ၄–ပုဂ္ဂလပညတ္တိ၊ ၅–ကထာဝတ္ထု၊ ၆–ယမက၊ ၇–ပဋ္ဌာနဟူ၍ ဖြစ်လေသည်။

(၁) ဓမ္မသင်္ဂဏီ–ဟူသည် သဘာဝတရားများကို အပြည့်အစုံ ရေတွက်ပြထားသော အပိုင်းဖြစ်လေသည်။ ဤအပိုင်းတွင်လည်း စိတ္တုပ္ပါဒကဏ္ဍ, ရူပကဏ္ဍ, နိက္ခေပကဏ္ဍ အဋ္ဌကထာကဏ္ဍအားဖြင့် ခွဲဝေပိုင်းခြား လေးဌာနအားဖြင့် ဝေဖန်ထားသည်။ ဤတွင် ရုပ်, နာမ်သဘာဝတို့ကို အမည်တစ်လျက်

အကြွင်းမဲ့ဖော်ပြထားသည်။ တရားကိုယ်အရဆိုလျှင် စိတ်၊ စေတသိက်၊ ရုပ်၊ နိဗ္ဗာန်ဟူသော ပရမတ္ထတရားများပင်ဖြစ်လျက် ၎င်းတို့ကို စစ်တမ်းထုတ်ပြီး ဟောကြားထားသည်။

(၂) ဝိဘင်္ဂ။ ဝိဘင်္ဂဟူသည် ဓမ္မသင်္ဂဏီတွင် ဟောကြားထားသော တိက, ဒုက တရားများနှင့် ထိုတရားများကို ခန္ဓာ, အာယတန, ဓာတု, သစ္စာ, ဣန္ဒြိယ, ပဋိစ္စသမုပ္ပါဒ, ဗောဇ္ဈင်္ဂစသော တရားများဖြင့် ဝေဖန်ဖွင့်ပြထားသောအပိုင်းဖြစ်သည်။ နည်းအားဖြင့် သုတ္တန်နည်း, အဘိဓမ္မာနည်း, အမေး, အဖြေနည်းတို့ဖြင့် တန်ဆာဆင်၍ စိစစ်ထားသည်။

(၃) ဓာတုကထာ။ ဓာတုကထာဟူသည် ဓာတ်သဘောတရားများကို ဝေဖန်ဟောကြားထားသော အပိုင်းဖြစ်သည်။ ခန္ဓာ, အာယတန, ဓာတ်, သစ္စာ, ဣန္ဒြေ စသည်တို့ကို သင်္ဂဟ, အသင်္ဂဟ, သသင်္ဂဟိတနည်းတို့ဖြင့် ဟောကြားထားသည်။

(၄) ပုဂ္ဂလပညတ္တိ။ ပုဂ္ဂလပညတ္တိဟူသော ပုဂ္ဂိုလ်အမျိုးမျိုးကို ခေါ်ဝေါ် သမုတ်သောအားဖြင့် သိစေသောတရားများကို ဝေဖန်သောတရားများကို ဝေဖန်ဟောကြားထားသော အပိုင်းဖြစ်သည်။ ပုဂ္ဂိုလ်, သတ္တဝါ, လူ, နတ်, ဗြဟ္မာဟူ၍ ပညတ်အခေါ်အဝေါ် သမုတိသစ္စာအားဖြင့် စိစစ်ဖော်ပြထားသည်။ သမုတိသစ္စာဟူသည် ပရမတ္ထသစ္စာမဟုတ်ပေ။ လူတို့ အညီအညွတ် အမှန်အကန် ပြုလုပ်ခေါ်ဝေါ်ကြရာမှ ဖြစ်ပေါ်လာရသော သစ္စာဖြစ်သည်။

(၅) ကထာဝတ္ထု။ ကထာဝတ္ထုဟူသည် သကဝါဒီပုဂ္ဂိုလ်, ပရဝါဒီ ပုဂ္ဂိုလ်တို့ အခြေအတင်ပြောပုံများကို ဖော်ပြထားသော အပိုင်းဖြစ်သည်။ အနည်းအကျဉ်းမျှ မြတ်စွာဘုရားဟောထားသောနည်းကို နယဂ္ဂါဟပြု၍ အရှင် မောဂ္ဂလိပုတ္တတိဿမထေရ်က အကျယ်ဆက်လက် ဟောကြားထားသည်။ ပရမတ်၊ ပညတ်အရာ၌ မတူညီသော အယူဝါဒတို့ကို စောဒနာ၊ သောဓနာ နည်းများဖြင့် စေ့စေ့စပ်စပ် ရှင်းလင်းထားသည်။ ဓမ္မသင်္ဂဏီမှလည်း ဤကထာ

ဝတ္ထုအထိ (၅)ပိုင်းတို့မှာ ဓမ္မဝဝတ္ထာနုဉာဏ် ကျက်စားရာဖြစ်လေသည်။

(၆) ယမက။ ယမကကို ယမိုက်ဟူ၍ မြန်မာလိုပြန်ဆိုထားသည်။ အစုံဟူ၍ အနက်အဓိပ္ပါယ်ထွက်၏။ အမေး, အဖြေအားဖြင့်လည်းကောင်း၊ အနုလုံ, ပဋိလုံအားဖြင့်လည်းကောင်း၊ ဝေဒနာကွန္ဓာ, သညာကွန္ဓာ စသည် အားဖြင့်လည်းကောင်း၊ ဓမ္မသဘာဝတို့ကို အစုံအစုံပြု၍ ဝေဖန်ဟောကြား ထားသည်။ ကဏ္ဍအားဖြင့်လည်း မူလ, ခန္ဓာ, အာယတန, ဓာတု, သစ္စ, သင်္ခါရ, အနုသယ, စိတ္တ, ဓမ္မ, ဣန္ဒြိယ ယမိုက်ဟူ၍ (၁၀)ကဏ္ဍထားလျက် ဝေဖန်ဟောကြားထားသည်။ ဘုံနှင့် ပုဂ္ဂိုလ်အားဖြင့်လည်း ဓမ္မသဘာဝအလိုက် ဖြစ်သင့်ဖြစ်ထိုက်သည်တို့ကို ဝေဖန်ထားသေး၏။

(၇) ပဋ္ဌာန။ မြန်မာလို ပဋ္ဌာန်းဟု ဘာသာပြန်ထားသည်။ အမျိုးမျိုး သောအကြောင်းဟူ၍ အဓိပ္ပါယ်ဖွင့်ထားသည်။ ဤတွင် ပစ္စယုဒ္ဒေသ, ပစ္စယ နိဒ္ဒေသ, ပဋ္ဌာနဟူ၍လည်း သုံးပိုင်းပါဝင်လျက်ရှိ၏။ ပစ္စယုဒ္ဒေသပိုင်း၌ ဟေတု စသော ၂၄-ပစ္စည်းတို့ကို အကျဉ်းအားဖြင့် ဖော်ပြပြီးလျှင် ပစ္စယနိဒ္ဒေသပိုင်း၌ ပစ္စည်း ပစ္စယုပ္ပန်ယှဉ်တွဲလျက် အကျယ်ဖော်ပြထားသည်။ ပဋ္ဌာန်းပိုင်း၌ ပုစ္ဆာ ဝါရ, ဝိသဇ္ဇနာဝါရအားဖြင့် ၂-ပိုင်းခွဲခြားပြီးလျှင် ထို၌ ဓမ္မာနုလောမ၊ ဓမ္မပစ္စနီယ၊ ဓမ္မာနုလောမပစ္စနီယ၊ ဓမ္မပစ္စနီယာနုလောမအားဖြင့် ၄-ဌာန ခွဲထားသေးသည်။ ဤပဋ္ဌာန်းအရာတွင် နက်နဲလှသည့် ဓမ္မသဘာဝတို့ကို နည်းပေါင်းများစွာဖြင့် တန်ဆာဆင်လျက် အကျယ်ပြန့်ဆုံး ဟောကြားထားသည်။

## ထင်ရှားကျော်ကြားလှသော ကျမ်းကြီးများ

သဗ္ဗညုဉာဏ်တော်အားကလည်း ကြီးမားတော်မူလှသည်၊ ပဋ္ဌာန်း ဒေသနာတော်ကလည်း နက်နဲလှသည်။ သေးငယ်သော ချောင်း, မြောင်း, အင်း, အိုင်တို့၌ မကျက်စား၊ မမြူးထူးလောက်သော အာနန္ဒာငါးကြီးသည် မဟာသမုဒ္ဒရာထဲမှာမှ ကျက်စားမြူးထူး ပျော်ပါးနိုင်သကဲ့သို့ ထို့အတူပင်

ကျဉ်းမြောင်းသောအခြား အခြားသော ဒေသနာတော်၌ ကြီးမားလှသော သဗ္ဗညုတဉာဏ်တော်အားက မကျက်စားလောက်တဲ့ နယ်ကျယ်လှသော ပဋ္ဌာန်း ဒေသနာတော်ကို ရောက်ရာအခါမှသာ ဆင်ခြင်သုံးသပ် ကျက်စားလောက် သဖြင့် အလိုရှိသလို ကျက်စားသုံးသပ်တော်မူရသဖြင့် ကိုယ်တော်မှ နီလ, ပီတစသော ရောင်ခြည်တော်ခြောက်သွယ်တို့သည် ပြိုးပြိုးပြက်ပြက် ထွက်ပေါ် လာလေတော့သည်။

ဤအပိုင်းကြီး ၇–ပိုင်းဖြင့် ပိုင်းခြားဟောကြားထားသော ကျမ်းကြီး များကို အဘိဓမ္မာ ၇–ကျမ်းဟူ၍ ခေါ်ဝေါ်ခဲ့ကြသည်။ ဗုဒ္ဓမြတ်စွာသာသနာ တော်တွင် အင်မတန်ထင်ရှားသော ကျမ်းဂန်ကြီးများလည်းဖြစ်ပေသည်။ သဘာဝအားဖြင့် သိမ်လည်းသိမ်မွေ့, နက်လည်းနက်ကျယ် ဟောကြားရာဌာန ကလည်း တာဝတိံသာနတ်ပြည် ဖြစ်နေရုံသာမက တရားနာပရိသတ်တို့က လည်း လူတစ်ဦးတစ်ယောက်မျှမနှော စကြာဝဠာတိုက်တစ်သောင်းမှ စုပေါင်း ရောက်လာကြသည့် နတ်, ဗြဟ္မာပရိသတ်တို့ချည်းသာ ဖြစ်သောကြောင့် ဤမျှ ထင်ရှားကျော်စောနေခြင်းလည်း ဖြစ်လေသည်။

## အမည်တပ်မှု

တရားတော်တွေကို မြတ်စွာဘုရား ဟောကြားတော်မူစဉ်ကမှု အကြောင်းအားလျော်စွာ ဟောစရာရှိသော တရားများကို ဟောတော်မူသွားပါ လိမ့်မယ်၊ ဤသည်က သုတ္တန်တရား၊ ဤသည်က အဘိဓမ္မာတရားဟူ၍ အမည်တပ်ပြီး ဟောကြားနေဟန်မတူ၊ သင်္ဂါယနာတင်ရာအခါကျမှသာ သင်္ဂီတိ ဆရာတော်တို့က တရားသဘောကိုကြည့်၍ သင့်လျော်သောအမည်ကို မှည့်ခေါ် တော်မူခဲ့ကြဟန်တူပေသည်။

သို့သော် ယံ ဝါ တံ ဝါ–ထင်ရာမှည့် ခေါ်တော်မူကြသည် တော့မဟုတ်၊ တရားတော်နှင့်လျော်သောအမည်ကို မှည့်ခေါ်တော်မူထားကြ

သည့်မှာတော့ ထင်းရှားလျက်ရှိသည်။ ဥပမာ–တေမိမင်းသားအကြောင်း ဟောသော ဇာတ်တော်ကို "တေမိဇာတ်"သို့မဟုတ် "မူဂပက္ခဇာတ်"ဟူ၍လည်းကောင်း၊ ဇနက္ကမင်းသားအကြောင်း ဟောထားသောဇာတ်တော်ကို "ဇနကဇာတ်"ဟူ၍လည်းကောင်း မှည့်ခေါ်သကဲ့သို့ ဒေသနာတော် အားလျော်စွာ မှည့်ခေါ်တော်မူခဲ့ကြသည်ကို ထောက်ထားနိုင်ပေသည်။

ဤသို့ အမည်တပ်၍ ခေါ်သည်ကိုပင်ဖြစ်စေ အရာရာတွင် စေ့စပ်တော်မူလှသော ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးသည် သုတ်, အဘိဓမ္မာ, ဝိနည်းပိဋကတ်တွေ ဟောပုံဟောနည်းကို စိစစ်ဖော်ပြတော်မူပြီးနောက် စာမျက်နှာ (၂၅)တွင်––

> "တချို့ကတော့ အဘိဓမ္မာဆိုတာ ပရမတ္ထတရားတွေကို ဟောထားလို့ "အဘိဓမ္မာ"ခေါ်တယ်တဲ့၊ ဒီလိုကိန်းသေ မှတ်ထားကြတယ်။ ပရမတ္ထတရားတွေကို ဟောထားတာကတော့ များပါတယ်။ ဒါပေမယ့်လို့ ပရမတ္ထတရားတွေချည်းတော့ မဟုတ်ပါဘူး၊ ပုဂ္ဂလပညတ်မှာ ပညတ်တရားတွေကိုချည်း ဟောကြားတော်မူထားတာလည်း ရှိနေသားပဲ။ ပုဂ္ဂလပညတ်ဆိုတာ အဘိဓမ္မာခုနစ်ကျမ်းထဲမှာ တစ်ကျမ်းအပါ အဝင်ဖြစ်တယ်၊ အဲဒီကျမ်းမှာ ပညတ်တွေကိုလည်း ဟောကြားထားတာ အထင်အရှားပါပဲ။ အဲဒါကြောင့်မို့ ပရမတ္ထတရားတွေကို ဟောကြားတော်မူထားလို့ အဘိဓမ္မာခေါ်တယ်လို့ ဒီလိုကိန်းသေ မှတ်ချက်ချမထားဖို့လည်း သတိပြုသင့်တယ်" ဟူ၍ သတိပေးထားသည်။

## အချို့ဆိုသည်မှာ

မျက်မှောက်ခေတ် စာပေတို့၌ လူတို့သဘောကို ဖော်ပြသည့်အခါ "လူ့အဘိဓမ္မာ"ဟူ၍လည်း၊ တစ်စုံတစ်ခုသော သဘာဝကို ပြောလိုသည့်အခါ "အဘိဓမ္မာကျကျ ပြောရလျှင်" ဟူ၍လည်းကောင်း စကားပလ္လင်ခံ၍ ပြောတတ်

ကြသည်။ ဤသူ ထိုသူတို့သည် ဘုရားဟောအဘိဓမ္မာကို အတုလိုက်၍ အဘိဓမ္မာမှည့်ခေါ်ထားရခြင်းကို တကယ်မသိကြသောကြောင့် ဤသို့ ပြောဆိုသုံးနှုန်းနေကြခြင်းသာ ဖြစ်သည်။

အများအားဖြင့်မူ လူရော ရှင်ပါပင် ခန္ဓာ, အာယတန, ဓာတ်, သစ္စာ စသော ပရမတ္ထသဘောတရားများကို တွေ့လျှင်သော်လည်းကောင်း၊ ပြောဟောလျှင်သော်လည်းကောင်း "ဒါက အဘိဓမ္မာပဲ, ဒါက အဘိဓမ္မာကို ပြောတာပဲ"ဟု ထင်မှတ်ပြောဆိုလျက် ရှိနေကြသည်။ ဤသည်တို့ကို ကြားသိနေရသော ဆရာတော်ဘုရားကြီးသည် အမှတ်မှားနေသော ထိုသူတို့၏ အယူအဆကို အမှန်သို့ရောက်စေရန် ဟောကြားညွှန်ပြတော်မူခြင်း ဖြစ်လေသည်။

## သည်တစ်ခါသာ နာကြားရဖူးသေးသည်

အဘိဓမ္မာပါဠိတော် (၇)ကျမ်းကို အဋ္ဌကထာနှင့်တကွ အပြည့်အစုံ သင်ယူခဲ့ဖူးပါသည်။ သို့သော် သင်ရိုးအတိုင်း ပို့ချသော ဆရာသမားတို့ထံ၌ သင်ရိုးအတိုင်းသာ သင်ကြားခဲ့ရသဖြင့် သင်ရိုးအတိုင်းသာ နားလည်ခဲ့ရသည်။ ဆရာတော်ဘုရားကြီးဟောကြားသကဲ့သို့ အဘိဓမ္မာတရားတော်ကြီးကို တရားတစ်ထုံးတစ်ဖွဲ့အနေဖြင့် ဤလို ကျယ်ကျယ်ပြန့်ပြန့် တခမ်းတနား ဟောကြားထားသော အခြားမွေကထိကတို့၏ အဘိဓမ္မာတရားကို တစ်ကြိမ်တစ်ခါမျှ မကြားမနာဖူးပေ။ ကြားနာရသည်ဆိုရာ၌လည်း ဆရာတော်ဘုရား ကြီးကိုယ်တိုင် ဟောကြားစဉ်ကာလက တရားနာပရိသတ်တွင် ပါဝင်ခွင့်မရသဖြင့် မကြားမနာခဲ့ရ။ အသံဖမ်းယူထားသော တိတ်ခွေမှကူးယူပြီး တရားကိုသာ ကြားနာခွင့်ရခဲ့သည်။ ကျေးဇူးတင်စရာကောင်းသော သိပ္ပံဆရာတို့၏ အတတ်ပေတည်း။

## နာယကအဖွဲ့က တိုက်တွန်းခဲ့သည်

ဆရာတော်ဘုရားကြီး ဟောကြားထားခဲ့ပြီး တရားတော်တို့တွင်

အဘိဓမ္မာတရားတော်မပါရှိသေးဘဲ ထိုတရားတော် လိုအပ်နေသည်ကို လည်းကောင်း၊ ဆရာတော်ဘုရားကြီး ဟောကြားသော အဘိဓမ္မာတရားတော် ဆိုလျှင် ကျယ်ကျယ်ပြန့်ပြန့် ခမ်းခမ်းနားနား ရှိမည်ကိုလည်းကောင်း သိပြီး ဖြစ်နေကြသော နာယကအဖွဲ့ဝင်ဆရာတော်တို့သည် ဤအဘိဓမ္မာတရား တော်ကြီးကို "ဟောတရားမှ စာအုပ်အဖြစ်သို့ရောက်အောင် ဆောင်ရွက်ပါရန်" မိမိအား တိုက်တွန်းတော်မူကြပါသည်။

ဆရာတော်တို့အဖွဲ့မှ တိုက်တွန်းသည်ကို လေးစားသောအားဖြင့် လည်းကောင်း၊ ကိုယ်တိုင်ကလည်း ဤတရားတော်ကြီး စာအုပ်အဖြစ်သို့ ရောက်လျှင် အခွန့်ရှည်ကြာတည်နေမည်ဖြစ်၍ မနာကြားရသေးသောပုဂ္ဂိုလ် များစွာတို့အတွက် ကျေးဇူးများမည်ကို မျှော်မှန်းမိပြီးဖြစ်သဖြင့်လည်းကောင်း၊ ဆောင်ရွက်ရန် စိတ်အားထက်သန်ရင်း ရှိနေခဲ့သည်။ သို့သော် တာဝန်မသေး လှသော ဤကိစ္စကို ဆောင်ရွက်ရာအခါ၌ အခက်အခဲများနှင့် ကြုံတွေ့နေခဲ့ သည်။ ထိုအခက်အခဲမှာ အသံဖမ်းယူထားသော တိတ်ခွေများမှ စာရွက်ပေါ်သို့ ရောက်ရန် ဖြစ်လေသည်။

ဤလိုအခက်အခဲများနှင့် ကြုံတွေ့နေရသည့်အထဲတွင် ရှောင်လွှဲ၍ မရသော အခြားကိစ္စများကလည်း ဝင်ရောက်လာပြန်သောကြောင့် တနှစ်ကာလ လွန်မြောက်သွားသည့်တိုင်အောင် အလုပ်မစနိုင် ဖြစ်နေခဲ့ရကား နာယကအဖွဲ့ ဆရာတော်တို့က နောက်နှစ်ပတ်လည်အစည်းအဝေးတွင် တစ်ကြိမ်ထပ်မံ၍ တိုက်တွန်းတော်မူကြပြန်ပါတယ်။

ဤတွင် မိမိ၌ရှိနေသော ဤတာဝန်ကိစ္စကြီး အပြီးသို့မရောက်နိုင်ဘဲ မျောသွားမည်ကို စိုးရိမ်မကင်းဖြစ်လာတော့သည်။ ဤသို့သော စိုးရိမ်မှုကြောင့် အကူအညီပေးနိုင်မည့် ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ဥက္ကဋ္ဌထံ အကူအညီတောင်းရ တော့သည်။ ဤတွင်မှ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့ဝင် လူကြီးတို့သည်လည်း မနေသာကြတော့ဘဲ သူတို့တတ်နိုင်သည့်ဘက်မှ လိုအပ်သောအကူအညီကို

ပေးကြသည်။ပေးကြရမည့်အကူအညီမှာ သေးငယ်လှသည်မဟုတ်၊ ရိကော်ဒါ တိတ်ခွေကြီးမှ ကက်ဆက်တိတ်ခွေငယ်သို့ ကူးယူရန်နှင့် တဖက်တိတ်ခွေငယ်မှ စာရွက်ပေါ်၌ စာအဖြစ်ရောက်ရန်ဖြစ်လေသည်။ စာရွက်ပေါ်ရောက်ဖို့မှာလည်း တစ်ကြိမ်တစ်ခါဖြင့် ပြီးသည်မဟုတ်၊ ကက်ဆက်တိတ်ခွေမှတရားကို ပထမ လက်ရေးဖြင့် အကြမ်းလိုက်၍ ရေးပြီးလျှင် တစ်ဖန် သန့်သန့်ရှင်းရှင်း ဖတ်ဖြစ် အောင် လက်နှိပ်စက်ဖြင့် စာမူကြမ်းအဖြစ် ကူးယူရပြန်သည်။

ဤအဘိဓမ္မာတရားတော်ကြီးမှာ နက်နဲသိမ်မွေ့ရုံသာမက ပါဠိပါဌ်သား များများပါရှိနေရကား လက်နှိပ်စက် ရိုက်တတ်ရုံဖြင့် မဖြစ်သည်ကို သိနေကြ သော အဖွဲ့ဝင်လူကြီးတို့သည် ပါဠိပါဌ်သား၌ လေ့လာပြီးဖြစ်ကြသော မဟာစည် သာသနာ့ရိပ်သာရှိ ယောဂီဟောင်း ရဟန်းတော်တို့ထံ အကူအညီပေးကြရန် တောင်းပန်လျှောက်ထားကြရသည်။ ကူးယူရန် လိုအပ်သော စက္ကူ၊ တိတ်ခွေ စသည်တို့ကိုမူ အဖွဲ့ဝင်လူကြီးတို့က လိုအပ်သမျှ ဆောင်ရွက်ပေးကြပေသည်။ ဤတွင်မှ ယောဂီဟောင်းရဟန်းတော်တို့၏ ကူညီမှုဖြင့် ဟောတရားမှ စာမူ ကြမ်းအဖြစ်သို့ ရောက်လာခဲ့သည်။ အရေးတကြီးလိုအပ်နေသည့် ဤကိစ္စကို ဝိုင်းဝန်းကူညီကြသော ထိုထိုပုဂ္ဂိုလ်တို့ကိုလည်း ဤနေရာတွင် မှတ်တမ်း တင်ထားရမည်သာဖြစ်သည်။

## စာမူကြမ်းကို တည်းဖြတ်ချိန်

တိတ်ခွေမှ စာမူကြမ်းအဖြစ်သို့ ရောက်လာသည့်အချိန်၌ ဆရာတော် ဘုရားကြီး၏ ကျန်းမာရေးမှာ မဟာစည်ပရိသတ်က စိုးရိမ်သောအချိန် ဖြစ်နေသည်။ ထို့ကြောင့် စာမူကြမ်းကြီးကို ဆရာတော်ဘုရားကြီး တည်းဖြတ် ရန်မလိုလားအဲ ဖြစ်နေကြသဖြင့် တည်းဖြတ်ရန် ဝန်လေးနေသော ဤတည်း ဖြတ်မှုကိစ္စကြီးကို မိမိက တာဝန်ယူ တည်းဖြတ်ခဲ့ရသည်။

မိမိမှာလည်း ထိုအချိန်တွင် ချမ်းမြေ့အောင်စည်ရိပ်သာသစ်ကိစ္စတွေက

တစ်ဖက် ဖြစ်နေသောကြောင့် အားလပ်သည့်အချိန်က နည်းပါးလှသည်။ နည်းပါးလှသော အားလပ်သည့် အချိန်ထဲမှပင် ရသမျှအချိန်ကိုယူ၍ ပြီးသမျှဖြင့် တည်းဖြတ်နေရသည်။ သို့နှင့်လည်း စာမျက်နှာ (၂၈၀) နှစ်ရာ့ရှစ်ဆယ်ကျော် (စာအုပ်တစ်အုပ်ခန့်) ပြီးသွားရာအခါ၌ ဆရာတော်ဘုရားကြီး၏ ကျန်းမာရေးမှာ ကောင်းမွန်လာလေသည်။ ထိုအချိန်အထိ မိမိ၏ရိပ်သာသစ်ကိစ္စများကလည်း မအေးသေးဘဲ ရှိနေသေးသည်။

## ဆရာတော်ဘုရားကြီး တည်းဖြတ်နိုင်ပြီ ဖြစ်ပါက တည်းဖြတ်ပါရန် လျှောက်ထားရသည်

ထိုအချိန်တွင် ဆရာတော်ဘုရားကြီး၏ ကျန်းမာရေးမှာ စိုးရိမ်စရာ မရှိတော့ပေ။ ချမ်းမြေ့အောင်စည်ရိပ်သာသစ်ဖွင့်ပွဲ အခမ်းအနားစသည်၌ အနုမောဒနာတရားဟောကြားခြင်း၊ ရေစက်ချခြင်းကိစ္စတို့ကိုပင် ဆောင်ရွက်တော်မူလျက် ရှိနေလေပြီ၊ ထို့ပြင် အညာဒေသသို့ ကြွရောက်နေကျအတိုင်း ကြွရောက်တော်မူလျက် ပင့်ဖိတ်သမျှတရားပွဲများကိုလည်း အသင့်အတင့် ဟောကြားတော်မူနေပြီ ဖြစ်သည်။

ဆရာတော်ဘုရားကြီး၏ ကျန်းမာရေးအတွက် အားရလောက်အောင် ကောင်းလာပြီဖြစ်ရာ ထိုအခါ၌ "ဆရာတော်ဘုရားကြီး တည်းဖြတ်နိုင်လောက်အောင် ကျန်းမာရေးကောင်းပြီဖြစ်ပါက ကျန်ရှိနေသေးသော အဘိဓမ္မာ တရားတော်ကြီးကို တည်းဖြတ်ပါရန်" လျှောက်ထားရတော့သည်။ လျှောက်ထားသည်ကို ဆရာတော်ဘုရားကြီးက လက်ခံတော်မူရုံသာမက မိမိတည်းဖြတ်ပြီး စာမူများကိုပါ ကိုယ်တိုင်စစ်ဆေးတော်မူပေသည်။ ထို့ကြောင့် မိမိတည်းဖြတ်ပြီး စာမူသည်လည်း ဆရာတော်ဘုရားကြီး၏ အလိုတော်ကျ ဖြစ်သွားတော့သည်။

# ယခုသော် ပြည့်စုံသွားပေပြီ

သုတ္တန်တရားတော်ကြီးများကိုသာ အဟောများခဲ့သော ဆရာတော်ဘုရားကြီး၏ တရားတော်တို့မှာ ပိဋကတ်မစုံဘဲ တစ်ဖက်သတ်ဖြစ်နေသကဲ့သို့ ရှိနေခဲ့ရာမှ ယခုသော် ပြည့်စုံသွားပေပြီဖြစ်သည်။ သုတ္တန်ဘက်မှ "အရိယာဝါသ"တရားတော်စသော တရားတော်ကြီးများ၊ ဝိနည်းဘက်မှ "ဝိနယဝိနိစ္ဆယသင်္ဂဟ"နှင့် အဘိဓမ္မာဘက်မှ ဤ"အဘိဓမ္မာတရားတော်ကြီး"အားဖြင့် အဘက်ဘက်မှ ပြည့်စုံသွားပေပြီ၊ ဤကဲ့သို့ အဘက်ဘက်မှ ပြည့်စုံခြင်းကြောင့်ပင် ပညာရှိပုဂ္ဂိုလ်တို့က မဟာစည်ဆရာတော်ဘုရားကြီး၏ ပဋိပတ်လုပ်ငန်းကို လက်ခံတော်မူခဲ့ကြသည်ကို တွေ့ရသဖြင့်ပင်–

"ပရိယတ် ပဋိပတ်, နှစ်ရပ်စုံညီ၊
မဟာစည်နည်း, သိပ်သည်းနိုင်သည်။
သတိပဋ္ဌာန်နည်းကျ, ညွှန်ပြကျမ်းမှီ၊
ပညာရှိ, ကဝိလက်ခံသည်"။

ဟူသော ဤကဗျာလက်ာဖြင့် ရွှေဘိုမြို့ ဂန္ဓာရုံရိပ်သာဖွင့် အခမ်းအနားတွင် ဆရာတော်ဘုရားကြီးအား ကြိုဆိုကြရာ၌ အမျိုးသမီးများ ရွတ်ဆိုပူဇော်ကြသည်ကို ကြားခဲ့ရသည်။ အကောင်အထည်မပေါ်ဘဲရှိနေသော စွမ်းအင်သည် အကျိုးမများလှ၊ မပေါ်မလွင်ဘဲ ငုတ်နေတတ်သော စွမ်းအင်ကို ဖော်ထုတ်ပေးနိုင်မှသာ အကျိုးရှိလေသည်။ ဆရာတော်ဘုရားကြီးတွင် ဤမျှခမ်းနားသော အဘိဓမ္မာတရား တစ်ထုံးတစ်ဖွဲ့ကို ဟောစွမ်းနိုင်သော စွမ်းအင်ကား ရှိနေသည်သာဖြစ်သည်။ သို့သော် ထိုစွမ်းအင်မှာ အတန်ကြာ အကောင်အထည်မပေါ်ဘဲ ငုတ်နေခဲ့ရကား အတန်ကြာပင် အကျိုးမများဘဲ ရှိနေခဲ့သည်။ ယခုသော် ရှိနေသော ထိုစွမ်းအင်အလျောက် အကောင်အထည် ပေါ်လာခဲ့ပြီဖြစ်သောကြောင့် အဘိဓမ္မာဂဝေသီ တရားနာပရိသတ်တို့အတွက်

အတိုင်းမသိ ကျေးဇူးများပေတော့သည်။

ဤအဘိဓမ္မာတရားတော်ကြီးကို ဆရာတော်ဘုရားကြီး ဟောကြားတော်မူစဉ်က တရားနာပရိသတ်တွင် ပါဝင်သူတို့လည်း နားကြားခဲ့ရပြီးဖြစ်၍ ကျေးဇူးများတန်သရွေ့ များခဲ့ကြလေပြီ၊ ဟောတရားမှ စာအုပ်အဖြစ်သို့ ရောက်လာရာအခါ၌မူ အလိုရှိသလို ဖတ်ရှုနာကြားနိုင်ပြီဖြစ်၍ ဖတ်ရှုရသူတိုင်း မည်မျှကျေးဇူးများမည်ကို မည်သူမျှ ခန့်မှန်းနိုင်လိမ့်မည်မဟုတ်။ အတိုင်းမသိ ကျေးဇူးများပေမည်ဟူ၍သာ ခန့်မှန်းနိုင်မည်ဖြစ်သည်။

# ထူးခြားလွန်ကဲသော အဘိဓမ္မာ

"ကေနဋ္ဌေန အဘိဓမ္မာ။ ဓမ္မာတိရေက ဓမ္မဝိသေသဋ္ဌေန အဘိဓမ္မာ"ဟု အဋ္ဌကထာက ဤသို့ဖွင့်ပြထားသည်ကို မူတည်ပြီးလျှင် ဆရာတော်ဘုရားကြီးက အဘိဓမ္မာမည်ပုံကို ဟောကြားထားရာ၌ တရားနာပုဂ္ဂိုလ်တွေ နားလည်အောင် အတော်ကျယ်ကျယ်ပြန့်ပြန့် ဟောကြားထားပေသည်။ ဤနေရာ၌ ခန္ဓာ, အာယတနစသည် ပရမတ္ထသဘာဝတွေကို တွေ့တိုင်း အဘိဓမ္မာတရားတွေလို့ ထင်မှတ်နေသူတို့သည် စာမျက်နှာ(၆၁)မှစ၍ ဆရာတော်ဘုရားကြီးဟောကြားထားသော ဤအဘိဓမ္မာဒေသနာတော်ကို ကြည့်ရှုလေ့လာကြရန် ညွှန်ကြားလိုပေသည်။

ထို့ပြင် ကုသိုလ်စိတ်ဖြစ်ရာအခါ၌ ပါဠိတော်တွင် တစ်ပေါင်းတည်းဖြစ်သော တရားတွေကို ၅၆–ပါးဟူ၍ ထုတ်ဖော်ဟောကြားထားသည်။ ဤသည်ကို ဓမ္မပဒအဖွင့် ဋီကာဆရာက သူ့နည်းနှင့် ရေတွက်ပြထားရာ၌ ယုတ္တိမရှိပုံကို ဆရာတော်ဘုရားကြီးက နှာ(၆၅)၌ ရှင်းလင်းဖော်ပြ ဟောကြားထားသည်။ ဤသည်မှာလည်း ကုသိုလ်တရားတွေကို ဟောကြားတော်မူရာတွင် အဘိဓမ္မာဒေသနာတော်၌ ထူးခြားလွန်ကဲပုံကို ဟောကြားရင်း ဆရာတော်ဘုရားကြီးက ဋီကာ၏အမှားကို ပြင်ဆင်ထားခြင်းဖြစ်၍ အမှန်ကို

သိလိုသူ သုတဂဝေသီတို့ သတိပြုဖွယ် အချက်ပင်ဖြစ်လေသည်။

## အဘိဓမ္မာဟောပုံနှင့် သုတ္တန်မှာဟောပုံ

"စက္ခုဝိညာဉ်က မြင်ရုံမျှပဲ"ဟူသော ခေါင်းစဉ်ဖြင့် နှာ (၃၀၀)တွင် ဆရာတော်ဘုရားကြီးက အဘိဓမ္မာအရာမှာ ဟောကြားပုံနှင့် သုတ္တန်အရာမှာ ဟောကြားပုံများကို ခွဲခြားပြီး ဟောကြားထားပေသည်။ ဤသို့ ခွဲခြားဟောကြားနိုင်ဖို့ဆိုသည်မှာ မလွယ်ကူပေ။ အဘိဓမ္မာတွင် ဤသို့ဟော၍ နည်းကို နက်နက်နဲနဲ သိနားလည်ပါမှသာ အဘိဓမ္မာတွင် ဤသို့ဟော၍ သုတ္တန်တွင် ဤသို့ဟောသည်ဟု ခွဲခြားဟောစွမ်းနိုင်မည်ဖြစ်သည်။ ပါဠိတော်တို့၌ မြတ်စွာဘုရား ဟောကြားတော်မူနည်းနှင့် ဓမ္မသဘာဝကို ပိုင်ပိုင်နိုင်နိုင်သိသော ဆရာတော်ဘုရားကြီးဖြစ်၍သာ ဤအဓိပ္ပါယ်မျိုးကို ဟောကြားတော်မူနိုင်ခြင်းဖြစ်သည်။ ဓမ္မကထိက သာမန်တို့ ဟောစွမ်းနိုင်သော အရာဌာနမျိုးမဟုတ်ပေ။

အကယ်၍ အဘိဓမ္မာသဘော၊ သုတ္တန်သဘောကို ပိုင်ပိုင်နိုင်နိုင် မသိပါလျှင် ဟောစွမ်းနိုင်ရန် မဆိုထားဘိ "ဟိုတစ်မျိုး သည်တစ်မျိုး မတူတာယူ ပရမ်းပတာ ဟောထားတာပဲ" ဟု မြတ်စွာဘုရားအပေါ် စွပ်စွဲမိမည်ကိုပင် စိုးရိမ်ရသည်။ ဤသို့သော စွပ်စွဲမိခြင်းမျိုး မဖြစ်စေရန် ဆရာတော်ဘုရားကြီး ဟောကြားထားသော ဤအချက်ကိုလည်း သတိပြုဖို့ကောင်းလှသည်။

## ယောဂီတို့ လက္ခဏာစသည် သိမှု

"စက္ခုသန္နိသိက ရူပဝိဓာနနလက္ခဏံ စက္ခုဝိညာဏံ"အရ ယောဂီတို့ ဝိပဿနာရှုမှတ်ရာ၌ လက္ခဏာ၊ ရသစသည်အားဖြင့် ယောဂီတို့ သိနိုင်ပုံကို ရှင်းလင်းဖော်ပြထားသည်မှာ ပညာရှိတို့ လက်ခံနိုင်လောက်အောင် တိကျလှပေသည်။ စာပေကဆိုထားသည်ကို စာပေအတိုင်းသာ သိနေရုံဖြင့် မပြီးသေးပေ။ စာပေနှင့် အနက်အဓိပ္ပါယ်သဘောကို ကိုက်ညီအောင် ညွှန်ပြနိုင်မှသာ

သို့မဟုတ် သိမြင်မှုသာ ဆိုထားသော စာပေ၏အနက်အဓိပ္ပါယ်ကို စာပေလာအတိုင်း တကယ်သိသူ ဖြစ်နိုင်ပေသည်။ ယောဂီတို့ ဝိပဿနာရှုမှတ်သည့်အခါ လက္ခဏာ၊ ရသ စသည်အားဖြင့်လည်း သိပုံကို ဤအဘိဓမ္မာတရားတော်ကြီးတွင် ဆရာတော်ဘုရားကြီးက ဟောကြားထားသည်မှာ "ဤမျှနက်နဲသော သဘောတွေကို ယောဂီတို့မသိနိုင်ပါဘူး" လို့ ထင်နေသူတို့အတွက် ကျေးဇူးများလှပါပေသည်။ ဤသဘောများကို တရားနာပရိသတ်တို့ သိမှတ်နိုင်ရန်ကိုလည်း--

"မျက်စိမှီရင်း, အဆင်းမြင်သည်၊ မြင်သိရုံမျှ, ကိစ္စရှိသည်၊
အဆင်းဆီရှေးရှု, သူပြုနေသည်၊ မြင်သိ၌ သိထိုက် ဤသုံးမည်။

ဟူသော ဤလင်္ကာဖြင့် ချုပ်ို့ဟောကြားထားသည်။ ဤအဘိဓမ္မာတရားတော်ကြီး နှာ(၃၁၇)စသည်၌ ကျယ်ကျယ်ပြန့်ပြန့် ဟောကြားထားသည်ကို တွေ့ကြရမည်ဖြစ်သည်။

## ကုန်နိုင်မည် မဟုတ်ပါ

ဤအဘိဓမ္မာတရားတော်ကြီးတွင် ပါရှိသော မှတ်သားဖွယ်တွေကို ဖော်ပြနေမည်ဆိုပါလျှင် ကုန်နိုင်မည် မဟုတ်ပါ။ စာအုပ်အဖြစ်သို့ ရောက်လာပြီဖြစ်သဖြင့် မိမိတို့ ဉာဏ်အမြင်ရှိသလို ကြည့်ရှုလေ့လာကြည့်ကြသည့်အခါတွင် မှတ်သားဖွယ်တွေ မည်မျှများသည်ကို တွေ့ကြရမည်သာဖြစ်ပါသည်။ နက်နဲသိမ်မွေ့လှသော အဘိဓမ္မာဒေသနာတော်ကြီးကို ဆရာတော်ဘုရားကြီး၏ နက်နဲသောဉာဏ်ဖြင့် မည်မျှလေ့လာကျက်စား ဟောကြားထားသည်ကို ကြည့်ရှုလေ့လာသူတို့ ကိုယ်တိုင်တွေ့နိုင်သည်ဖြစ်၍လည်း ကိုယ်တိုင်ကြည့်ရှု သုံးသပ်ကြပါရန် မှာကြားရင်း ဤနိဒါန်းကို ဤတွင် အဆုံးသတ်လိုက်ပါသတည်း။

## သိစေချင်ပါသေးသည်

## (ဗ) အဘိဓမ္မာတရားတော်ကြီး

ဤဖော်ပြပါနိဒါန်းနှင့် တည်းဖြတ်ပြီး ဤအဘိဓမ္မာတရားတော်ကြီး စာအုပ်အဖြစ်သို့ မရောက်သေးမီ ၁၃၄၄-ခု၊ ဒုတိယဝါဆိုလဆုတ် (၁၀)ရက်၊ စနေနေ့ မွန်းလွဲ (၁း၃၆)နာရီတွင် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော် ဘုရားကြီးမှာ သင်္ခါရတရားတို့၏ ထုံးစံဓမ္မတာအားလျော်စွာ ရုပ်နာမ်ခန္ဓာကို စွန့်ခွာတော်မူခဲ့ရပါသည်။ အကယ်၍သာ ဤအချိန်ဤကာလတွင် ဆရာတော် ဘုရားကြီးသည် လွန်တော်မမူသေးဘဲ ရှိနေဦးမည်ဆိုပါလျှင် ဤအဘိဓမ္မာ တရားတော်ကြီးမှာ ဆရာတော်ဘုရားကြီး၏ နောက်ဆုံးပြုစုရေးသားတော် မူသွားသောတရားတော်ကြီး ဖြစ်လာနိုင်မည် မဟုတ်ပါ။

ယခုသော် ဤအဘိဓမ္မာတရားတော်ကြီးကို ပြုစုတော်မူပြီးနောက်တွင် မည်သည့်ကျမ်းစာတရားတော်ကိုမျှ မပြုစုမရေးသားတော့ဘဲ လွန်တော်မူသွား ခဲ့ပြီးဖြစ်သဖြင့် ဤအဘိဓမ္မာတရားတော်ကြီးမှာ ကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီး၏ နောက်ဆုံးပြုစုရေးသားသွားတော်မူသော တရား တော်ကြီး တစ်ထုံးတစ်ဖွဲ့အဖြစ်ဖြင့် ထူးထူးခြားခြား ကျန်ရစ်ခဲ့ပါလေပြီ၊ "အပ္ပမာဒဒေသနာတော်"သည် မြတ်စွာဘုရား၏ နောက်ဆုံးတရားတော်ဖြစ် သကဲ့သို့ ဤအဘိဓမ္မာတရားတော်ကြီးသည်လည်း ကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီး၏ နောက်ဆုံးပြုစုတော်မူသော တရားတော်ကြီး ဖြစ်သည် ကို မမေ့နိုင်ဖွယ် ထူးကဲစွာပင် မှတ်တမ်းတင်ကြရမည် ဖြစ်ပါတော့သည်။

ဝက်လက်- မစိုးရိမ်ဦးတိသ
၁၃၄၄-ခု၊ ဒုတိယဝါဆိုလပြည့်ကျော် ၁၀-ရက်၊ စနေနေ့။
သာသနာ -၂၅၂၆၊ (၁၄-၈-၈၂)

# အာဒိမဗွာတရားတော်ကြီး

ဒီကနေ့ ၁၃၃၆–ခုနှစ်၊ ပြာသိုလပြည့်နေ့ (၂၆–၁–၇၅)ဖြစ်တယ်။ အချိန်က နေမွန်းလွဲ ၁–နာရီခွဲနဲ့ ၄၇–မိနစ်လောက် ရှိပါပြီ၊ ယခုအချိန် မှစပြီးတော့ အစဉ်ကျရာ တရားကိုဟောရမယ်။ ဗုဒ္ဓဝါတော်စဉ်အတိုင်း ထင်ရှားရာသုတ်တွေကို ယူပြီးတော့ ဟောနေပါတယ်။

"ပ–ဗာ, တိ–ရာ၊ ဝေ, မ, တာဝယ်၊ တစ်ဝါစိရှု"တဲ့။

ပ–ဗာ။ ပထမဝါမှာ ဗာရာဏသီ မိဂဒါဝုန်တောမှာ ဓမ္မစကြာ တရားတော်ကို မြတ်စွာဘုရား ဟောကြားတော်မူပါတယ်။ ဒီတရားတော်ကို "ဓမ္မစကြာတရားတော်ကြီး"အမည်နဲ့ ဟောခဲ့ပြီးပါပြီ။

တိ–ရာ။ ရာဇဂြိုဟ်ပြည်မှာ သုံးဝါကပ်ပြီးတော့ မြတ်စွာဘုရား သီတင်းသုံးတော်မူပါတယ်။ ဒီလို သီတင်းသုံးတော်မူစဉ် ရာဇဂြိုဟ်ပြည်မှာ ဟောတဲ့သုတ်တွေကတော့ အများကြီးပါပဲ။ ဒီသုတ်တွေကိုလည်း အကုန်မဟုတ် ပေမယ့် တချို့သုတ်တွေကို ဟောပြီးခဲ့ပါပြီ။

ဝေ။ ဝေသာလီပြည်မှာ မြတ်စွာဘုရား ဟောကြားခဲ့တဲ့ သုတ်တွေကို လည်း ဟောသင့်သလောက်ကို ဟောပြီးခဲ့ပြီ။ အဲဒါ ပဉ္စမဝါမှာ ဟောတော်မူတဲ့ သုတ်တွေပဲ။

ဆဋ္ဌမ–ခြောက်ခုမြောက် ဝါမှာတော့ မ–မကုလတောင်မှာတဲ့၊ မကုလတောင်ဆိုတာ ရာဇဂြိုဟ်ပြည်ရဲ့ တောင်ဘက်လောက်ကျပါတယ်။ အဲဒီက တောင်ဘက်တောင် မကသေးဘူး။ မြတ်စွာဘုရားပွင့်တော်မူတဲ့ ဗောဓိမဏ္ဍိုင်ရဲ့ တောင်ဘက်လည်းကျပါတယ်။ ဦးစက္ကပါလပြုစုတဲ့ ဗုဒ္ဓ သာသနိက ပထဝီဝင်ကျမ်းမှာ မဇ္ဈိမဒေသရဲ့ တောင်ဘက်ဆုံးလောက် ရောက် နေကြောင်း ပြဆိုထားပါတယ်။ ပေသကမ္ဘနိဂုံးဆိုတာ အဲဒီ နိဂုံးကြီးရဲ့ အနီးမှာ ရှိနေပါတယ်။ မဇ္ဈိမဒေသရဲ့ တောင်ဘက်အစွန်းလောက်တောင် ရောက်နေ

တယ်။ အဲဒီမှာ တောင်တစ်လုံးရှိတယ်။ မကုလတောင်တဲ့။ အဲဒီ မကုလတောင်မှာ ခြောက်ဝါမြောက် ဝါဆိုတော်မူတယ်လို့ အင်္ဂုတ္တရအဋ္ဌကထာ ဓမ္မပဒအဋ္ဌကထာ စသည်တို့မှာ ပြထားပါတယ်။ ဒါပေမယ့် အဲဒီ မကုလတောင်မှာ ဟောတဲ့ သုတ်တရားကိုတော့ သင်္ဂါယနာတင်တဲ့နေရာမှာ သင်္ဂါယနာတင်အရှင်တို့က ဖော်ပြထားတာ မတွေ့ရဘူး။ အဲဒီ မကုလတောင်မှာ သီတင်းသုံးတော်မူစဉ်အခါတုန်းက ဘယ်တရားကို ဟောတယ်လို့ဆိုတာ ရှာလို့မတွေ့ရဘူး။ အဲဒီလို ရှာမတွေ့ရတာတွေ ၂-ဌာန၊ ၃-ဌာန၊ ရှိသေးတယ်။ သင်္ဂါယနာတင်စဉ်က ရှာမတွေ့တဲ့ နေရာလေးတွေမှာ ဟောတဲ့တရားတော့ ရှိမှာပါပဲ။ တစ်ဝါတွင်းလုံး သီတင်းသုံးနေတာပဲ။ မဟောဘဲတော့ နေမှာမဟုတ်ပါဘူး။ ဟောမှာပါပဲ။ သင်္ဂါယနာတင်စဉ်က မဖော်ပြတော့လည်း မတွေ့ရဘူးပေါ့။ မဖော်ပြတာကလည်း အကြောင်းတော့ ရှိပါလိမ့်မယ်။ ဒီပြင်နေရာမှာ ဟောတဲ့တရားတွေနဲ့ ထပ်တူဖြစ်နေလို့ မဖော်ပြတာလည်း ဖြစ်ကောင်း ဖြစ်ပါလိမ့်မယ်။ အဲ အခုဒီမှာ ဝါစဉ်အတိုင်း ဟောတဲ့အခါကျတော့ မကုလတောင်မှာ ဟောတဲ့တရားကိုတော့ ရှာမတွေ့လို့ မဟောတော့ဘူး။ ဒါကြောင့် ကျော်ပစ်ခဲ့ရတော့မယ်။

ဝေ, မ, တာဝယ်တဲ့။ ဝေသာလီရယ်၊ မကုလတောင်ရယ်၊ တာဝတိံသာရယ် အဲဒီဌာနတွေမှာ တစ်ဝါစီရှိပါတဲ့၊ တာဝတိံသာမှာ သတ္တမမြောက်ဝါကပ်တော်မူပါတယ်။ အဲဒီ တာဝတိံသာမှာ ဟောတော်မူတဲ့ တရားကိုတော့ အခုဟောမယ်။ တာဝတိံသာမှာ ဝါကပ်စဉ် ဟောတော်မူတဲ့ တရားက အဘိဓမ္မာတရားတော်တဲ့၊ အဲဒီ အဘိဓမ္မာတရားတော်ကို မြတ်စွာဘုရားက ဝါတွင်းသုံးလပတ်လုံး ဟောတာပဲ။ နည်းတဲ့တရားတွေမဟုတ်ဘူး။ အဲဒီ တရားတော်တွေကိုတော့ ဆုံးအောင်ဟောဖို့ မဖြစ်နိုင်ဘူး။ တော်ရုံလောက်ပဲ ဟောရမယ်။

အဘိဓမ္မာဒေသနာနဲ့စပ်ပြီးတော့ အဋ္ဌကထာက ဖွင့်ပြတော့မယ်ဆို

တော့ ရတနာသုံးပါးကို ရှေးဦးစွာ ပဏာမပြုထားတယ်။ အဲဒီ ရှိခိုးတဲ့ ပဏာမ ဟာ အင်မတန်ကြည်ညိုစရာကောင်းတာပဲ။ ကြည်ညိုစရာကောင်းတဲ့ အတိုင်း အဘိဓမ္မာ ပဏာမသာမက ဘုန်းကြီးက ဝိနည်းအဋ္ဌကထာပဏာမရော, သုတ် အဋ္ဌကထာ ပဏာမရော, အခြေခံအဖြစ်နဲ့ ဟောရမယ်။ အဘိဓမ္မာ အဋ္ဌကထာကလာတဲ့ ပဏာမကိုဟောပြီးတဲ့နောက်မှ ယမိုက်ပြာဋိဟာ ပြပုံတွေကို လည်း ဟောရဦးမယ်။ ယနေ့တော့ နိဒါန်းဟောရတာနဲ့ပဲ အချိန်ကုန်လိမ့်မယ် ထင်တယ်။ အဘိဓမ္မာတရားကို ဟောဖို့ ဒီကနေ့ ရောက်ချင်မှရောက်မယ်။ အဘိဓမ္မာတရားကလည်း မြတ်စွာဘုရားက သုံးလတောင်ဟောတော်မူထား တော့ တရားတော်က အင်မတန် ရှည်လျားနေတယ်၊ ဒီအဘိဓမ္မာတရား ရှည်ကြီးကို ဘုန်းကြီးကတော့ အနည်းဆုံး သုံးရက်လောက်ကြာအောင် ဟောရမယ်။ ဒီထက်များချင်လည်း များမှာပဲ။ အခြေအနေအရ ကြည့်ပြီး ဟောသွားရမှာပဲ၊ အဘိဓမ္မာတရား ဟောရတာက တရားအားထုတ်ဖို့တော့ မဟုတ်ဘူး၊ ဗဟုသုတများကြဖို့ပါပဲ။

## အတုယူကြဖို့ပါပဲ

ဟောတော်မူထားတာကလည်း တာဝတိံသာမှာ ဟောတော်မူထား တာပဲ။ လူတွေကို ဟောတော်မူထားတာမှ မဟုတ်ပဲဘဲ၊ ယခု လူတွေအတွက် တော့ ဗဟုသုတများဖို့အနေနဲ့ ဘုန်းကြီးကဟောရမယ်။

အဋ္ဌကထာဆရာက ဝိနည်းပိဋကတ်ကို ရှေးဦးစွာ ဖွင့်ပြစီရင်တော် မူထားပါတယ်။ ဒီလို စီရင်ရာမှာ အန္တရာယ်ကင်းပျောက်ခြင်း၊ ကျမ်းပြီးခြင်း အကျိုးရှိတယ်ဆိုတဲ့အနေနဲ့ ရှေးဦးစွာ ရတနာသုံးပါးအား ရှိခိုးခြင်းဆိုတဲ့ ပဏာမကိုပြုပါတယ်။ ပဏာမတွေမှာ ဘုရား၊ တရား၊ သံဃာ၊ ရတနာသုံးပါးရဲ့ ဂုဏ်တွေကို ထုတ်ဖော်ချီးကျူးထားတာဆိုတော့ အင်မတန်ကောင်းပါတယ်။ အဲဒီ အဋ္ဌကထာဆိုထားတဲ့ ပဏာမတွေကို အတုယူပြီးတော့ နောက်နောက်

ဝိဝေကကြောင့်ဖြစ်သော။ ပီတိ သုခံ၊ ပီတိသုခရှိသော၊ ပဌမံ ဈာနံ၊ ပဌမဈာန်သို့။ ဥပသမ္ပဇ္ဇ၊ ကပ်ရောက်၍။ ဝိဟရတိ၊ နေ၏”လို့ ဟောတော်မူပါတယ်။

# ဒိဋ္ဌ အာရုံက ပထဝီကသိုဏ်း

ပဌမဈာန်ကလည်း အာရုံအားဖြင့် ကသိုဏ်းဖြင့် အာရုံပြုတဲ့ ပဌမဈာန်လည်း ရှိတယ်။ အသုဘကိုအာရုံပြုတဲ့ ပဌမဈာန်လည်းရှိတယ်၊ အာနာပါနကို အာရုံပြုတဲ့ ပဌမဈာန်လည်းရှိတယ်။ မေတ္တာစသည်ဖြင့် သတ္တဝါတွေကို အာရုံပြုတဲ့ ပဌမဈာန်လည်းရှိတယ်၊ အဲဒီဈာန်ထဲက ဘာဈာန်တုန်းဆိုတော့ ကသိုဏ်းကိုအာရုံပြုတဲ့ ကသိုဏ်းဈာန်တဲ့၊ ကသိုဏ်းဈာန်ကို စပြီးတော့ မြတ်စွာဘုရားက ဟောကြားပါတယ်။ “ပထဝီကသိဏံ၊ ပထဝီကသိုဏ်းလျှင် အာရုံရှိသော၊ ပဌမံ ဈာနံ၊ ပဌမဈာန်သို့။ ဥပသမ္ပဇ္ဇ၊ ကပ်ရောက်၍။ ဝိဟရတိ၊ နေ၏”တဲ့၊ ပထဝီကသိုဏ်းကို အာရုံပြုပြီးဖြစ်တဲ့ဈာန်ကို ဆိုလိုပါတယ်။

အဲဒီဈာန်ကို အလိုရှိလျှင် ဒီအဘိဓမ္မာထဲမှာတော့ အားထုတ်ပုံမပါပါဘူး။ သုတ္တန်တရားတော်တွေထဲမှာ အသင့်အတင့်ပါပြီး ဝိသုဒ္ဓိမဂ်မှာတော့ ကျကျနနအပြည့်အစုံပါပါတယ်။ အဲဒီ ဈာန်တွေရအောင် အားထုတ်ပုံတွေဟာ ဝိသုဒ္ဓိမဂ် ပဌမတွဲ ပထဝီကသိုဏ်း အကျယ်ညွှန်ပြချက်ဆိုတဲ့နေရာမှာ ပါပါတယ်။ အခု ဒီမှာတော့ အကျဉ်းချုပ်ပဲ ပြောရမယ်။

ပထဝီကသိုဏ်းဆိုတာ မြေ–ကသိုဏ်းပါပဲ၊ အဲဒီ မြေကသိုဏ်းကို ကြည့်ပြီး ရှုရုံနဲ့ ဈာန်ရတဲ့ပုဂ္ဂိုလ်တွေလည်း ရှိတယ်။ ရှေးရှေးဘဝတွေက ပထဝီကသိုဏ်းဈာန်တွေကို အလေ့အလာရတဲ့ ပုဂ္ဂိုလ်တွေ၊ ဘဝမခြားဘဲနဲ့ အနီးကပ်ဘဝတုန်းက ဈာန်တွေရလာခဲ့လို့ နိုင်နင်းနေတဲ့ပုဂ္ဂိုလ်တွေဖြစ်နေကြတယ်ဆိုရင်တော့ မေ့နေတဲ့ လူနာမည်တို့ မေ့နေတဲ့စာတို့ကို စဉ်းစားလိုက်တဲ့အခါ ပေါ်လာသလိုပဲ၊ ပကတိမြေကြီးကိုကြည့်ပြီး ပထဝီ ပထဝီလို့

ပါဠိုလိုပဲဖြစ်ဖြစ်၊ မြေမြေလို့ မြန်မာလိုပဲဖြစ်ဖြစ် ရှုလိုက်ရုံနဲ့ နီဝရဏတွေ ကင်းပြီးတော့ ဈာန်စိတ်ဖြစ်တယ်၊ အဲဒီ ဖြစ်လာတဲ့ဈာန်စိတ်က "သဝိတက္ကံ သဝိစာရံ၊ ဝိတက်ဝိစာရနဲ့တကွ ဖြစ်လာတယ်"တဲ့။ အာရုံပေါ်အောင်လို့ ကြံစည်မှုလေးလည်းရှိတယ်၊ နောက်ရရှိပြီးတဲ့ အာရုံတွေကို ထပ်ခါထပ်ခါ သုံးသပ်ဆင်ခြင်တဲ့ သဘောလေးလည်း ပါတယ်တဲ့။

တရားဆိုတာ ဒီလိုပဲ၊ ရခါစ ဖြစ်ခါစတို့မှာ အာရုံပေါ်အောင်ကြံ စည်ရတယ်၊ အာရုံကို ညီညွတ်ပြီးတော့ ကြံစည်မှုပဲ ပေါ်လာတယ်၊ အဲဒီလို ကြံစည်တာဟာ ဝိတက်ပါပဲ၊ ထပ်ခါထပ်ခါ နှလုံးသွင်းဆင်ခြင်တဲ့ သဘော လေးလည်းရှိတယ်၊ အဲဒါကို ဝိစာရလို့ ခေါ်တယ်၊ ကြံစည်တာက ဝိတက်၊ သုံးသပ်ဆင်ခြင်တာက ဝိစာရ၊ ဝမ်းမြောက်တာက ပီတိ၊ ချမ်းသာတာက သုခ၊ တည်ကြည်ငြိမ်သက်တာက ဧကဂ္ဂတာ ဆိုတဲ့သမာဓိ၊ အဲဒါ အားလုံးဟာ ဈာန်အင်္ဂါ ၅-ပါးတဲ့၊ အဲဒီ ဈာန်အင်္ဂါ ၅-ပါးပေါင်းဖြစ်တဲ့ ဈာန်ဟာ ပဌမ ဈာန်တဲ့၊ အဲဒီပဌမဈာန်သို့ ရောက်နေပြီလို့ ဆိုပါတယ်။

## မလ္လကမထေရ်ကြီးဝတ္ထု

မလ္လကမထေရ်ကြီးဆိုတာ ရှေးကရှိဖူးတယ်၊ မြတ်စွာဘုရားလက် ထက်တော်ကပါပဲ။ အဲဒီမထေရ်မြတ်ကြီးက ထွန်ယက်ထားတဲ့မြေဆိုတော့ မြက်တွေ သစ်ပင်လေးတွေ ဖုံးမနေဘူး၊ မြေသားတွေပေါ်နေတယ်၊ အဲဒီမြေ သားတွေပေါ်နေတဲ့ မြေကွက်ကြီးတစ်ကွက်လုံးကို နှလုံးသွင်းပြီး အဲဒီမထေရ် ကြီးက ရှုလိုက်တယ်၊ ဒီတော့ အဲဒီ မြေကွက်ကြီးလောက် ကသိုဏ်းဝန်း နိမိတ်ကြီး ထင်လာတယ်၊ ဒီကသိုဏ်းဝန်းနိမိတ်ကြီးကို ရှုရင်းနဲ့ပဲ သူ့မှာ ဈာန်ရလာတယ်၊ အဲဒီဈာန်ကိုဆက်ပြီး ဝိပဿနာရှုလိုက်တော့ ရဟန္တာဖြစ်သွား သတဲ့၊ ရှေးကအလေ့အကျင့်များခဲ့တဲ့ ပုဂ္ဂိုလ်ဆိုရင်တော့ ဒီလိုပဲပကတိ မြေကို ရှုရုံနဲ့လည်း ဈာန်ရနိုင်ပါတယ်။

# ကသိုဏ်းဝန်းလုပ်ရတယ်

ရှေးကအလေ့အလာနည်းတဲ့ ပုဂ္ဂိုလ်တွေအတွက် ဆိုရင်တော့ ကသိုဏ်းဝန်းပြုပြီး ရှုရတယ်၊ "ဝိဒတ္ထိ စတုရင်္ဂုလ"ဆိုတဲ့အတိုင်း တစ်ထွာနဲ့ လက်လေးသစ်(တစ်ပေခန့်) အဝိုင်းလေးလုပ်ရတယ်၊ ရွှေ့ပြောင်းနိုင်တဲ့ အဝိုင်းလည်း ပြုလုပ်နိုင်တယ်။ မရွှေ့ပြောင်းရတဲ့ အဝိုင်းကိုလည်း လုပ်လို့ရတယ်၊ ရွှေ့ပြောင်းနိုင်တဲ့ အဝိုင်းဆိုလို့ရှိရင် အဝတ်အထည်တို့၊ သားရေတို့ပေါ်မှာ မြေနဲ့ကပ်ပြီးတော့ ဘေးပတ်လည်က အသားဘောင်လေး ဘာလေးနဲ့တားပေါ့၊ အပေါ်မှာမြေနဲ့ အဲဒီလိုပြုလုပ်ရတယ်၊ မရွှေ့နိုင်တဲ့ အဝိုင်းဆိုရင်တော့ တစ်နေရာရာမှာ ကြည့်လို့ရှုလို့ရအောင် တုတ်စိုက်ပြီး ရွှံ့နဲ့သုတ်ရတယ်၊ မြေမျက်နှာပြင် အဝိုင်းကလေးဖြစ်အောင် လုပ်ဖို့ပဲ၊ မြေမျက်နှာပြင်က ဘေးမှာကျယ်ချင်လည်း ကျယ်နေတတ်တယ်၊ ပကတိမြေအရောင်မဟုတ်ဘဲနဲ့ အခြားအမည်းရောင်ပဲ ဖြစ်ဖြစ်၊ တခြားအရောင် ပဲဖြစ်ဖြစ် ဘေးကကန့်သတ်ပြီး အဝိုင်းလေးပြုလုပ်ရမယ်တဲ့။

အဲဒီမှာလည်း ပကတိမြေသားက တခြားအရောင်အဆင်းနဲ့ မရောနှောစေရဘူး၊ တခြားအညိုရောင်၊ အမည်းရောင်တွေနဲ့ ရောနှောသွားရင် နီလကသိုဏ်း ဖြစ်သွားမယ်၊ အဝါရောင်နဲ့ရောရင်လည်း ပီတကသိုဏ်း ဖြစ်သွားမယ်၊ အနီရောင်နဲ့ရောရင် လောဟိတကသိုဏ်းဖြစ်သွားမယ်၊ အဖြူရောင်တွေနဲ့ရောရင် ဩဒါတကသိုဏ်းဖြစ်သွားမယ်၊ အဲဒီတော့ အညို၊ အဝါ၊ အနီ၊ အဖြူဆိုတဲ့ အရောင်အဆင်းတွေနဲ့ မရောစေရဘူးတဲ့၊ မြေကြီးနဲ့ ပထဝီသဘာဝအတိုင်း မြေရောင်ဖြစ်စေရမယ်တဲ့။ အရုဏ်တက်လာကာစ အရောင်လေးလို ဖြစ်ရမှာတဲ့၊ နံနက် အရုဏ်တက်လာတဲ့ အခါကာလမှာ စဉ်းငယ် နီသယောင်ယောင်ပေါ့၊ အနီလည်းမဟုတ်ဘူး။

ယခုပြုလုပ်ထားတဲ့ အရုဏ်တက်ဇယားတွေမှာ နေမထွက်ခင်

တစ်နာရီဆိုပြီးတော့ အရုဏ်တက်ဖယား လုပ်ထားကြတယ်၊ တစ်နာရီအလို လောက်နဲ့တော့ အရုဏ်ရောင် မထင်ရှားသေးဘူး၊ အိန္ဒိယကျမ်းအားဖြင့်တော့ နေမထွက်ခင် ၄၈–မိနစ်မှာ အရုဏ်တက်ကြောင်း ပြထားပါတယ်။ သာပြီးထင် ရှားတာကတော့ နေမထွက်ခင် မိနစ်လေးဆယ်လောက်မှာ ဒီအရောင်မျိုးကို တွေ့ရတာ သာပြီးထင်ရှားပါတယ်။ အဲဒီအခါမှာ အရောင်ကတော့ နေရောင် ခြည်ပါပဲ။ နေထွက်ခါနီးကျပြန်တော့လည်း နီလွန်းနေတယ်၊ အဲဒီလောက် လည်း နီလို့မဖြစ်ဘူး၊ စောစောပိုင်း အရုဏ်တက်လာခါစ အရောင်လေးမျိုးတဲ့၊ "ကိဥ္စိရတ္တော"စဉ်းငယ်အနီရောင်ဆိုတယ်၊ တကယ် အနီကြီးမဟုတ်ဘူး၊ အနီ ရောင်လေး နည်းနည်းပါရုံလောက်တော့ အဲဒါအရုဏ် အရောင်ပဲ၊ အဲဒီလို အရုဏ်ရောင်အဆင်းရှိတဲ့ မြေမျက်နှာပြင်တွေ ပြုလုပ်ရမယ်တဲ့၊ အဲဒါဟာ လုပ်ရမယ့် မြေဝန်း၊ ပထဝီကသိုဏ်းဝန်းပါပဲ။

လက်လေးသစ်လောက်မြင့်တဲ့ ခုံလေးနဲ့ထိုင်ပြီး ရှုလို့ကောင်းလောက် ရုံပြုလုပ်ထားရမယ်၊ ကသိုဏ်းဝန်းကိုလည်း အတော်မြင့်တဲ့နေရာမှာတင်ပြီး အဝိုင်းလေးလုပ်ထားရမယ်၊ ပြီးတော့ နှစ်တောင့်ထွာလောက် ဝေးတဲ့နေရာက နေပြီးတော့ ကြည့်ရမယ်တဲ့။ သိပ်ပြီးတော့ ကပ်ကြည့်ရင်လည်း မကောင်းဘူး၊ ဝေးလွန်းရင်လည်း မှုန်နေမှာဖြစ်လို့ မကောင်းဘူးတဲ့၊ ဒါကြောင့် နှစ်တောင့်ထွာ လောက်က ကြည့်မှ အနေတော်တယ်၊ "အဍ္ဍတေယ ပမာဏေ" နှစ်တောင့်ထွာ လောက် ပမာဏရှိတဲ့ နေရာမှနေပြီးကြည့်ရမယ်လို့ ညွှန်ပြထားတယ်။ မျက်စိ ကိုလည်း သိပ်ပြီးမဖွင့်ရဘူး၊ သိပ်ဖွင့်တော့ ထင်လွန်းအားကြီးတယ်။ သိပ်ပြီး တော့လည်း မျက်စိကို မမှေးရဘူး။ မှေးလွန်းရင်လည်း မပီမသဘဲ ဖြစ်နေတတ် တယ်။ မဖွင့်လွန်း၊ မမှေးလွန်းတဲ့ အနေတော်မျက်စိနဲ့ကြည့်နေကျ မျက်စိမျိုး အတိုင်း ကြည့်ရမယ်လို့ ဆိုလိုတယ်။ မှန်ထဲတွင် ကိုယ့်အရိပ်ကို ကြည့်တဲ့အခါ သိပ်မဖွင့်လွန်း မမှေးလွန်းတဲ့ အကြည့်မျိုးနဲ့ ကြည့်သလို ကြည့်ဖို့ပါပဲ။

# ရှုတော့ ဒီလိုရှုရတယ်

အဆိုပါအတိုင်း ကသိုဏ်းဝန်း ပရိကမ်အားလုံး ပြင်ဆင်ပြီးတဲ့အခါ "ပထဝီ ပထဝီလို့ နှုတ်သွင်းရမယ်၊ မြန်မာလို မြေမြေနဲ့ နှုတ်သွင်းရင်လည်းရပါတယ်။ ဒီပြင်ဘာသာတွေနဲ့လည်း ကိုယ့်ဘာသာအလိုက် နှုတ်သွင်းနိုင်ပါတယ်။ လိုရင်းကတော့ စိတ်ကလေး ကသိုဏ်းဝန်းအပေါ်မှာ တည်နေဖို့ပါပဲ၊ ဒီလိုရှုဖန်များလာတဲ့ အခါကျတော့ သမာဓိရလာတယ်၊ သမာဓိမရသေးခင်တော့ ရောက်လိုရာရောက်နေတဲ့စိတ်တွေ ဖြစ်နေဦးမှာပဲ။ ဖောင်းတာ၊ ပိန်တာကို ရှုမှတ်ရသလိုပေါ့၊ စိတ်က သမာဓိမရခင်တော့ မတည်ငြိမ်ဘူး။

ဘုန်းကြီးတို့ တရားအားထုတ်တုန်းကဆိုရင် ပထမတစ်လလောက်တော့ ဆွမ်းခံသွားရသေးတယ်၊ နောက်တစ်လလောက်ကျတော့မှ သက်ဆိုင်ရာဒကာ၊ ဒကာမတွေက ဆွမ်းကပ်ကြလို့ ဆွမ်းခံမသွားရတော့ပါဘူး၊ ပထမတစ်လအတွင်းကဆိုရင် ဆွမ်းခံသွားရင်းနဲ့ ဆွမ်းခံပြန်လာတဲ့အခါမှာ မြို့ကထွက်ပြီး ပြန်လာတော့ ဒီလိုပဲ ဘယ်လှမ်းတယ်၊ ညာလှမ်းတယ်၊ ကြွတယ်၊ လှမ်းတယ်၊ ချတယ်လို့ တဖြည်းဖြည်းချင်း သွားနေခဲ့တယ်၊ ဒီလိုမှတ်ပြီး သွားနေတဲ့အထဲက တခြားကို စိတ်က ထွက်ထွက်သွားသေးတယ်၊ တစ်ခါတစ်ခါ စိတ်ကူးတွေနဲ့ သွားနေလိုက်တာ ခြေလှမ်းတွေတောင်မှ တော်တော်များများ နေပြီထင်ပါရဲ့၊ ပြီးတော့မှ အောင်မယ်စိတ်တွေ ဟိုရောက်၊ ဒီရောက် ရောက်နေပါပေါ့ကလားလို့ ပြန်ပြီးသတိရတော့တယ်၊ ဒီတော့မှ ပြန်ပြီးမှတ်ရတယ်။

အခု ပထဝီ–ပထဝီလို့ ရှုမှတ်နေရာမှာလည်း အဲဒီကနေပြီး စိတ်ကူးတွေ တခြားကို ထွက်ထွက်သွားတတ်သေးတာပဲ၊ ထွက်သွားတာကို သတိပြန်ရတဲ့အခါ ဒီပထဝီကသိုဏ်းကိုပဲ ပထဝီ ပထဝီလို့ ပြန်ရှုရတယ်၊ ဒီပြင်အာရုံကို လိုက်ပြီးရှုစရာမလိုဘူး။ ဒီကသိုဏ်းအာရုံ တစ်ခုကိုပဲ ထပ်ခါထပ်ခါ ရှုနေရမှာ၊

ဝိပဿနာရှုမှတ်ရာမှာကတော့ ဒီလိုမဟုတ်ပါဘူး၊ ဖြစ်တိုင်း၊ ဖြစ်တိုင်းသော ရုပ်၊ နာမ်တရားတွေကိုလိုက်ပြီး ရှုမှတ်ရတာပါပဲ၊ ဒွါရခြောက်ပါးမှ ပေါ်လာသမျှ အကုန်လုံးလိုက်ပြီး ရှုမှတ်ရတာပါပဲ၊ မရှုကောင်းတာရယ်လို့ မရှိဘူး။

## နောက်တော့ ခွါလို့ရလာတယ်

သမထကတော့ သမာဓိ အတော်အတန်မရမချင်း ဒီပထဝီကသိုဏ်း အာရုံတစ်ခုထဲကိုသာ ထပ်ခါထပ်ခါ ရှုနေရတယ်၊ တဖြည်းဖြည်းတော့ ဒီရနေတဲ့ ကသိုဏ်းအာရုံဟာ သူ့ကိုမကြည့်ပဲ မျက်စိမှိတ် နှလုံးသွင်းလိုက်ရင် မျက်စိနဲ့ မြင်ရသလို ပီပီသသမြင်လာတယ်၊ အဲဒီလိုခွာလို့ရလာတဲ့ အာရုံနိမိတ်ကို ဥဂ္ဂဟ နိမိတ်လို့ခေါ်တယ်။

ကသိုဏ်းအာရုံကခွာလို့ ရလာစမှာတော့ ကသိုဏ်းဝန်းဟာ တသား တည်း ချောမွတ်မနေဘဲ မညီညွတ်တဲ့လက်ရာလေးတွေ ဘာလေးတွေနဲ့ ကြမ်း နေတတ်သေးတယ်၊ အဲဒီလို မညီမညွတ် ကြမ်းနေသေးတယ်ဆိုရင် ဥဂ္ဂဟ နိမိတ်အတွင်းမှာပဲ ရှိနေသေးတယ်၊ ဒီလောက်နဲ့ဆိုရင်ပဲ ခွာလို့ရလာတဲ့ ဒီ ဥဂ္ဂဟနိမိတ်အာရုံကို သွားရင်းလာရင်းလည်း ရှုနိုင်ပြီ၊ စားရင်းသောက်ရင်း လည်း ရှုလို့ရပြီ၊ ကသိုဏ်းဝန်းကို ကြည့်ဖို့မလိုတော့ဘူး၊ ခွာရှုလို့ရ နေပါပြီ။

နောက် ရလာတဲ့ ဒီအာရုံကို ထပ်ခါထပ်ခါ ရှုဖန်များလာတော့ အရင်က ကြမ်းနေတဲ့ လက်ရာလေးတွေ ဘာတွေပျောက်ပြီး ကသိုဏ်းအာရုံဟာ တသား တည်း ကြည်လင်ပြတ်သားလာတယ်၊ လဝန်းကြီးကို ကြည့်ရသလို အရောင် အလင်းတွေနဲ့ ကွက်ကွက်ကွင်းကွင်း မြင်လာတယ်၊ အဲဒါကို ပဋိဘာဂနိမိတ်လို့ ခေါ်တယ်။

ဒီအတွင်းမှာ တကယ်လို့ မျက်စိမှိတ်ရှုလို့ မထင်လာတဲ့အခါဆိုရင် အရင်က ပြုလုပ်ထားတဲ့ ကသိုဏ်းဝန်းနားပြန်ပြီး အရင်ကလိုပဲ မျက်စိနဲ့ကြည့်ရှု ရတယ်။ ခွာလို့ရပြန်တော့ ခွာပြီးရှုဖို့ပဲ၊ အရင်ကစိတ်ကလေးတွေ တစ်ခါတစ်ရံ

ကသိုဏ်းဝန်းအာရုံက တခြားထွက်ထွက်သွားတတ်ပေမယ့် ပဋိဘာဂနိမိတ်ရင့်သန်လာတဲ့အခါမှာ ထွက်မသွားတော့ဘူး။ ကသိုဏ်းဝန်းအာရုံပေါ်မှာပဲ ငြိမ်ငြိမ်သက်သက် တည်နေတော့တယ်။ အဲဒီအခါမှာဆိုရင် နီဝရဏတွေ ကင်းနေပြီတဲ့၊ ဗျာပါဒဆိုတဲ့ စိတ်ပျက်မှုတွေလည်း မရှိတော့ဘူး၊ ထိန၊ မိဒ္ဓဆိုတဲ့ ထိုင်းမှိုင်းမှုတွေလည်း ကင်းနေပြီ၊ ဥဒ္ဓစ္စဆိုတဲ့ ပျံ့လွင့်မှုလည်း မရှိတော့ဘူး၊ ကုက္ကုစ္စဆိုတဲ့ စိတ်ပူပန်မှုလည်း မရှိတော့ဘူး၊ ဝိစိကစ္ဆာဆိုတဲ့ ယုံမှားခြင်းလည်း ကင်းသွားတယ်။

သမထနဲ့စပ်ပြီး ယုံမှားတယ်ဆိုတာကတော့ ဈာန်ဆိုတာ ဟုတ်မှဟုတ်ပါ့မလား၊ မှန်မှ မှန်ပါ့မလားလို့ ယုံမှားတာပါပဲ၊ ပထဝီ–ပထဝီ၊ မြေကြီး–မြေကြီးလို့ ဆိုနေရုံနဲ့ ဒီလို မဖြစ်နိုင်ပါဘူး စသည်ဖြင့် ဟုတ်လေလော၊ မဟုတ်လေလောလို့ သို့လော သို့လော ဖြစ်နေမှုမျိုးပါပဲ၊ မဂ်၊ ဖိုလ်နဲ့စပ်ပြီး ယုံမှားတာ၊ မဟုတ်ပါဘူး။ အဲဒီလို ယုံမှားခြင်း၊ ဝိစိကိစ္ဆာလည်း မရှိတော့ဘူး။ အားထုတ်တဲ့အတိုင်း ထူးထူးခြားခြားဖြစ်လာတော့ ယုံမှားကင်းသွားတော့တယ်။ ဒီတော့ ကသိုဏ်းဝန်းကလည်း အရောင်လင်းလေးတွေနဲ့ ကြည်ကြည်လင်လင် သန့်သန့်ရှင်းရှင်းဖြစ်နေပြီ၊ ကြယ်ရောင်လိုလို၊ လရောက်လိုလို အရောင်တဖိတ်ဖိတ်နဲ့ ထင်လာတယ်။

ကောင်းကင်မှာ မိုးသားတွေမှိုင်းပြီးနေတဲ့အခါမှာ ဗျိုင်းကလေးများပျံနေတဲ့အခါ ထင်ရှားသလိုပဲ၊ ညှိုမှိုင်းနေတဲ့ မိုးသားထဲမှာ ဗျိုင်းဖြူကလေးပျံနေတာကို ကြည့်ရတာ ပိုပြီးထင်ရှားတာပေါ့။ အဲဒီလိုပဲ အနိမ့်အမြင့်လက်ရာလေးတွေ ထင်နေသေးတဲ့ ဥဂ္ဂဟနိမိတ် အာရုံတုန်းကထက် ပိုပြီးသန့်သန့်ရှင်းရှင်း ကြည်လင်ထင်ရှားလာတယ်၊ အဲဒါကို ထပ်ခါထပ်ခါ နှလုံးသွင်းပြီး ရှုရမယ်။ သမာဓိအနေနဲ့ဆိုရင် အဲဒီအခါမျိုးမှာ ဥပစာရသမာဓိလို့ ခေါ်တယ်၊ နီဝရဏတွေ ကင်းနေပြီတဲ့။

အဲဒီနေရာမှာ ဖြစ်ခိုက် ရုပ်၊ နာမ်တွေကို ဝိပဿနာရှုပြီး အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ လက္ခဏာရေးသုံးပါး တစ်ပါးပါးကို သိပြီးသွားမယ်ဆိုရင်လည်း မဂ်၊ ဖိုလ်၊ နိဗ္ဗာန်ကို ရနိုင်ရောက်နိုင်ပါတယ်၊ ကသိုဏ်းအာရုံကိုပဲ ဆက်ပြီး ရှုမယ်ဆိုရင်လည်း ဈာန်အင်္ဂါငါးပါးနဲ့ပြည့်စုံတဲ့ ပဌမဈာန်ကိုရမယ်တဲ့၊ အစအဆုံး ရတဲ့ဈာန်ဖြစ်လို့ သူ့ကို ပဌမဈာန်လို့ ခေါ်တယ်တဲ့၊ အဲဒီဈာန် ဖြစ်ခိုက်ကလေး ကို မြတ်စွာဘုရားက--

ယသ္မိံ သမယေ၊ အကြင်အခါကာလ၌၊ ရူပူပပတ္တိယာ၊ ရူပဘဝ၌ ဖြစ်ခြင်း၏။ မဂ္ဂံ၊ အကြောင်းဖြစ်သော။ ပထဝီ ကသိဏံ၊ ပထဝီကသိုဏ်းလျှင် အာရုံရှိသော။ ပဌမံဈာနံ၊ ပဌမဈာန်သို့။ ဥပသမ္ပဇ္ဇ၊ ကပ်ရောက်၍။ ဝိဟရတိ၊ နေ၏-တဲ့။ ဒီလို ဟောတော်မူပါတယ်။ ပဌမဈာန်ရနေပြီတဲ့။

## နိုင်နေတော့ လွယ်ကူပါတယ်

ဈာန်အကြောင်းကို နားလည်အောင်လို့ ဈာန်ရဲ့ဂုဏ်ပုဒ်တွေကို ထည့်ပြီးတော့ ပြောရတယ်၊ ဟောတော်မူတဲ့ ဒီအထဲမှာ အားထုတ်ပုံတွေပါ မပါပေမယ့် ဘုန်းကြီးက အားထုတ်ပုံကိုပါ ထည့်ဟောပါတယ်၊ ဈာန်ဆိုလို့ လွယ်လွယ်လေးတော့ မဟုတ်ဘူး၊ ဒီလို အားထုတ်မှသာ ဖြစ်တာ၊ အားမထုတ် ဘဲနဲ့ ဖြစ်တာမျိုးမဟုတ်ဘူး၊ ဈာန်ရပြီးသား ပုဂ္ဂိုလ်မှာတော့ အာရုံပြုလိုက် တယ်ဆိုရင် ဒီဈာန်ဟာ ချက်ချင်းဖြစ်လာတာပဲ၊ အခု ဝိပဿနာရှုနေကြတဲ့ ပုဂ္ဂိုလ်တွေလည်း ရှုမှတ်ပါများလို့ နိုင်နေပြီဆိုရင် ဒီလိုပါပဲ။ တရားကို နှလုံး သွင်းလိုက်တာနဲ့တစ်ပြိုင်နက် ရှုမှတ်နေကျအတိုင်း လွယ်လွယ်နဲ့ရှုမှတ်ပြီး သား ဖြစ်နေတာပါပဲ။

ဈာန်မှာလည်း ဒီလိုပါပဲ၊ ကိုယ်ရောက်နေကျ အာရုံထဲကို စိတ်ကလေး ညွှတ်လိုက်ရုံနဲ့ ဈာန်ရောက်နေကျ အာရုံဆီသို့ လွယ်လွယ်နဲ့ ရောက်သွားပါ တယ်၊ အလေ့အလာများပြီး နိုင်နေကျလို့ရှိရင်ပေါ့၊ ပြောခဲ့တဲ့အတိုင်း

အဲဒီဈာန်စိတ်နဲ့အတူ ဝိတက်ဆိုတဲ့အာရုံကို ကြံစည်မှုသဘောလေးလည်းပါတယ်။ ဝိစာရဆိုတဲ့ အာရုံကို ဆင်ခြင်သုံးသပ်မှု သဘောလေးလည်း ပါတယ်။ ပီတိဆိုတဲ့ နှစ်သိမ့်အားရမှု၊ ဝမ်းသာမှု၊ တက်ကြွမှု၊ တစ်ကိုယ်လုံး ပျံ့နှံ့ပြီး အင်မတန်ကောင်းတဲ့ သဘောလေးလည်းပါတယ်၊ သုခဆိုတဲ့ စိတ်ချမ်းသာမှု၊ စိတ်ရွှင်လန်းမှုလေးလည်းပါတယ်၊ ဧကဂ္ဂတာဆိုတဲ့ စိတ်နဲ့ အာရုံကပ်နေတဲ့ သဘောလေးလည်းပါတယ်၊ အာရုံထဲမှာ စိတ်ဝင်စားနေသလို အာရုံထဲမှာ စိတ်ကရောက်ပြီး အာရုံနဲ့စိတ်ဟာ တပူးတပေါင်းတည်းကပ်နေတဲ့ သဘောလည်းပါတယ်၊ သမာဓိပါပဲ၊ အဲဒီလို ဈာန်အင်္ဂါ ၅-ပါးနဲ့ပြည့်စုံတဲ့ ပဌမဈာန်သို့ ရောက်နေတယ်တဲ့။

တသ္မိံ သမယေ၊ ထို ပဌမဈာန်သို့ ရောက်သောအခါ၌။ ဖဿော ဟောတိ၊ ဖဿဖြစ်၏။

ဒါဟာ ဖဿပဥ္စမက တရားပါပဲ၊ ကာမာဝစရ ကုသိုလ်စိတ် ဖြစ်စဉ်က ပါဝင်ခဲ့တဲ့ တရားတွေ ၅၆-ပါးဟာ ယခု ရူပါဝစရဈာန် ကုသိုလ်စိတ်ဖြစ်တော့လည်း ပါဝင်တာပဲ၊ ဒီ ၅၆-ပါးပင်ဖြစ်တယ်၊ ဝေဒနာ ဟောတိ၊ ဝေဒနာဖြစ်၏။ သညာ ဟောတိ၊ သညာဖြစ်၏။ စေတနာ ဟောတိ၊ စေတနာဖြစ်၏။ စိတ္တံ ဟောတိ၊ စိတ်ဖြစ်၏။ စသည်ဖြင့် ကာမာဝစရကုသိုလ်မှာ ဝေဖန်သလို ဒီမှာလည်း ၅၆-ပါးလုံး ဝေဖန်ပါတယ်။

ယေ ဝါ ပန အညေပိ အတ္ထိ ပဋိစ္စသမုပ္ပန္နာ ဓမ္မာ။

တသ္မိံ သမယေ၊ ထိုအခါ၌၊ အညေပိ၊ ၅၆-ပါးမှတစ်ပါး အခြားလည်း ဖြစ်ကုန်သော၊ ပဋိစ္စသမုပ္ပန္နာ၊ အကြောင်းကို စွဲ၍ဖြစ်ကုန်သော၊ ယေဝါပန အရူပိနော၊ အကြင်နာမ်တရားတို့သည်။ အတ္ထိ၊ ရှိကုန်၏။ ဣမေဓမ္မာ၊ ဤတရားတို့သည်။ ကုသလာ၊ ကုသိုလ်တရားတို့ပေတည်းလို့ ဝေဖန်ပြထားတယ်၊ ကာမာဝစရ ကုသိုလ်စိတ်တုန်းကနဲ့ ဒီမှာက ၅၆-ပါး တရားရော၊ ယေဝါပနက တရားရော အတူတူပါပဲ၊ ကရုဏာကတော့ ကရုဏာဈာန်

ကျကာမှ ပါတယ်။ ဒီမှာ မပါဘူး။ ဒီပြင်ဇောနဲ့တွေမှာလည်း မပါဘူး။ ချမ်းသာတဲ့ ပုဂ္ဂိုလ်တွေကို အာရုံပြုတဲ့ မုဒိတာဇောနဲ့ဆိုရင် မုဒိတာပါဝင်တယ်၊ အခြား ကာသိုဏ်းဇောနဲ့တွေမှာ မပါဝင်ဘူး၊ သမ္မာဝါစာ သမ္မာကမ္မန္တ သမ္မာအာဇီဝဆိုတဲ့ ဝိရတီ ၃-ပါးကတော့ ဇောနဲ့စိတ်တွေမှာ မပါဘူး၊ ဒီတော့ တရားကိုယ်ကို ပေါင်းလိုက်ရင် ပထမက ၃၀-ရယ်၊ ယေဝါပနကမှာက ၄-ပါးရယ်၊ အားလုံး ၃၄-ပါး၊ အဲဒီတရားတွေဟာ ရူပါဝစရကုသိုလ်စိတ်မှာ ပထဝီကသိုဏ်းအာရုံကို အာရုံပြု ဖြစ်တဲ့ ဇောနဲ့စိတ်နဲ့တကွဖြစ်တဲ့ တရားတွေတဲ့။

# ပိုတယ်လို့ ထင်ကြတယ်

အဲဒါကို ဓမ္မသင်္ဂဏီ ၅၆-ပါးသောတရားတွေကို သရုပ်ထုတ်ပြီးတော့ ထပ်ဝေဖန်ပြပါတယ်၊ ကတမော တသ္မိံ သမယေ ဖဿော ဟောတိ၊ တသ္မိံ သမယေ၊ ထိုပဥ္စမဇောနဲ့စိတ် ဖြစ်သောအခါ၌၊ ကတမော ဖဿော၊ အဘယ်သို့ သော ဖဿသည်၊ ဟောတိ၊ ဖြစ်ပါသနည်း။ ဖဿဆိုတော့ ဘယ်လို ဖဿလဲတဲ့၊ ကာမာဝစရကုသိုလ်စိတ်တုန်းကလည်း ဒီလိုဝေဖန်ပြီးသားပဲ၊ ဒါပေမယ့်လို့ ရှေးက ဝေဖန်ပြီးပြီဆိုပြီး ချန်မထားဘူး။ အကုန်လုံးလျှောက် ပြီးတော့ ဝေဖန်ပြန်တယ်။ ယခုကာလ လူတွေအနေနဲ့ဆိုရင်တော့ "ဒါတွေဟာ ထပ်တူဖြစ်နေတယ် ပိုတာပဲ"လို့ ထင်ကြပေလိမ့်မယ်၊ ယောနိသော မနသိကာရ သဘောနဲ့ဆိုရင်တော့လည်း တရားတွေ ထပ်ခါထပ်ခါနာကြားနေရတာ ဗဟုသုတလည်းပွား၊ ကုသိုလ်လည်းရတယ်လို့ နှလုံးသွင်းနိုင်မှာပါပဲ၊ ပြီးတော့ မြတ်စွာဘုရားအသံတော်က ကြည်ညိုဖွယ်ကောင်းတာဖြစ်လို့ နာယူတဲ့ပုဂ္ဂိုလ် တွေဟာ ပျင်းရိငြီးငွေ့မှာလည်း မဟုတ်ပါဘူး၊ ပြီးစလွယ်ကြိုက်တဲ့ ယခုခေတ် လူတွေကတော့ ပျင်းရိငြီးငွေ့ကြမှာပဲ၊ စာဖတ်ရတာတောင် ပျင်းစရာ အင်မတန် ကောင်းတယ်၊ မြတ်စွာဘုရားကတော့ အဘိဓမ္မာတရားကို ဟောတော်မူတုန်းက ဒီလို ထပ်ခါထပ်ခါဝေဖန်ပြီး ဟောတော်မူတာပါပဲ။

# သူ့ထက်ကြီးကျယ်တဲ့တရား မရှိဘူး

နောက်ပြီးတော့ ကောဋ္ဌာသဝါရတဲ့ "တသ္မိံ သမယေ စတ္တာရော ခန္ဓာ ဟောန္တိ၊ ဒွါဒသာယတနာနိ ဟောန္တိ၊ ဒွေ ဓာတုယော ဟောန္တိ" စသည်ဖြင့် ခန္ဓာ အာယတန ဓာတ်စသည်ကို ဝေဖန်ဟောကြားပြန်ပါတယ်၊ ထိုအခါ ကာလမှာ နာမ်ခန္ဓာလေးပါး ပါဝင်တယ်တဲ့၊ အဲဒီ နာမ်ခန္ဓာလေးပါးကို ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာလို့ ဝေဖန်ပါသေးတယ်၊ အဲဒီမှာလည်း တစ်ခါ ဝေဒနာက္ခန္ဓာဆိုတာ ဘာလဲလို့ ဝေဖန်ပြန်ပါသေးတယ်၊ ဒါ အဘိဓမ္မာအကျယ်ဝေဖန်ပြီး ဟောတော်မူပုံပါပဲ၊ အင်မတန်ကို ကျယ်ဝန်းပါတယ်။ ဒါကြောင့် အဘိဓမ္မာဆိုတာ လွန်ကဲတဲ့တရားတဲ့၊ သုတ္တန်မှာ ဆိုရင် ဒီလိုမဟောဘူး၊ သိသာရုံလေး ဟောပြီးရင်ပြီးတာပဲ၊ အဘိဓမ္မာမှာတော့ ဒီလိုပဲ ထပ်ခါထပ်ခါဟောတယ်၊ အသေးစိတ်ဝေဖန်ပြီး မခြွင်းမချန်ဟောတယ်၊ ဒါကြောင့်လည်း အဘိဓမ္မာကို လွန်ကဲသောတရား၊ ထူးသောတရားလို့ ဆိုတာပါပဲ၊ ရောမတရားကြီး၊ အင်မတန်ကြီးကျယ်တဲ့တရားကြီး၊ သူ့ထက် ကြီးကျယ်တာမရှိဘူး။

ကောဋ္ဌာသဝါရကို ဟောပြီးတော့ တစ်ခါ သုညတဝါရကို ဟောပြန်တယ်၊ "တသ္မိံ ခေါ ပန သမယေ ဓမ္မာ ဟောန္တိ၊ ခန္ဓာ ဟောန္တိ၊ အာယတနာနိ ဟောန္တိ၊ ဓာတုယော ဟောန္တိ စသည်ဖြင့် ဟောကြားထားတယ်။ အဲဒီအခါမှာ သဘောတရားတွေ ဖြစ်တယ်၊ ပုဂ္ဂိုလ်သတ္တဝါတွေဆိုတာ မရှိဘူးတဲ့၊ ဓမ္မဆိုတာ ဘာတွေတုန်းဆိုပြန်တော့၊ နာမ်ခန္ဓာလေးပါးတွေတဲ့၊ ဓမ္မဆိုတာလည်း ခန္ဓာ လေးပါးပဲကိုး၊ ခန္ဓာအရ နာမ်ခန္ဓာလေးပါး၊ အာယတနအရ မနာယတန၊ ဓမ္မာယတန နှစ်ပါး၊ ဓာတုအရ မနောဝိညာဏဓာတ်နဲ့ ဓမ္မဓာတ်နှစ်ပါး အဲဒီလို ဝေဖန်ပြီး အာဟာရတွေ၊ ဖဿတွေ၊ ဝေဒနာတွေ ဒီလိုပဲ အကျယ်ကြီးကို လျှောက်ဝေဖန်တယ်၊ ပဌမစျာန်စိတ်တစ်ခုကို ဒီလိုဝေဖန်ပြီးတော့ နောက်မှ

ဒုတိယဈာန်စိတ်တစ်ခုကို ဝေဖန်တယ်၊ ပဌမဈာန်စိတ်ဖြစ်ပုံကိုပဲ ဝေဖန်လို့ မပြီးနိုင်ခဲ့ပါဘူး၊ ဒုတိယဈာန်ကိုလည်း ဒီလို အကျယ်ကြီးဝေဖန်တာပါပဲ။ ဘုန်းကြီးကတော့ ဒုတိယဈာန်စိတ်ကို ဟောတော်မူတာပါပဲ။

## ဒုတိယဈာန်စိတ်

ယသ္မိံ သမယေ ရူပူပပတ္တိယာ ကတမေ ဓမ္မာ ကုသလာ။ ကုသလာ၊ ကုသိုလ်မည်ကုန်သော။ ဓမ္မာ၊ တရားတို့ဟူသည်။ ကတမေ၊ အဘယ်သည်တို့နည်း။ ယသ္မိံသမယေ၊ အကြင်အခါ၌။ ရူပူပပတ္တိယာ၊ ရူပဘဝ ဖြစ်ခြင်း၏။ မဂ္ဂံ၊ အကြောင်းမှန်ဖြစ်သော ဈာန်ကို။ ဘာဝေတိ၊ ဖြစ်စေ၏။ ဝိတက္ကဝိစာရာနံ၊ ဝိတက်၊ ဝိစာရ တို့၏။ ဝူပသမာ၊ မဖြစ်ခြင်းကြောင့်။ ဝါ၊ ငြိမ်းခြင်း ကြောင့်။ အဝိတက္ကံ၊ ဝိတက်လည်းမရှိသော။ အဝိစာရံ၊ ဝိစာရလည်းမရှိသော။ သမာဓိဇံ၊ သမာဓိကြောင့် ဖြစ် သော။ ပီတိသုခံ၊ ပီတိသုခလည်းရှိသော။ ပထဝီကသိဏံ၊ ပထဝီကသိုဏ်းလျှင် အာရုံရှိသော၊ ဒုတိယံ ဈာနံ၊ ဒုတိယ ဈာန်သို့၊ ဥပသမ္ပဇ္ဇ၊ ကပ်ရောက်၍။ ဝိဟရတိ၊ နေ၏၊ တသ္မိံ သမယေ၊ ထိုအခါ၌၊ ဖဿော ဟောတိ၊ ဖဿဖြစ်၏၊ ဝေဒနာ ဟောတိ၊ ဝေဒနာဖြစ်၏။ သညာ ဟောတိ၊ သညာဖြစ်၏ စသည်ဖြင့် ဝေဖန်သွားတယ်။

ပဌမဈာန်ကို ရပြီးသားဖြစ်တဲ့ပုဂ္ဂိုလ်က ပဌမဈာန်ကို ထပ်ခါထပ်ခါ နှလုံးသွင်းတဲ့အခါ အပြစ်မြင်လာတာရှိတယ်တဲ့၊ ဘာကို အပြစ်မြင်လာ သလဲဆိုတော့ ဝိတက်နဲ့ ဝိစာရကို အပြစ်မြင်လာတယ်၊ ဝိတက်က အာရုံပေါ်လာ အောင် ကြံစည်ပေးမှ အာရုံပေါ်တယ်၊ ပေါ်လာတဲ့အာရုံကို ထပ်ခါထပ်ခါ

နှလုံးသွင်းမှ ဝိတက်ဖြစ်လာတယ်၊ ဒီတရားတွေဟာ မကောင်းဘူး၊ အာရုံကို မကြံစည်ရဘဲနဲ့ သူ့အလိုလိုပေါ်နေရင် ကောင်းတယ်၊ ရလာတဲ့အာရုံကို ထပ်ခါ ထပ်ခါ သုံးသပ်ဆင်ခြင်နေရတာလည်း နူးညံ့သိမ်မွေ့မှုမရှိဘူး၊ ဘာနဲ့တူ သလဲ ဆိုရင် မရဖူးတဲ့ပစ္စည်းလေးတစ်ခု ရလာတဲ့အခါ ခဏခဏထုတ်ပြီး ကြည့်နေ တာနဲ့တူတယ်၊ အဲဒါ စိတ်သဘော သေးနုပ်ရာ ရောက်တယ်။

ရလာတဲ့အာရုံကို ဂရုမစိုက်ဘဲနေနိုင်မှ ကောင်းတယ်လို့ အပြစ်မြင် လာတယ်၊ ပြီးတော့ ပီတိ၊ သုခ၊ ဧကဂ္ဂတာ ဒီသုံးခုက ကောင်းတယ်ဆိုပြီး မူလက နှလုံးသွင်းလာခဲ့တဲ့ ပထဝီကသိုဏ်းကို ထပ်ခါထပ်ခါ နှလုံးသွင်းတယ်၊ ဒီလိုနဲ့ နှလုံးသွင်းဖန်များလာတော့ ကြံစည်သုံးသပ်ဆင်ခြင်မှုဆိုတဲ့ ဝိတက်၊ ဝိစာရတွေကင်းပြီး ဒုတိယဈာန်အဆင့် ရောက်လာတော့တာပါပဲ။ ရထားတဲ့ အာရုံကို မကြံစည်၊ မသုံးသပ်၊ မဆင်ခြင်ပဲ ပီတိ၊ သုခ၊ ဧကဂ္ဂတာ၊ သမာဓိတွေ ဖြစ်နေတယ်၊ အဲဒါ ဒုတိယဈာန်ပဲ၊ ဒီဒုတိယဈာန်ဖြစ်တဲ့ အခါမှာလည်း–

တသ္မိံ သမယေ ဖဿော ဟောတိစသည်ဖြင့် ဝေဖန်တယ်၊ ဒီမှာတော့ ၅၆–ပါး တရားထဲက လျော့တာရှိတယ်၊ ဘာတွေလျော့သွားသလဲဆိုတော့ ဝိတက်နဲ့ဝိစာရပါပဲ၊ သူတို့နှစ်ပါး မပါတော့ဘူး။ ဒီတော့ "ဝိတက္ကော ဟောတိ၊ ဝိစာရော ဟောတိ"ဆိုတာကို ထည့်ပြီး မဟောရတော့ဘူး၊ ဖဿပဉ္စမက ၅–ပါးကတော့ မလျော့ဘူး၊ ဈာန်အင်္ဂါမှာ ဝိတက်၊ ဝိစာရလျော့တယ် မပါတော့ဘူး။ မဂ္ဂင်ကျတော့ သမ္မာသင်္ကပ္ပလျော့တယ် မပါဘူး၊ ဒီလောက်ပါပဲ၊ ကျန်တာတွေကတော့ အားလုံးဖြစ်ကြ ပါကြပါတယ်၊ ၅၆–ပါးထဲက ၃–ပါးလျော့ သွားတော့ ၅၃–ပါးပဲ ကျန်တော့တယ်။

ဒီမှာလည်း ပဌမဈာန်တုန်းကလို မွေ့ဒွေသ ရော၊ သုညတဝါရရော အသီးသီးအသေးစိတ် ဟောကြားတာပါပဲ၊ အဲဒါဟာ ပထဝီကသိုဏ်းကို အာရုံပြုဖြစ်တဲ့ ဒုတိယဈာန်တဲ့။

## တတိယစျာန်

တတိယစျာန်ကျတော့လည်း ဒီအတိုင်းပါပဲ။ ဒုတိယစျာန်ရပြီးတဲ့ ပုဂ္ဂိုလ်က ဒုတိယစျာန်အပေါ်မှာ အပြစ်မြင်လာပြန်တယ်။ ဘယ်လို အပြစ်မြင် သလဲဆိုတော့ နှစ်သိမ့်အားရဝမ်းသာမှုဆိုတဲ့ ပီတိဟာ သဘောသေးသိမ်တယ်၊ သူရှိနေတာသဘောနဲ့ရာရောက်တယ်လို့ ဆိုရမှာပေ့ါ၊ ကလေးငယ်တွေမှာ တစ်မုန့်ဆယ်ပြားလောက်ရရင် အင်မတန် ဝမ်းသာကြတယ်၊ လူကြီးကျတော့ ကလေးလို တစ်မုန့်ဆယ်ပြားရရုံလောက်နဲ့ ဝမ်းမသာဘူး၊ ကလေးများလို ရသမျှနဲ့ အားရဝမ်းသာနေရတာဟာ သေးသိမ်တယ်ပေ့ါ၊ ဝမ်းသာအားရ ဖြစ်နေရတာ နေရာမကျဘူး၊ အားရဝမ်းမြောက်ခြင်းမရှိဘဲ စိတ်ချမ်းသာရုံ နေရတာက ပိုကောင်းတယ်လို့ နှလုံးသွင်းပြီး ပီတိကင်းအောင် ပထဝီက သိုဏ်းကို တစ်ဖန်ဆက်ပြီး အားထုတ်ပြန်တယ်၊ ဒီလိုနဲ့ သမာဓိတွေ အတော် အားကောင်းလာတဲ့အခါ သူ့အလိုမရှိတဲ့ ပီတိဟာ ကင်းသွားတယ်တဲ့၊ ချမ်းသာမှု လောက်နဲ့ပဲ တည်ကြည်ငြိမ်သက်နေတော့တယ်၊ ဒီသဘောကို ကွဲကွဲပြားပြား သိနိုင်ခဲ့ပါတယ်။

## ဥဒယဗ္ဗယဉာဏ် အရင့်ပိုင်းရောက်မှ ရှင်းတယ်

ဥဒယဗ္ဗယဉာဏ်ရောက်စ ယောဂီတွေမှာ ပီတိနဲ့ သုခ သဘော ချင်းရောသလိုလို ရှိနေတတ်တယ်၊ ပီတိအနေနဲ့ စိတ်တွေ နှစ်သိမ့်တက်ကြွပြီး အားရနေတာပဲ၊ သုခအနေနဲ့လည်း ချမ်းသာနေတာပဲ၊ ဘယ်လို ချမ်းသာ မှန်းတောင်မှ မသိဘူး၊ နောက်ပြီးတော့ ပေါ်လာသမျှအာရုံတွေကို ဆက်လက် ရှုမှတ်လိုက်တဲ့ အခါကျတော့မှ အရောင်အလင်းတွေနဲ့ နှစ်သိမ့်အားရမှု ပီတိတွေ ပျောက်သွားပြီး ချမ်းသာတဲ့ သဘောသက်သက်သာ ကျန်တော့တယ်၊ ချမ်းသာ လွန်းပြီး တစ်ခါတည်းမှတ်လို့ ကောင်းနေတော့တယ်၊ အဲဒီအခါမှာ ပီတိမပါဘဲ

သုခဖြစ်နေတာပါပဲ၊ အထက်သခါရှပေက္ခာဉာဏ် ရောက်တဲ့အခါမှာလည်း ပီတိမပါဘဲ သုခသက်သက်ဖြစ်နေတာကို တွေ့နိုင်ပါတယ်။ အဲဒါကျတော့ ပိုပြီးတော့ ကောင်းပါတယ်။

အဲဒီလိုပါပဲ၊ ယခုဈာန်မှာလည်း ပီတိကင်းတယ်တဲ့၊ ပီတိမပါဘဲ သုခနဲ့ ဧကဂ္ဂတာ ဈာန်အင်္ဂါနှစ်ပါးနဲ့ တတိယဈာန်ရောက်ပြီးနေတယ်၊ ဒီမှာလည်း "တသ္မိံသမယေ ဖဿော ဟောတိ၊ ထိုအခါမှာလည်း ဖဿဖြစ်တယ်၊ ဝေဒနာဖြစ်တယ်"စသည်ဖြင့် ဝေဖန်ဟောကြားတာပါပဲ၊ ဒီမှာလည်း ဈာန်အင်္ဂါ ၅-ပါးထဲက ၃-ပါးလျော့သွားတယ်၊ ၂-ပါးပဲ ကျန်တော့တယ်၊ ဝိတက်၊ ဝိစာရ၊ ပီတိ ဒီသုံးပါးလျော့သွားတယ်။ နောက်ဟာတွေကျတော့ သိပ်မထူးဘူး၊ ခုနက ဈာန်က ၅၃-ပါး၊ အခု ပီတိထပ်ပြီးလျော့သွားတော့ ၅၂-ပါးရှိတော့တယ်၊ ဒီဈာန်ဖြစ်တဲ့အခါမှာ ခန္ဓာလေးပါးဖြစ်တယ်၊ အာယတနနှစ်ပါး ဖြစ်တယ်၊ ဓာတ်နှစ်ပါးဖြစ်တယ် စသည်ဖြင့် ဖြစ်သင့်တဲ့တရားတွေကို ဝေဖန်ပြောကြားတယ်၊ အဲဒါဟာ ပထဝီကသိုဏ်းကို အာရုံပြုဖြစ်တဲ့ တတိယဈာန်တဲ့။

## စတုတ္ထဈာန်

တတိယဈာန်ရနေတဲ့ ပုဂ္ဂိုလ်မှာလည်း ရရှိနေတဲ့ တတိယဈာန်ကို အပြစ်မြင်လာပြန်ပါတယ်၊ ဘယ်လိုမြင်လာသလဲဆိုရင် ချမ်းသာမှု သုခဟာ မငြိမ်သက်ဘူး၊ ရှန့်ရင်းကြမ်းတမ်းတယ်၊ ဥပေက္ခာဝေဒနာနဲ့ ဧကဂ္ဂတာ သာလျှင် ငြိမ်သက်တယ်လို့ တတိယဈာန်အပေါ်မှာ အပြစ်မြင်လာတယ်၊ ဒီတော့ တတိယဈာန်သုခကို မလိုလားဘဲ ငြိမ်းစေရန် ရရှိပြီးဖြစ်တဲ့ ပထဝီကသိုဏ်း ပဋိဘာဂနိမိတ်အာရုံကိုပင် ပထဝီ ပထဝီ၊ မြေ မြေနဲ့ဆက်လက်ပြီး ပွားများတယ်၊ ပွားများဖန်များတော့ အလိုရှိတဲ့အတိုင်း ဥပေက္ခာ ဧကဂ္ဂတာ ဈာန်အင်္ဂါ ၂-ပါးနဲ့ ပြည့်စုံတဲ့ စတုတ္ထဈာန် ဖြစ်ပေါ်လာတော့တယ်။

ဒီမှာလည်း ဟောစဉ် မထူးလှပါဘူး၊ ထူးတာက တတိယဈာန်မှ

စတုတ္ထဈာန်သို့ ရောက်လာတာလောက်သာ အနည်းငယ်ထူးတယ်၊ ဒီနေရာမှာ မြတ်စွာဘုရားက "ကတမေ ဓမ္မာ ကုသလာ။ ယသ္မိံ သမယေ ရူပူပပတ္တိယာ မဂ္ဂံ ဘာဝေတိ သုခဿစ ပဟာနာ ဒုက္ခဿစ ပဟာနာ ပုဗ္ဗေဝ သောမနဿ ဒေါမနဿာနံ အတ္ထင်္ဂမာ အဒုက္ခမသုခံ ဥပေက္ခာသတိပါရိသုဒ္ဓိံ စတုတ္ထံ ဈာနံ ဥပသမ္ပဇ္ဇ ဝိဟရတိ ပထဝီကသိဏံ"လို့ ဟောကြားထားတယ်။

ကုသလာ ဓမ္မာ၊ ကုသိုလ်တရားတို့ဟူသည်။ ကတမေ၊ အဘယ်သည်တို့နည်း။ ယသ္မိံ သမယေ၊ အကြင်အခါ၌၊ ရူပူပပတ္တိယာ၊ ရူပဘဝ၌ဖြစ်ခြင်း၏။ မဂ္ဂံ၊ အကြောင်းဖြစ်သော။ စတုတ္ထံ ဈာနံ၊ စတုတ္ထဈာန်ကို။ ဘာဝေတိ၊ ပွားများသောအားဖြင့် ဖြစ်စေ၏။ သုခဿစ ပဟာနာ၊ သုခ၏လည်း ကင်းခြင်းကြောင့်။ ဒုက္ခဿစ ပဟာနာ၊ ဒုက္ခ၏လည်း ကင်းခြင်းကြောင့်။ ပုဗ္ဗေဝ၊ ရှေးမဆွက ပင်လျှင်။ သောမနဿ ဒေါမနဿာနံ၊ စေတသိကသုခ၊ စေတသိက ဒုက္ခတို့၏။ အတ္ထင်္ဂမာ၊ ချုပ်ခြင်းကြောင့်၊ အဒုက္ခမသုခံ၊ ဒုက္ခလည်း မဟုတ်၊ သုခလည်းမဟုတ်သော။ ဥပေက္ခာသတိ ပါရိသုဒ္ဓိံ၊ ဥပေက္ခာကြောင့် သတိ၏စင်ကြယ်ခြင်းရှိသော။ ပထဝီကသိဏံ၊ ပထဝီကသိုဏ်းလျှင် အာရုံရှိသော။ စတုတ္ထံဈာနံ။ စတုတ္ထဈာန်သို့၊ ဥပသမ္ပဇ္ဇ၊ ကပ်ရောက်၍။ ဝိဟရတိ၊ နေ၏တဲ့။

ဒီစတုတ္ထဈာန်ကျတော့ သုခ ဒုက္ခတွေ ကင်းငြိမ်သွားပြီးတဲ့၊ အင်မတန် သိမ်မွေ့တဲ့ ဥပေက္ခာနဲ့ ဧကဂ္ဂတာဈာန်အင်္ဂါ ၂-ပါးနဲ့ပဲ ပြည့်စုံတော့တယ်။ နောက်ပြီးတော့၊ တသ္မိံ သမယေ၊ ထိုအခါ၌။ ဖဿော ဟောတိ၊ ဖဿဖြစ်၏။ ဝေဒနာ ဟောတိ၊ ဝေဒနာဖြစ်၏ စသည်ဖြင့် ရှေးနည်းတူပဲ ဟောတော်မူတယ်။ ဒီဈာန်မှာ ဈာန်အင်္ဂါ ၅-ပါးထဲက တတိယဈာန်တုန်းကအတိုင်း ဝိတက်၊ ဝိစာရ၊ ပီတိ ဒီ ၃-ပါးထဲပဲ လျော့တယ်၊ သုခဝေဒနာနဲ့ ဥပေက္ခာ ဝေဒနာ အပြောင်းအလဲကြောင့် အင်္ဂါလျော့မသွားပါဘူး။

ရှုပချာန်နေရာမှာ စတုက္ကနည်း၊ ပဉ္စကနည်းလို့ နှစ်မျိုးရှိတယ်။ အစပြခဲ့တာက စတုက္ကနည်းတဲ့၊ စတုက္ကနည်းဆိုတာ ရှုပချာန်သရုပ်ကို ၄-မျိုးခွဲပြီး ရေတွက်တဲ့နည်းပါပဲ။ အဲဒီနည်းမှာ ရေတွက်တဲ့အခါ ပဌမချာန်၊ ဒုတိယချာန်၊ တတိယချာန်၊ စတုတ္ထချာန် ဒီလို ၄-မျိုး ခွဲပြီး ရေတွက်ရတယ်။ ဒီလို ရေတွက်ရာမှာ ဒုတိယချာန်နဲ့ တတိယချာန်ကို ပေါင်းပြီး ရေတွက်တယ်၊ ဘာကြောင့်လဲဆိုတော့ ဘုံအလိုက်အကျိုးပေးတဲ့အခါမှာ ဒီကုသိုလ်နှစ်မျိုးက အကျိုးဟာ ဒုတိယချာန် ဖြဟ္မာဘုံမှာချည်း ပဋိသန္ဓေကျိုးသွားပေးတယ်။ ဒါကြောင့် ရောပြီး ရေတွက်ထားတယ်၊ ဒီတော့ စတုတ္ထချာန်က တတိယနေရာမှာရောက်လာတယ်၊ အဘိဓမ္မတ္ထ သင်္ဂဟကျမ်းမှာတော့ ပုံမှန်အတိုင်း ဒုတိယချာန်ကို ခွဲပြီးရေတွက်ထားတာဖြစ်လို့ ပဉ္စကနည်းအားဖြင့် ၅-ပါး ရေတွက်ပြထားတယ်။

ဒီမှာတော့ မြတ်စွာဘုရား စတုက္ကနည်းရော၊ ပဉ္စကနည်းရော နှစ်နည်းလုံးဟောထားပါတယ်။ဟောကြားတဲ့အခါမှာလည်း အသေးစိတ်ဟောကြားထားတာဖြစ်လို့ အကျယ်ကြီးပါပဲ။ သိလောက်နေရပြီဖြစ်တဲ့ ပဉ္စကနည်းကို ဒီမှာ မပြောတော့ဘဲ ချုံးလိုက်ကြရအောင်။

## ပဋိပဒါ ၄-မျိုး

ရှုပကုသိုလ် ပဉ္စကနည်းကို ဟောကြားပြီးတော့ ပဋိပဒါ ၄-မျိုးကို ဟောကြားပါတယ်၊ အကျင့်ပဋိပတ်နဲ့ စပ်နေတာဖြစ်တော့ တစ်မျိုးနဲ့တစ်မျိုး ခြားနားနေတဲ့ ပဋိပတ်ကိုလည်း ထည့်သွင်းဟောကြားထားပါတယ်။

ကတမေ ဓမ္မာ ကုသလာ၊ ယသ္မိံ သမယေ ရူပူပပတ္တိယာ မဂ္ဂံ ဘာဝေတိ ဝိဝိစ္စေဝ ကာမေဟိ။ပ။ ပဌမံ သမယေ ဥပသမ္ပဇ္ဇ ဝိဟရတိ ဒုက္ခပဋိပဒံ ဒန္ဓာဘိညံ ပထဝီကသိဏံ၊ တသ္မိံ သမယေ ဖဿော ဟောတိ ။ပ။ အဝိက္ခေပေါ ဟောတိ။ ပ။ ဣမေ ဓမ္မာ

ကုသလာတဲ့။

ကုသလာဓမ္မာ။ ကုသိုလ်တရားတို့သည်။ ကတမေ၊ အဘယ်သည့်တို့နည်း။ ယသ္မိံ သမယေ၊ ၌၊ ရူပူပပတ္တိယာ၊ ရူပဈာန်သို့ရောက်ခြင်း၏။ မဂ္ဂံ၊ အကြောင်းမှန်ဖြစ်သော၊ ဈာနံ၊ ဈာန်ကို၊ ဘာဝေတိ၊ ဖြစ်ပွားစေ၏။ ကာမေဟိ၊ ဝတ္ထုကာမ ကိလေသာကာမတို့မှ၊ ဝိဝိစ္စေဝ။ ကင်းဆိတ်၍သာလျှင်။ ပ။ ဒုက္ခပဋိပဒံ၊ ဆင်းရဲစွာကျင့်ရသော။ ဒန္ဓာဘိညံ၊ အသိဉာဏ်နှံ့နှေးသော။ ပထဝီကသိဏံ၊ ပထဝီကသိုဏ်းလျှင် အာရုံရှိသော။ ပဌမံဈာနံ၊ ပဌမဈာန်သို့၊ ဥပသမ္ပဇ္ဇ။ ကပ်ရောက်၍။ ဝိဟရတိ၊ နေ၏။ တသ္မိံ သမယေ၊ ၌။ ဖဿော ဟောတိ၊ ဖဿဖြစ်၏။ ပ။ အဝိက္ခေပေါ ဟောတိ၊ မပျံ့လွင့်သောသမာဓိဖြစ်၏။ ပ။ ဣမေဓမ္မာ၊ ဤတရားတို့သည်။ ကုသလာ၊ ကုသိုလ်မည်ကုန်၏။

ဒီမှာထူးခြားတာက ဒုက္ခပဋိပဒါ ဒန္ဓာဘိညာ–အားထုတ်တဲ့အခါဆင်းရဲစွာ အားထုတ်ရတယ်၊ အပ္ပနာဈာန်သို့ ရောက်တဲ့အခါမှာလည်း အသိဉာဏ်နှံ့နှေးလို့ တော်တော်ကြာမြင့်မှ ရောက်ရှိတယ်ဆိုတာပါပဲ၊ ဒီပြင် အထူးအခြားမရှိလှပါဘူး။ ရှေးက ပဌမဈာန်အတိုင်းပါပဲ၊ ပရိကမ္မဘာဝနာ၊ ဥပစာရ ဘာဝနာအခိုက်မှာ အားထုတ်နေရတာ မသက်သာဘဲ ဆင်းဆင်းရဲရဲ အားထုတ်ရတယ်ဆိုရင် အဲဒါ ဒုက္ခပဋိပဒါတဲ့၊ ပရိကမ္မဘာဝနာဆိုတာ ဥပစာရ ဘာဝနာ အဆင့်မရောက်မီ ပြုလုပ်အားထုတ်နေရတဲ့ ဘာဝနာပါပဲ၊ ဥပစာရ ဘာဝနာကတော့ အပ္ပနာဈာန် အနီးရောက်ပြီးနေတဲ့ ဘာဝနာကို ဆိုတယ်၊ အဲဒီမှာ ဥပစာရဘာဝနာအဆင့်ရောက်နေပါလျက် အပ္ပနာဈာန် အရောက်နှေးနေပြီဆိုရင် အဲဒါ ဒန္ဓာဘိညာ–အသိဉာဏ်နှံ့နေတယ်လို့ ဆိုရတယ်တဲ့၊ ဒီပဋိပဒါကဈာန်လေးပါး၊ ဒါမှမဟုတ် ဈာန်ငါးပါးလုံးမှာ တစ်ပါးတစ်ပါးလျှင် ၄–ပါး၊ ၄–ပါး ပြားသွားတယ်၊ ပြားပုံက––

၁။ ဒုက္ခပဋိပဒါ ဒန္ဓာဘိညာ = ဆင်းရဲစွာ ကျင့်ရပြီး အသိဉာဏ် နှံ့နှေးခြင်း။
၂။ ဒုက္ခပဋိပဒါခိပ္ပါဘိညာ = ဆင်းရဲစွာကျင့်ရပြီး အသိဉာဏ် ကျတော့ လျှင်မြန်ခြင်း။
၃။ သုခပဋိပဒါ ဒန္ဓာဘိညာ = ချမ်းသာစွာကျင့်ရပြီး အသိဉာဏ် ကျတော့ နှံ့နှေးခြင်း။
၄။ သုခပဋိပဒါ ခိပ္ပါဘိညာ = ချမ်းသာစွာလည်း ကျင့်ရပြီး အသိ ဉာဏ်လည်း လျှင်မြန်ခြင်းတဲ့။

ဒီလေးမျိုးပါပဲ။

ဒီလေးမျိုးက သမထစျာန်အရာဌာနမှာသာ မကဘူး။ အခု ဒီမှာ အားထုတ်နေကြတဲ့ ယောဂီတွေမှာလည်း ဝိပဿနာရှုမှတ်ရာတွင် ဒီလေးမျိုး တစ်မျိုးမျိုးနဲ့ တွေ့နိုင်တာပဲ။ ဥဒယဗ္ဗယဉာဏ်စသည်ရောက်ဖို့ရာက အင်မတန် အားထုတ်ရတယ်၊ တော်တော်နဲ့ မရောက်နိုင်ဘူး၊ အဲဒါ ဒုက္ခပဋိပဒါပဲ၊ ဆင်းဆင်းရဲရဲ အားထုတ်နေရတာပဲ။

ပဋိဘာဂနိမိတ်ထင်လာပြီးမှ နီဝရဏကင်းနေပြီးဖြစ်လျက် ဥပစာရ ဘာဝနာအခိုက်တွင် အချို့ပုဂ္ဂိုလ်တွေမှာ ကြာနေတယ်၊ တော်တော်နဲ့ ဈာန်မရ နိုင်ဘူးတဲ့၊ သမာဓိကတော့ ကောင်းနေပြီ၊ ဈာန်အင်္ဂါတွေကျတော့ ထင်ထင် ရှားရှားသန်သန်စွမ်းစွမ်း မဖြစ်လာဘူးတဲ့၊ အဲဒါ ဒန္ဓာဘိညာ-နှေးသော အသိဉာဏ် ရှိတာတဲ့၊ စိတ်နဲ့အာရုံတပေါင်းတည်း ကပ်ကပ်မနေဘူးပေါ့။

ယခုဈာန်က ဒုက္ခပဋိပဒါဒန္ဓာဘိညာတဲ့၊ အောက်အခြေခံပိုင်းက လည်းပဲ ဆင်းဆင်းရဲရဲ အားထုတ်ခဲ့ရပြီးမှ ပဋိဘာဂနိမိတ် ထင်လာတယ်၊ ဥပစာရသမာဓိကို ရောက်တယ်။ အဲဒါ ဒုက္ခပဋိပဒါပဲ။ တစ်ခါ အပ္ပနာသမာဓိ ရောက်ဖို့ကျတော့ ရုတ်တရက်မရောက်ဘူး၊ ကြာနေတယ်၊ အဲဒါ ဒန္ဓာဘိညာ တဲ့ နှေးသော အသိဉာဏ်ရှိတယ်။

## အဲဒီလို ပုဂ္ဂိုလ် ရှိသေးတယ်

ဝိပဿနာ ယောဂီပုဂ္ဂိုလ်တွေမှာလည်း ဒီအတိုင်းပဲ၊ တချို့ အပင်တပန်းအားထုတ်ကြရတယ်၊ တချို့ဆိုပေမယ့် ပင်ပင်ပန်းပန်း အားထုတ်ကြရတာဟာ များပါတယ်။ ဘုန်းကြီးတို့ ရွှေဘိုဆိတ်ခွန်မှာ လူတစ်ယောက်ရှိတယ်၊ ဘုန်းကြီးနဲ့တောင် ဆွေမျိုးနီးစပ် တော်ပါသေးတယ်၊ သူ့မှာ ဘယ်လိုဖြစ်တယ်လို့ကို မသိဘူး၊ ဝိပဿနာတရားကို လာပြီးအားထုတ်တယ်၊ ပင်ပန်းလိုက်တာတဲ့၊ သူကပြောတယ်၊ လယ်ထွန်ရတာ၊ အိမ်မှုကိစ္စတွေ လုပ်ရတာထက် ရှုမှတ်ရတာက ပိုပြီးပင်ပန်းတယ်တဲ့၊ ပေပြီးအားထုတ်ရတယ်၊ သမာဓိလည်း ကောင်းကောင်းမထင်ဘူးလို့ ပြောတယ်၊ အဲဒါ ဒုက္ခပဋိပဒါပဲ၊ ဒီပုဂ္ဂိုလ်ဟာ ပါရမီမရှိလို့နဲ့ တူပါတယ်။ ခိုကပ်နေတာလည်း မဟုတ်ရှာပါဘူး၊ အဲဒီလို အားထုတ်ပေမယ့် အားထုတ်လို့ မဖြစ်တဲ့ ပုဂ္ဂိုလ်တွေကလည်း ရှိသေးတယ်။

## ဟဲ့ဆို ငြိမ်သွားတဲ့ကလေးလိုပဲတဲ့

တချို့ စိတ္တဝိသုဒ္ဓိဖြစ်ပြီး စိတ်စင်ကြယ်ပြီဆိုတော့ မှတ်စိတ်နဲ့ အာရုံဟာကပ်ခနဲ ကပ်ခနဲတည်နေတယ်၊ စိတ်ဟာ အာရုံက ဘယ်မှထွက်မသွားဘူး၊ ထွက်လို့ရှိရင်လည်း တစ်ချက်နှစ်ချက်လောက် မှတ်လိုက်ရုံနဲ့ မှတ်နေတဲ့အာရုံဆီ ပြန်ရောက်လာတာပဲ။ တချို့ ပြောကြတယ်၊ ဘာနဲ့တူသလဲဆိုရင် ဆော့နေတဲ့ ကလေးငယ်ကို "ဟဲ့-လို့ လူကြီးကငေါက်လိုက်ရင် ငြိမ်ကျသွားသလိုပဲ"တဲ့၊ တစ်ချက်လောက်မှတ်လိုက်ရုံနဲ့ လှုပ်ရှားနေတဲ့ စိတ်ကလေးဟာ ငြိမ်ကျသွားတာပဲတဲ့၊ ဒီလို အမှတ်ကောင်းတဲ့ ယောဂီတွေလည်း ရှိတာပဲ။

အမှတ်ကောင်းလာပြီဆိုတော့ စိတ်ကလေးဟာ သူ့အာရုံနဲ့သူ တည်နေတော့တယ်၊ ဒီလိုတည်နေတဲ့ စိတ်ကလေးဟာ စင်ကြယ်တဲ့ စိတ္တဝိသုဒ္ဓိ ဖြစ်လာပြီလို့ ဆိုတယ်၊ တချို့တော့လည်း အဲဒီ စိတ္တဝိသုဒ္ဓိလောက်ကိုပဲ

မရောက်နိုင်ကြဘူး၊ ဒီတော့ တရားအရသာ မပေါ်ကြဘူးပေါ့၊ စိတ်စင်ကြယ်တဲ့အခါကျတော့ ဒီလိုပဲ ရှုမှတ်တိုင်း ရှုမှတ်တိုင်း အာရုံနဲ့မှတ်စိတ်ဟာ တစ်ခုစီ တစ်ခုစီ ကွဲကွဲခြားခြား သိသိနေတာပဲ။ အာရုံကတခြား မှတ်သိစိတ်ကတခြား ဒီလို သိသိနေတယ်၊ အဲဒါ နာမရူပပရိစ္ဆေဒဉာဏ် ဖြစ်နေတာပဲ၊ ဖြစ်ပေါ်လာတဲ့ ရှေ့ကအာရုံနဲ့ စိတ်ကလေးတွေ မပျောက်ဘဲ နောက်အာရုံနဲ့ စိတ်ကလေးဟာ မဖြစ်ကြဘူး၊ တစ်စုံတစ်စုံ ပျောက်ပျောက်ပြီးမှ နောက်ထပ် အာရုံနဲ့စိတ်ဟာ ဖြစ်ပေါ် ဖြစ်ပေါ်လာတာပဲ စသည်ဖြင့်လည်း အကြောင်းအကျိုးလေးတွေကို ပိုင်းခြား ပိုင်းခြားပြီးတော့ အဲဒီလိုလည်း သိလာတာပဲ၊ နောက် ဒီလို အဖြစ်အပျက်လေးတွေကို သိတာဟာ ဥဒယဗ္ဗယဉာဏ်ပဲ၊ ဒီနေရာရောက်ရင် အလင်းရောင်တို့၊ ပီတိ၊ ပဿဒ္ဓိတို့ ဖြစ်ပေါ်လာတတ်တယ်၊ တချို့ ဒီနေရာရောက်အောင် မလွယ်ကြဘူး၊ အတော် ခဲခဲယဉ်းယဉ်း အားထုတ်ကြရတယ်၊ အဲဒါ ဒုက္ခပဋိပဒါ ခေါ်ပါတယ်။

ဥဒယဗ္ဗယဉာဏ် စသည်မှာ ကြာရင်လည်း ကြာနေတတ်ပြန်တယ်၊ တချို့များ သင်္ခါရုပေက္ခာဉာဏ် ရောက်နေတာတောင်မှ အရိယမဂ်ဉာဏ်ကို မတက်နိုင်ဘဲ ကြာချင်ကြာနေပြန်တာပဲ၊ တစ်ရက်၊ နှစ်ရက်လောက်လည်း ကြာချင် ကြာနေတယ်၊ ခုနှစ်ရက်လောက်လည်း ကြာချင်ကြာနေတတ်တယ်၊ အဲဒီလို ဝိပဿနာဉာဏ် အတက်နှေးတာက ဒန္ဓာဘိညာတဲ့၊ နှေးသော အသိဉာဏ်ရှိတာတဲ့၊ အဲဒါ ဒုက္ခပဋိပဒါနဲ့ ဒန္ဓာဘိညာပဲ။

## သမထချာန်မှာလည်း ဒီလိုပဲ

အခု ချာန်နေရာမှာလည်း ဥပစာရသမာဓိ ဖြစ်လောက်အောင် အားထုတ်နေရတာကိုက တပင်တပန်း အားထုတ်ကြရတာတွေရှိတယ်၊ အဲဒါ ဒုက္ခပဋိပဒါပဲ၊ ဥပစာရသမာဓိဖြစ်တဲ့ နောက်မှာလည်း ချာန်ကို ရုတ်တရက် မရနိုင်ဘဲ ကြာနေတတ်ပြန်တယ်၊ အဲဒါ ဒန္ဓာဘိညာတဲ့၊ နှေးသော အသိဉာဏ်

ရှိတာတဲ့၊ အဲဒီလို အားထုတ်ပြီးတော့ အပ္ပနာစျာန်ကို ရောက်လာတယ်၊ အဲဒါ ပထဝီကသိုဏ်းလျှင် အာရုံရှိတဲ့စျာန်တဲ့၊ အဲဒီ စျာန်စိတ်ဖြစ်တဲ့အခါမှာလည်း ဖဿော ဟောတိ၊ ဝေဒနာ ဟောတိ စသည်ဖြင့် ဒီတရားတွေကို ထပ်ခါထပ်ခါ မြတ်စွာဘုရားက ဝေဖန်ဟောကြားတော်မူပါတယ်။ ဘာမှ ချန်မထားပါဘူး၊ နာယူတဲ့ ပုဂ္ဂိုလ်တွေကလည်း ဒီလိုပဲ နာယူနေကြပါတယ်၊ အဲဒါ ဒုက္ခပဋိပဒါ ဒန္ဓာဘိညာ၊ ဆင်းဆင်းရဲရဲကျင့်ရပြီး နှေးသောအဘိညာဏ် ရှိတယ်တဲ့။

နောက်ပြီးတော့ ဒုက္ခပဋိပဒါ ခိပ္ပါဘိညာ၊ ဒုက္ခပဋိပဒါ ဆိုတာ ဥပစာရ သမာဓိရအောင် ခဲခဲယဉ်းယဉ်း အားထုတ်ရတာကို ဆိုတယ်၊ ဒီလို ခဲခဲ ယဉ်းယဉ်း အားထုတ်လို့ ဥပစာရသမာဓိကို ရပြီးတဲ့နောက်တော့ မကြာဘူး၊ အပ္ပနာစျာန်ကို လျှင်လျှင်မြန်မြန်ရသွားတယ်၊ တစ်ခဏအတွင်း မိနစ်ပိုင်း လောက်နဲ့လည်း ရချင်ရသွားမယ်၊ နာရီပိုင်းအတွင်း ရချင်လည်းရသွားမယ်၊ အဲဒီလို မြန်မြန်ရလွယ်တာဟာ ခိပ္ပါဘိညာ လျှင်မြန်သော အဘိညာဏ်ရှိတာတဲ့။

သမထစျာန်မှာသာ မဟုတ်ဘူး၊ ဝိပဿနာအားထုတ်တဲ့ ပုဂ္ဂိုလ်တွေ မှာလည်း ဒီလိုပဲ ဥဒယဗ္ဗယဉာဏ်ရောက်အောင် အင်မတန် ပင်ပင်ပန်းပန်း အားထုတ်ကြရတာလည်း ရှိတယ်၊ အဲဒီ ဥဒယဗ္ဗယဉာဏ်လည်းရောက်ရော မကြာလိုက်ဘူး ဝိပဿနာဉာဏ်တွေ အဆင့်ဆင့်တက်သွားပြီး တရားပြီးဆုံး သွားတဲ့ ပုဂ္ဂိုလ်တွေလည်း ရှိတာပဲ၊ အဲဒါ ဒုက္ခပဋိပဒါ ခိပ္ပါဘိညာတဲ့၊ အဲဒီလို ရှိတာပဲ။

အဲဒီအခါမှာ ဖြစ်တဲ့တရားတွေကိုလည်း ဖဿော ဟောတိ၊ ဝေဒနာ ဟောတိ စသည်ဖြင့် ၅၆–ပါးသောတရားတွေကိုပဲ ဟောကြားထားပါတယ်။ ပထမစျာန်ဆိုရင် ၅၆–ပါး၊ ဒုတိယစျာန်ဆိုရင် ဝိတက် ဝိစာရ မပါလို့ ၅၃– ပါး၊ တတိယစျာန်ဆိုရင် ဝိတက် ဝိစာရ ပီတိ မပါလို့ ၅၂–ပါး၊ စတုတ္ထ စျာန်မှာလည်း ၅၂–ပါးပါပဲ၊ မလျော့ပါဘူး။

ပြီးတော့ တချို့ပုဂ္ဂိုလ်တွေမှာ သမထစျာန်ကို အားထုတ်တဲ့အခါမှာ

ဥပစာရသမာဓိရအောင် မခဲယဉ်းကြဘူး။ လွယ်လွယ်လေးနဲ့ အားထုတ်လို့ ရတယ်၊ ပထဝီ ပထဝီလို့ နှလုံးသွင်းလိုက်ရင် မကြာမီအတွင်းမှာဘဲ စိတ်တွေ ငြိမ်သက်တည်ကြည်သွားတယ်။ ပီတိ၊ သုခတွေနဲ့ ရှုမှတ်လို့ ကောင်းသွား တယ်။ ဥပစာရသမာဓိကို ဒီလို လွယ်လွယ်လေးနဲ့ ရောက်သွားတယ်၊ ဒါပေမယ့် အပ္ပနာစျာန်ကျတော့ ရုတ်တရက် မရောက်ပြန်ဘူး၊ ကြာနေတတ် တယ်၊ အဲဒါ သုခပဋိပဒါ ဒန္ဓာဘိညာ ချမ်းချမ်းသာသာကျင့်ရပြီး နှေးသော အဘိညာဏ်ရှိတာတဲ့၊ အဲဒီစျာန်မျိုးလည်းရှိတယ်။

အဲဒီ စျာန်ဖြစ်တဲ့အခါမှာလည်း ဖဿော ဟောတိ၊ ဝေဒနာ ဟောတိ စသည်ဖြင့် ၅၆–ပါးသော တရားတွေကို ဝေဖန်ပြီး ဟောကြားတော်မူတာပါပဲ။

တချို့ပုဂ္ဂိုလ်တွေကျတော့ ပထဝီ ပထဝီလို့ နှလုံးသွင်းလိုက်ရင် လွယ်လွယ်ကူကူနဲ့ပဲ ဥပစာရသမာဓိဖြစ်လာတယ်၊ မခဲယဉ်းဘူး၊ စောစောက ပြောခဲ့တဲ့မလ္လကမထေရ်မျိုးလိုပေါ့၊ မလ္လကမထေရ်ဟာ ထွန်ယက်ထားတဲ့ လယ်ကွက်ကြီးကိုကြည့်ပြီး နှလုံးသွင်းလိုက်တာနဲ့ စျာန်ရသွားတယ်၊ ဘာမှ မခက်ခဲလှဘူး၊ ဥပစာသမာဓိကိုလည်း လွယ်လွယ်ကူကူနဲ့ပဲ ရောက်သွား တယ်။ အပ္ပနာသမာဓိကိုလည်း လွယ်လွယ်ကူကူနဲ့ပဲ တဆက်တည်းရောက် သွားတယ်။ အဲဒါ သုခပဋိပဒါခိပ္ပါဘိညာတဲ့၊ အခြေခံအကျင့်မှာလည်း လွယ်လွယ်ကူကူနဲ့ ချမ်းသာစွာ ကျင့်ခဲ့ရတယ်၊ အပ္ပနာစျာန် အဘိညာဏ်ရောက် တော့လည်း လျှင်လျှင်မြန်မြန်နဲ့ပဲ ရောက်သွားတယ်၊ အဲဒါ အကောင်းဆုံးပါပဲ။

## တယ်တော်တဲ့ အရေးပိုင်ကတော်

တချို့ ဝိပဿနာရှုမှတ်တဲ့ပုဂ္ဂိုလ်တွေလည်း လွယ်လွယ်ကူကူနဲ့ ဥဒယဗ္ဗယဉာဏ် စသည်ကို ရောက်သွားကြတာတွေ ရှိပါတယ်။ သုခပဋိပဒါလို့ ဆိုရမှာပေါ့။ တချို့များ ရှုမှတ်ရတာကို မညည်းမညူဘဲ လွယ်လွယ်နဲ့ပဲ ရှုမှတ်သွားနိုင်တာကို တွေ့ရတယ်။ အဲဒါ ရွှေဘိုက အရေးပိုင်ကတော်

အမျိုးသမီးတစ်ဦးပါပဲ၊ ဂျပန်တွေ ဆုတ်ခွာသွားပြီး အင်္ဂလိပ်တွေ ပြန်လည် တက်ရောက်လာစကဖြစ်တယ်၊ အဲဒီ အမျိုးသမီးဟာ တရားနဲ့ပတ်သက်တဲ့ စာပေဗဟုသုတဆိုရင် အစက ဘာမှမလေ့လာဖူးတဲ့၊ ခေတ်ပညာတတ်ဖြစ် နေတော့ အင်္ဂလိပ်စာပေတွေကိုသာ ကြည့်ရှုလေ့လာခဲ့တယ်တဲ့၊ သူဟာ ကျောင်း ဆရာမလည်းလုပ်တယ်။

အဲဒီ အမျိုးသမီးဟာ အခွင့်ရသလောက်နဲ့ပဲ တရားလာအားထုတ် တယ်၊ နေရာမှ ကျပ့်မလားလို့ ဘုန်းကြီးအောက်မေ့မိတယ်၊ ခေတ်အင်္ဂလိပ် စာပေတတ်ဆိုတော့ တရားကို လေးလေးနက်နက် အားထုတ်နိုင်ပါ့မလားလို့ ဒီလို အောက်မေ့မိတယ်၊ ဒါနဲ့ သူ့ကိုမေးကြည့်တယ်၊ သူဟာ ဘုန်းကြီး ထင်သလို မဟုတ်ဘူး၊ ကြိုးကြိုးစားစား အားထုတ်တာကို တွေ့ရတယ်၊ အားထုတ်လို့ နောက်တစ်ရက်လောက်မှာပဲ နာမ် ရုပ်တွေကို ပိုင်းပိုင်း ခြားခြား ကွဲကွဲပြားပြားသိလာတယ်။ ပီပီသသကြီးသိလာတယ်၊ မှတ်တဲ့အာရုံနဲ့ မှတ်စိတ်ဟာ သူလျှောက်ထားပုံ အင်မတန်ရှင်းလင်းတာပဲ၊ ဥပမာလေးကိုတောင် သူက လျှောက်ထားလိုက်သေးတယ်။

တောင်ပို့ထဲကထွက်လာတဲ့ မြွေလေးကို ထွက်လာလိုက် တုတ်နဲ့ ရိုက်ချလိုက်၊ ထွက်လာလိုက် တုတ်နဲ့ရိုက်ချလိုက်သလိုပဲ ဘုရားတဲ့၊ ပေါ်လာ လိုက် သိလိုက်၊ ပေါ်လာလိုက် သိလိုက်နဲ့ သူ့အာရုံနဲ့ သူ့မှတ်စိတ်ဟာ နှစ်ခုနှစ်ခု တွဲပြီးတော့နေတာကို မှတ်နေရတာ သိပ်ပြီးကောင်းတယ်။ အဖြစ်အပျက်ကလေးတွေကိုလည်း သိသိနေပါတယ်ဘုရားတဲ့၊ "တခြားတစ်ပါး ကို ထွက်သွားတဲ့ စိတ်တွေကို မှတ်ရတာကော မရှိဘူးလား"လို့ သူ့ကိုမေးတော့ မထွက်ဘူးတဲ့၊ ကမ္မဋ္ဌာန်းကျောင်းကို ရောက်လာပြီဆိုတာကတည်းက အိမ်ကို ရောက်တဲ့ စိတ်ရယ်လို့ မရှိပါဘူးတဲ့၊ အံ့ဩစရာကောင်းပါတယ်၊ ပါရမီထူးရှိတဲ့ ပုဂ္ဂိုလ်ပါပဲ၊ တကယ်ဆိုတော့ လူတို့ လောကစည်းစိမ် ချမ်းသာပေါ်မှာ ချမ်းချမ်း သာသာ နေလာရတဲ့ သူလိုပုဂ္ဂိုလ်ဟာ ကိုယ့်အိမ် စည်းစိမ်ချမ်းသာတွေကို

ပြန်ပြီး သတိရစရာ သိပ်ကောင်းတယ်၊ ဒါပေမယ့် အဲဒီစိတ်ဟာ သူ့မှာ တစ်ခုမျှမဖြစ်ဖူးတဲ့၊ မှတ်စိတ်တွေချည်းဖြစ်နေတာပဲတဲ့၊ ဥဒယဗ္ဗယဆိုတဲ့ အဖြစ်အပျက်တွေကိုလည်း သူဟာ နှစ်ရက် သုံးရက်အတွင်းမှာပဲ ရှင်းရှင်း လင်းလင်း သိလာတယ်၊ သူ့မှာ ခဲခဲယဉ်းယဉ်း မှတ်စရာရယ်လို့ မရှိဘူး၊ လွယ်လွယ်ကူကူချည်းပဲတဲ့။

အထက်ဉာဏ်တွေကို တက်ရောက်သွားတာဟာလည်း တော်တော်ကို ကောင်းပါတယ်၊ သူ့မှာ သင်္ခါရုပေက္ခာဉာဏ်အထိ တက်ရောက်သွားတာလည်း ပီပီသသဖြစ်ပုံတွေ ထင်ရှားပါတယ်။ ဒါပေမယ့် မညီမညွတ်တဲ့အကြောင်းက သူ့မှာ ဖြစ်ပေါ်လာခဲ့တယ်၊ သူ့ခင်ပွန်းက အစိုးရအမှုထမ်းဆိုတော့ တာဝန်အရ ဌာနပြောင်းရွှေ့ရလို့ တရားအပြီးမသတ်ခင်မှာပဲ ကမ္မဋ္ဌာန်းကျောင်းမှ ထွက်သွား ရရှာတယ်၊ အားထုတ်ရတာ ခြောက်ရက်မျှပဲ ရရှာတယ်။ ဒီရက်လောက်နဲ့ သင်္ခါရုပေက္ခာဉာဏ်အထိ ရောက်သွားတယ်ဆိုတာ ရှင်းရှင်းလင်းလင်း သိရတယ်၊ သူ့လောက် အမှတ်ကောင်းတာ ဘုန်းကြီးတော့ မတွေ့ဖူးဘူး၊ အခု ဒီမှာ အချို့အချို့ ယောဂီပုဂ္ဂိုလ် အမှတ်ကောင်းတဲ့အကြောင်းကိုတော့ ပြောကြတာ ရှိပါတယ်။ ဒါပေမယ့် ဘုန်းကြီးကိုယ်တိုင် စစ်ရတဲ့ ယောဂီတွေ တော့ မဟုတ်ဘူး၊ ဒါကြောင့် သူတို့တွေ အမှတ်ဘယ်လောက်ကောင်းတယ် ဆိုတာကိုတော့ မသိရဘူး၊ ဒီလို ဝိပဿနာအစပိုင်းမှာ ချမ်းချမ်းသာသာ အားထုတ်ရတာ သုခပဋိပဒါပဲ၊ ဒီသုခပဋိပဒါက ခေတ်အလျှောက်ဆိုရတဲ့ ပဋိပဒါပေါ့၊ နောက်ပိုင်းမှာ လျင်လျင်မြန်မြန် ဉာဏ်တွေရသွားတယ်ဆိုရင် လည်း ခိပ္ပာဘိညာပဲ၊ ကျမ်းဂန်ထဲက သုခပဋိပဒါခိပ္ပါဘိညာလို အင်မတန် အထက်တန်းမကျတတ်ပါဘူး။ ကျမ်းဂန်ထဲက သုခပဋိပဒါခိပ္ပါဘိညာဆိုတာက တော့ အင်မတန်အထက်တန်းကျတယ်၊ ပေါ်လာတဲ့ကိလေသာကို တစ်ခါ လောက်ရှုမှတ်လိုက်ရုံနဲ့ ပျောက်သွားရမယ်တဲ့၊ အထက်တန်းကျတယ်၊ ပေါ်လာတဲ့ ကိလေသာကို တစ်ခါလောက် ရှုမှတ်လိုက်ရုံနဲ့ ပျောက်သွားရမယ်၊

မပျောက်လို့ရှိရင် ဒါဟာ ဒုက္ခပဋိပဒါတဲ့၊ နောက်ပြီးတော့ အဲဒီလိုမှတ်လို့ မကြာခင် နာရီပိုင်းအတွင်း အရိယာမဂ်ကို မြန်မြန်ရောက်သွားရမယ်တဲ့၊ အဲဒါမှ ခိပ္ပာဘိညာတဲ့၊ စာပေထဲမှာလာတဲ့၊ အဲဒီလို သုခပဋိပဒါ ခိပ္ပါဘိညာ မျိုးဆိုတာ ကတော့တယ်ပြီး ဖြစ်ဖို့မလွယ်လှပါဘူး။ ခေတ်အားလျော်စွာ အရှုပ်အထွေး အခက်အခဲမရှိဘဲ ဥဒယဗ္ဗယဉာဏ်ကိုရောက်မယ်၊ ဒီလိုရောက်ပြီး သင်္ခါရု ပေက္ခာဉာဏ်အထိ အဆင့်ဆင့် လွယ်ကူစွာနဲ့ဖြစ်ပြီး ပြည့်စုံတဲ့အခါ သင်္ခါရု ပေက္ခာ ချုပ်ငြိမ်းတဲ့သဘောကို ရောက်သွားတယ်ဆိုရင် ဒါဟာ သုခပဋိပဒါ ခိပ္ပါဘိညာလို့ ခေါ်ရမှာပဲ၊ ဘုန်းကြီးကတော့ ဒီအတိုင်းပဲ အသိ အမှတ်ပြုထား ပါတယ်။ စာပေထဲမှာလာတဲ့အတိုင်း ဖြစ်တဲ့ပုဂ္ဂိုလ်ကတော့ တစ်ရာမှတစ် ယောက် ရှိခဲပါလိမ့်မယ်၊ ရှားပါတယ်။

အခုစျာန်နေရာမှာလည်း ဒီအတိုင်းပဲ၊ ဥပစာရသမာဓိဖြစ်အောင် အားထုတ်ရတာ ခက်ခဲနေရင် ဒုက္ခပဋိပဒါပဲ၊ လွယ်လွယ်နဲ့ဖြစ်ရင် သုခပဋိပဒါပဲ၊ အဲဒီ ဥပစာရသမာဓိ ဖြစ်ပြီးတဲ့နောက်မှာ အပ္ပနာစျာန်ဖြစ်ဖို့ရာ မလွယ်ဘဲနဲ့ ကြာနေရင် ဒန္ဓာဘိညာ–နှေးတဲ့ အဘိညာဉ်ရှိတယ်၊ ဥပစာရသမာဓိဖြစ်လို့ မကြာခင်အတွင်းမှာဘဲ အပ္ပနာစျာန်သမာဓိသို့ ရောက်သွားတယ်ဆိုရင် ခိပ္ပါ ဘိညာပဲ၊ လျင်သော အဘိညာဉ်ရှိတာတဲ့။ အဲဒီ ပဋိပဒါအဘိညာလေးပါးနဲ့ ပဋ္ဌမစျာန်ကို ဝေဖန်ပြီး မြတ်စွာဘုရားက ဟောကြားတော်မူပါတယ်။ ဟော ကြားတော်မူတဲ့ စျာန်တိုင်း စျာန်တိုင်းမှာလည်း ဖဿော ဟောတိ၊ ဝေဒနာ ဟောတိ စသည်ဖြင့် အသေးစိတ် ဝေဖန်ဟောကြားတော်မူပါတယ်၊ ပဋိပဒါ ဝေဖန်ပုံပြီးပါပြီ။

## စျာန်နဲ့ စျာန်အာရုံ

ပဋိပဒါကို ဝေဖန်ဟောကြားပြီးတော့ ပရိတ္တ၊ ပရိတ္တာရမ္မဏကိုလည်း ဝေဖန်ဟောကြားတော်မူပါတယ်၊ ပရိတ္တဆိုတာ သေးငယ်တဲ့စျာန်စိတ်တဲ့၊

အားအစွမ်း နည်းတယ်ပေါ့၊ အထက်ဈာန်တွေကို ရောက်နိုင်အောင် ကျေးဇူးပြုတဲ့ အားစွမ်းက သေးငယ်လို့၊ နည်းလို့ ပရိတ္တတဲ့၊ ပြီးတော့ ပရိတ္တာရမ္မဏ ဆိုတဲ့ သူ့အာရုံကလည်း သေးငယ်တာပဲတဲ့၊ မူလထင်ပေါ်တဲ့ ပဋိဘာဂနိမိတ် ကသိုဏ်းအာရုံကို အကျယ်ချဲ့ပြီး ရှုလို့ရှိရင် အပ္ပမာဏာရမ္မဏ–အပ္ပမာဏ အာရုံလို့ခေါ်တယ်၊ စောစောကပြောခဲ့တဲ့ တစ်ထွာ လက်လေးသစ် လောက်ရှိတဲ့ ကသိုဏ်းအာရုံကလေးနဲ့ပဲ အကျယ်မချဲ့ မပြုရဘဲ ဈာန်ရသွားလို့ရှိရင် ပရိတ္တ၊ ပရိတ္တာရမ္မဏဈာန်တဲ့၊ ကသိုဏ်းအာရုံတွေကို ပြန့်အောင် ပွားထားတယ်ဆိုရင် ပရိတ္တ–အပ္ပမာဏာရမ္မဏတဲ့၊ အပ္ပမာဏ အတိုင်းအရှည်မရှိ ကျယ်ပြန့်တဲ့ အာရုံလို့ဆိုတယ်၊ ဒါက ဆယ်တောင်ပတ်လည်တို့၊ အတောင်နှစ် ဆယ်ပတ်လည်တို့၊ ပေတစ်ရာပတ်လည်တို့ စသည်ဖြင့်ပေါ့လေ၊ ကျောင်းဝိုင်း ကြီးတစ်ခုလောက်၊ ရပ်ကွက်ကြီးတစ်ခုလောက်၊ မြို့ကြီးတစ်ခုလောက်စသည် ကျယ် ကျယ်ပြန့်ပြန့်ကြီး ဖြန့်လို့ရတယ်၊ သမာဓိရလာတဲ့အခါမှ ဒီလိုဖြန့်လို့ရပါ တယ်၊ သမာဓိရလာတဲ့အခါ မဟုတ်ပေမယ့်လည်း ထင်ချင်ထင်နေတာပဲ။

အခု ဝိပဿနာရှုမှတ်တဲ့ ပုဂ္ဂိုလ်တွေလည်း သမာဓိရလာတဲ့အခါတော့ စိတ်ကူးတိုင်း စိတ်ကူးတိုင်း လျှောက်ပြီးထင်နေတတ်ကြတာပဲ၊ အဲဒီ စိတ်ကူး တွေက တချို့က အဟုတ်မှတ်နေကြတယ်၊ နတ်ကပဲလာပြီးတော့ ပြောသလိုလို ဒီလိုရင်လည်း မှတ်ထင်နေတတ်ကြတယ်၊ ဆရာသမားကပဲ လာပြီးပြော သလိုလို ဒီလိုလျှောက်ပြီး ထင်နေတတ်ကြတယ်၊ သမာဓိရလာတဲ့အခါမှာ စိတ်ကူးတိုင်း စိတ်ကူးတိုင်း ဟုတ်သလိုလို ထင်နေရတာပဲ၊ တကယ်တော့ မဟုတ်ပါဘူး။

အဲဒီလို သမာဓိအာရုံကို ပွားများထားလို့ရှိရင် "အပ္ပမာဏာရမ္မဏ" အတိုင်း မသိအာရုံရှိတဲ့ဈာန်ပဲ၊ အဲဒီလို ဈာန်လည်းရှိတယ်တဲ့၊ ဈာန်စိတ်ကိုက အားကောင်းပြီး ထက်သန်နေတယ်၊ ဒုတိယဈာန်ရောက်ဖို့ အားပြည့်နေတယ်၊ အဲဒီလို ဈာန်ကို အပ္ပမာဏဈာန်ခေါ်တယ်၊ အာရုံကလည်း ပွားများထားတဲ့

အာရုံဖြစ်မယ်ဆိုရင်ပေါ့။ အဲဒါ အပ္ပမာဏာရမ္မဏပါပဲ။

၁–ပရိတ္တ ပရိတ္တာရမ္မဏချာန်။ ၂–ပရိတ္တ အပ္ပမာဏာရမ္မဏချာန်၊ ၃–အပ္ပမာဏ ပရိတ္တာရမ္မဏချာန်။ ၄–အပ္ပမာဏ အပ္ပမာဏာရမ္မဏချာန်လို့ ဒီလို ၄–မျိုး ခွဲပြီးတော့ ပဌမံ ဈာနံ ဥပသမ္ပဇ္ဇ ဝိဟရတိ ပရိတ္တံ ပရိတ္တာရမ္မဏံ ပထဝီကသိဏံ၊ ပရိတ္တံ အပ္ပမာဏာရမ္မဏံ ပထဝီကသိဏံ စသည်ဖြင့် ဟောတော်မူတယ်။ လေးမျိုးစလုံးပါပဲ။ ဒီလေးမျိုးဖြစ်တဲ့အခါမှာလည်း ဖဿော ဟောတိ၊ ဝေဒနာ ဟောတိစသည်ဖြင့် ၅၆–ပါးသောတရားတွေကို ဒီအတိုင်းပဲ ဝေဖန်ဟောကြားတော်မူပါတယ်၊ အကျယ်ရော အသေးစိတ်ရော ဝေဖန်ဟော ကြားတော်မူတာပါပဲ။ အဲဒါ ပရိတ္တ ပရိတ္တာရမ္မဏချာန်တဲ့။

## အများကြီးပါပဲ

အဲဒီ ပရိတ္တ ပရိတ္တာရမ္မဏချာန်တွေနဲ့ ဒုက္ခပဋိပဒါဒန္ဓာဘိညာ စသည်တွေကို ယှဉ်ပြီးတော့ အသီးသီး ဝေဖန်ဟောကြားလိုက်တော့ ၁၆–မျိုးတောင် ရှိသွားတယ်။ အဲဒီက ဆယ့်ခြောက်မျိုးလုံးကိုလည်း မြတ်စွာဘုရား ဟောတာပဲ၊ ဒီပြင်လည်း အများကြီးပါပဲ။ ဝေဖန်စရာရှိတဲ့တရားတွေကို မချွင်း မချန် ဝေဖန်ဟောကြားထားပါတယ်၊ အဘိဘာယတနတွေနဲ့ ဝေဖန်တာ လည်း ရှိတယ်။ ဝိမောက္ခနဲ့ဝေဖန်တာတွေလည်းရှိတယ်။ အဲဒါ ပထဝီကသိုဏ်း တင် ရှိသေးတယ်။ အာပေါကသိုဏ်းစသည်ကိုလည်း ဒီအတိုင်း ဟောကြား သွားတာပါပဲ။

ပကတိရေကို ကြည့်ပြီးတော့လည်း ချာန်ရနိုင်တယ်တဲ့၊ ပင်လယ်ကမ်း ခြေက ရေကိုကြည့်ပြီးတော့ ချာန်ရဘူးတဲ့ ပုဂ္ဂိုလ်တွေရှိတယ်။ ဒီလိုမဟုတ်ရင် လည်း ခွက်တို့၊ အင်တုံတို့၊ ဇလုံတို့နဲ့ ရေကို သန့်သန့်ရှင်းရှင်းထည့်ပြီး ကြည့်ရမယ်တဲ့၊ ပြီးတော့ အာပေါ–အာပေါ ရေ–ရေလို့ နှလုံးသွင်းပြီး ရှုရတယ်။

တေဇော– မီးကသိုဏ်းကျတော့ ထင်းတွေကို မီးရှို့ပြီး အဲဒီမီးကို ကြည့်ရတယ်၊ ဒါကတော့ တာဝန်လေးပါတယ်၊ ထင်းလည်းရှိမှဖြစ်မယ်။ ထင်းတွေ သိပ်ကုန်မှာပဲ၊ ထင်းတွေကို မီးရှို့ရုံလည်း မကသေးဘူး၊ အဲဒီမီးကို ကန့်လန့်ကာတို့ ထရံတို့ တစ်ခုခုနဲ့ ကာရဦးမယ်၊ ကာပြီးတော့ အဲဒီ ကန့်လန့်ကာဖြစ်ဖြစ် ထရံဖြစ်ဖြစ် တစ်ထွာ လက်လေးသစ်လောက် အပေါက် ကလေး ဖောက်ရတယ်။ အဲဒီ အပေါက်ကလေးက မြင်နေရတဲ့ အလင်းရောင် ကိုကြည့်ပြီး တေဇော–တေဇော မီး မီးလို့ ရှုရတယ်၊ အထက်တက်သွားတဲ့ မီးခိုးတွေ အောက်ခြေက ထင်းစတွေကို မမြင်စေရဘူး၊ အဲဒီအပေါက်ကလေးက မီးတောက်ကလေးနဲ့ တည့်နေရမှာ၊ အဲဒါကိုကြည့်ပြီး ရှုနေရမယ်တဲ့၊ အခုခေတ် ဓာတ်မီးရောင်ကို အဲဒီလိုလုပ်ပြီး ရှုနေရင် ဖြစ်လောက်စရာရှိတယ်။

ဝါယောကသိုဏ်းကျတော့ လေကိုအာရုံပြုနေရတယ်၊ အဲဒါကပိုပြီး တော့ ခက်သေးတယ်၊ သစ်ခက်သစ်ကိုင်းတွေ လှုပ်ယိမ်းတာကိုကြည့်ပြီး လေ လေလို့ နှလုံးသွင်းရှုနေရတယ်၊ အခက်သားပဲ။ ပြဟ္မာများတော့လည်း အဲဒီဝါယောကသိုဏ်းက သူတို့မှာထင်ရှားတယ်တဲ့၊ နတ်များလည်း ဝါယော ကသိုဏ်းကို ရှုပြီးတော့ ဈာန်ရကြတယ်၊ လူတွေမှာတော့ ဝါယော–လေကို မမြင်ကြရဘူး၊ ရှိတော့ရှိတာပဲ။ မမြင်ရတိုင်းလည်း မရှိဘူးလို့မဆိုရဘူး၊ ကိုယ်မှာတိုက်ခတ်နေတဲ့ လေရှိတာဟာ ထင်ရှားနေတာပဲ၊ သို့သော်လည်း မမြင်ရဘူး၊ ဒါပေမယ့် နတ်တွေကျတော့ လေကို သူတို့ မြင်ကြရတယ်၊ သူတို့စက္ခုစတဲ့ ပသာဒရုပ်တွေက အင်မတန် ကြည်လင်တော့ မြင်ရတာပဲ၊ ဒါကြောင့် လေကို ရှုလို့ရကြတယ်၊ သူတို့ရှုရတာ သာပြီးတော့တောင် ဈာန်ရလွယ်တယ်တဲ့။

အဲဒါ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ မဟာဘုတ်ကသိုဏ်း ၄–ပါးတဲ့၊ ဒါပြီးတော့ အဆင်းကသိုဏ်းကလည်း ရှိသေးတယ်၊ နီလ၊ ပီတ၊ လောဟိတ၊ ဩဒါတ ၄–ပါးပါပဲ၊ နီလကသိုဏ်းဆိုတာ အညို၊ အပြာ၊

အစိမ်းရောင်တွေ၊ သစ်ပင်သစ်ရွက်တွေ၊ စိမ်းစိမ်းစိုစိုမြင်နေရတာတွေဟာ နီလပဲ၊ ကြာညိုပန်းတို့ ခွာညိုပန်းတို့၊ ညိုပြာပြာရောင်တွေလည်း နီလကသိုဏ်း ရောင်တွေပဲ၊ အဲဒါ အမျိုးမျိုးကြည့်ပြီးတော့ ညိုသည်-ညိုသည်၊ ပြာသည်-ပြာသည်၊ စိမ်းလည်း-စိမ်းသည် စသည်ဖြင့် နှလုံးသွင်းနေရမှာတဲ့၊ ကြည့်လောက်အောင် အဲဒီပန်းစသည်ကို စုပုံပြီးကြည့်ရမယ်တဲ့၊ အခုခေတ်တော့ လွယ်ပါတယ်၊ နံရံစသည်မှာ ဆေးရောင်နဲ့ရေးပြီး ကြည့်ရင်ရပါတယ်၊ ဆေးရောင်တွေကလည်း အမျိုးမျိုးရှိနေတော့ လိုတာရနိုင်ပါတယ်။

ပီတ-ဆိုတာ အဝါရောင်ကသိုဏ်းတဲ့၊ ဒါက ဆေးသုတ်ပြီး ကြည့်ရင် လွယ်ပါတယ်၊ လောဟိတကသိုဏ်းလည်း ဆေးရောင်တွေရှိနေတော့ လွယ်တာပဲ၊ ဩဒါတကသိုဏ်းကလည်း လွယ်တာပဲ၊ သူကသာပြီး လွယ်သေးတယ်၊ အင်္ဂတေလိမ်းကျံထားတဲ့ တံတိုင်းတို့၊ နံရံတို့ ပိတ်ဖြူတို့ စသည်အဖြူတွေကတော့ ပေါပါတယ်။ ကသိုဏ်းဝိုင်းလေး ပြုလုပ်ပြီးရှုနေရင် ဩဒါတကသိုဏ်းဖြစ်တာပဲ။ အဲဒီကသိုဏ်းတွေကို နေရာတကျပြုလုပ်ပြီး ရှုနေရင် ဥပစာရသမာဓိ ဖြစ်လာတယ်။ အဲဒီအခါမှာ နီဝရဏတွေကင်းပြီး ကသိုဏ်းအာရုံဟာ ကြည်ကြည်လင်လင် ဖြစ်လာတယ်၊ ပကတိတုန်းက ကသိုဏ်းအာရုံလို မဟုတ်တော့ဘူး၊ ညက်ညောပြီး အရောင်အလင်းနဲ့တကွ ဖြစ်လာတယ်၊ အဲဒါ ဥပစာရသမာဓိပဲ၊ ဒီ သမာဓိ အားကောင်းလာတဲ့အခါ ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာ ဈာန်အင်္ဂါငါးပါးရှိတဲ့ ပဌမဈာန်ကို ရောက်တော့တာပဲတဲ့။

ဒုတိယဈာန်စသည်မှာလည်း ဒီအတိုင်းပဲ၊ ဈာန်အင်္ဂါ ၄-ပါးရှိတဲ့ ဒုတိယဈာန်၊ ဈာန်အင်္ဂါ ၃-ပါးရှိတဲ့ တတိယဈာန်၊ ဈာန်အင်္ဂါ ၂-ပါးရှိတဲ့ စတုတ္ထဈာန်ရောက်တယ်တဲ့၊ အဲဒါတွေလည်း ပထဝီကသိုဏ်းလိုပဲ၊ ဒီအကုန်လုံး ဝေဖန်ဟောကြားတော်မူတယ်။ မြတ်စွာဘုရား အပြည့်အစုံ ဝေဖန်ဟောကြားပါတယ်၊ အကျယ်ကြီးပါပဲ။

ပြီးတော့ ပရိတ္တ ပရိတ္တာရမ္မဏ–သုဝဏ္ဏ ဒုဗ္ဗဏ္ဏစသည်ဖြင့်လည်း ဝေဖန်ဟောကြားတော်မူသေးတယ်၊ အဲဒီလို ဝေဖန်ဟောကြားပြီး အဲဒီစျာန်တွေ ဖြစ်တိုင်း ဖြစ်တိုင်းမှာ ဖဿော ဟောတိ၊ ဝေဒနာ ဟောတိ၊ စသည်ဖြင့် အသေးစိတ်တရားတွေကို ဝေဖန်ပြပါသေးတယ်၊ ကသိုဏ်းဝေဖန်ပုံပဲ၊ ပြီးသွားပါပြီ။

# ဗြဟ္မဝိဟာရစျာန်

ကသိုဏ်းစျာန်တွေပြီးတော့ ဗြဟ္မဝိဟာရတဲ့၊ ဗြဟ္မဝိဟာရဆိုတာ မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ၊ ဒီလေးပါးပါပဲ၊ အဲဒါတွေကို ဝေဖန် ဟောကြားတော်မူပါတယ်။

ကတမေ ဓမ္မာ ကုသလာ။ ။ ကုသလာ၊ ကုသိုလ်မည်ကုန်သော၊ ဓမ္မာ၊ တရားတို့သည်၊ ကတမေ၊ အဘယ်သည်တို့နည်း၊ ယသ္မိံ သမယေ၊ အကြင်အခါ၌။ ရူပူပပတ္တိယာ၊ ရူပဘဝဖြစ်ခြင်း၏။ မဂ္ဂံ၊ အကြောင်းဖြစ်သော။ ဈာနံ၊ ဈာန်ကို၊ ဘာဝေတိ၊ ဖြစ်စေ၏။ ဝိဝိစ္စေဝ ကာမေဟိ၊ ဝတ္ထုကာမ ကိလေသာကာမတို့မှ ကင်းဆိတ်၍သာလျှင်။ ဝိဝေကဇံ၊ ဝိဝေကကြောင့် ဖြစ်သော။ ပီတိသုခံ၊ ပီတိသုခကြောင့်ဖြစ်သော။ မေတ္တံ၊ ချမ်းသာစေလိုသော မေတ္တာစိတ်နှင့် ယှဉ်သော။ ပဌမဈာနံ၊ ပဌမဈာန်သို့။ ဥပသမ္ပဇ္ဇ၊ ကပ်ရောက်၍။ ဝိဟာရတိ၊နေ၏။ တသ္မိံ သမယေ၊ ထိုအခါ၌။ ဖဿော ဟောတိ၊ ဖဿဖြစ်၏။ စသည်ဖြင့် ဝေဖန်ဟောကြားပါတယ်။

အဲဒါဟာ မေတ္တာကမ္မဋ္ဌာန်းပါပဲ။ ဒီမေတ္တာ ကမ္မဋ္ဌာန်းဟာ ကောင်းပါ တယ်၊ ဈာန်ရတာ မရတာ ထားလိုက်ဦးတော့၊ ဈာန်ရရ မရရ မေတ္တာကမ္မဋ္ဌာန်း ပွားများနေတယ်ဆိုရင်၊ မေတ္တာပို့နေတယ်ဆိုရင်ကို ကုသိုလ်တွေ အများကြီး ဖြစ်နေတာပဲ၊ အများသူငါ ပို့နေကြတယ်၊ ဘုန်းကြီးကျောင်းတွေမှာဆိုရင် "သဗ္ဗေသတ္တာ သဗ္ဗေပါဏာ"စသည်ဖြင့် ပါဠိလို ရွတ်ပြီးတော့ ဝတ်တက်

ပရိတ်ရွတ်တဲ့အခါတိုင်း ထည့်ပြီး ရွတ်ဖတ်နေကြတာပဲ၊ အဲဒီမှာ စိတ်ပါဖို့ ကတော့ အရေးကြီးတယ်၊ တချို့က ရွတ်သာ ရွတ်နေကြတာ၊ စိတ်ကပါတာ မဟုတ်ဘူး။ အဝေရာ ဟောန္တု–ရန်ကင်းကြပါစေလို့ ပါးစပ်က ဆိုနေပေမယ့် စိတ်ကူးက တခြားမှာရောက်နေရင် မေတ္တာစိတ်ဓာတ် မပါတော့ဘူး၊ ဒီတော့ သမာဓိကုသိုလ်ကောင်းကောင်း မဖြစ်ဘူးပေါ့။

တခြား ရောက်နေတဲ့စိတ်က လောဘဖြစ်စရာ အာရုံတွေဆီ ရောက်နေတယ်ဆိုရင် လောဘစိတ်တွေဖြစ်နေမယ်၊ ဒေါသဖြစ်စရာ အာရုံတွေဆီ ရောက်နေရင်လည်း ဒေါသစိတ်တွေ ဖြစ်နေမယ်၊ မေတ္တာစိတ် မဖြစ်တော့ဘူး၊ မေတ္တာပို့နေတယ်ဆိုရင် မေတ္တာစိတ်ဖြစ်ဖို့က အရေးကြီးတယ်၊ ပါဠိလိုရွတ် ဆိုတတ်လို့ ပါဠိလို ရွတ်ဆိုနေရင် ''ချမ်းသာကြပါစေ''ဆိုတဲ့ မေတ္တာ စိတ်ဓာတ်ပါဖို့ အရေးကြီးပါတယ်၊ ''အဝေရာ ဟောန္တု၊ ဘေးရန် ကင်းကြ ပါစေ၊ အနီဃာ ဟောန္တု၊ ကိုယ်ဆင်းရဲ ကင်းကြပါစေ။ အဗျာပဇ္ဈာ ဟောန္တု၊ စိတ်ဆင်းရဲကင်းကြပါစေ၊ သုခီအတ္တာနံ ပရိဟရန္တု၊ ချမ်းသာနှင့်ပြည့် စုံသည် ဖြစ်၍ မိမိခန္ဓာကိုယ်ကောင်းစွာ ရွက်ဆောင်နိုင်ကြပါစေ''လို့ စိတ်ပါ လက်ပါ တကယ် ချမ်းသာစေလို မေတ္တာဓာတ်နဲ့ ပို့ဖို့လိုပါတယ်၊ အဲဒီလို မေတ္တာပွား ရမယ်၊ အချိန်တော်တောင် ကြာသွားပြီ၊ တစ်နာရီခွဲကစပြီး ဟောလာခဲ့တာ အခု သုံးနာရီခွဲတောင်ရှိသွားပြီ၊ အဲဒီတော့ နှစ်နာရီကြာသွားပြီ။

## တိုက်ရိုက်လာတဲ့ ကသိုဏ်းရှစ်ပါး

ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယောဆိုတဲ့ ဓာတ်–၄–ပါး ကသိုဏ်းနဲ့ နီလ၊ ပီတ၊ လောဟိတ၊ ဩဒါတဆိုတဲ့ ဝဏ္ဏကသိုဏ်း ၄–ပါး၊ ပေါင်း ၈– ပါး၊ ဒီအဘိဓမ္မာပါဠိတော်မှာ ဟောထားတာကတော့ ဒီကသိုဏ်း ၈–ပါးကို ဟောထားတယ်၊ ဝိသုဒ္ဓိမဂ်တို့ အဘိဓမ္မတ္ထသင်္ဂဟတို့မှာ ကသိုဏ်း ၁၀–ပါး ပြထားတယ်၊ ဒါပေမယ့်လို့ ၁၀–ပါးထဲက အာကာသကသိုဏ်းဆိုရင် အရူပ

ဈာန်နဲ့ဆိုင်တယ်၊ ဝိညာဏကသိုဏ်းဆိုတာလည်း အရူပဈာန်ရဲ့အာရုံ၊ အရူပဈာန်နဲ့ပဲဆိုင်တယ်၊ အဲဒီတော့ ၈-ပါးပဲ၊ ပါဠိတော်မှာ တိုက်ရိုက်လာတယ်၊ အဲဒီကသိုဏ်းတွေကတော့ အခု တရားနာနေရင်း နှလုံးသွင်းဖို့ မဖြစ်ဘူးဆိုလို့ ရွတ်လို့လည်း ဘာမှမထူးဘူး၊ ဒီတော့ အဲဒါတွေကို အဆိုခိုင်းနေလို့မဖြစ်ဘူး။

အဲ မေတ္တာကမ္မဋ္ဌာန်းကတော့ ပွားလို့ရတယ်၊ သွားရင်း၊ လာရင်း၊ နေရင်း၊ ထိုင်ရင်းလည်း ပွားလို့ရတယ်၊ လွယ်လွယ်ကူကူ ပွားများနိုင်တာဖြစ်လို့ အင်မတန်ပွားများဖို့ကောင်းတယ်၊ မေတ္တာပွားများနေတဲ့ ပုဂ္ဂိုလ်မှာ အကျိုး-၁၁-ပါး ရနိုင်တယ်တဲ့။

"အိပ်၊ နိုး၊ ချမ်းသာ၊ ကောင်းစွာအိပ်မက်"တဲ့၊ အိပ်ရင်လည်း ချမ်းချမ်းသာသာနဲ့ အိပ်ရတယ်၊ နိုးရင်လည်း ချမ်းချမ်းသာသာနဲ့ နိုးရတယ်။ အိပ်ပျော်နေတဲ့ အခါမှာလည်း မကောင်းတဲ့ အိပ်မက်တွေ မမက်ဘူးတဲ့၊ ပြီးတော့ "ချစ်လျက်လူနတ်"တဲ့။ လူတွေကလည်း ချစ်တယ်၊ နတ်တွေကလည်း ချစ်တယ်၊ "စောင့်လတ်နတ်များ"တဲ့၊ နတ်တွေကလည်း စောင့်ရှောက်ကြတယ်၊ "မီး၊ ဆိပ်၊ ဓါးတို့၊ ရှောင်ရှားကိုယ်မှာ"တဲ့၊ မီးတို့၊ အဆိပ်တို့ ဓါးလက်နက်တစ်စုံတစ်ရာတို့ မထိမခိုက်နိုင်ဘူး၊ "လျင်စွာစိတ်တည်"တဲ့ ချမ်းသာပါစေလို့ မေတ္တာပွားနေရင် စိတ်လည်းတည်ကြည်လွယ်တယ်၊ ပထဝီ ပထဝီလို့ ပွားများရတာထက် စိတ်တည်လွယ်တယ်၊ မခက်ဘူး၊ "ရှင်ကြည်မျက်နှာ"တဲ့၊ မေတ္တာပွားများနေတဲ့ ပုဂ္ဂိုလ်ရဲ့မျက်နှာ ကြည်ကြည်လင်လင်လည်းရှိတယ်၊ အင်မတန်ကောင်းတာပဲ၊ လူတစ်ဦးတစ်ယောက်နဲ့ တွေ့တဲ့အခါ ချမ်းသာပါစေ၊ ချမ်းသာပါစေလို့ ဒီလို မေတ္တာပွားများနေရင် မျက်နှာရွှင်ရွှင်ပျပျထားနိုင်တယ်၊ ပြောတဲ့စကားဟာလည်း နားချမ်းသာတဲ့ စကားလုံးကောင်းကောင်းကို ပြောလို့ ရတယ်၊ မေတ္တာကို မပွားဘဲ ပြောရင်တော့ ပြောမိပြောရာတွေကို လျှောက်ပြော မိတတ်တယ်၊ "သေခါမတွေ"တဲ့၊ သေခါနီးမှာလည်း မတွေမဝေဘဲ ကြည်ကြည်သာသာ သေရတယ်၊ "လားလေဗြဟ္မာပြည်"တဲ့၊ သေရင်လည်း ဗြဟ္မာပြည်ကို

ရောက်နိုင်တယ်တဲ့၊ အဲဒါ မေတ္တာအကျိုး ၁၁-ပါးပါပဲ။

ဒါကြောင့် မေတ္တာပွားရတာဟာ အင်မတန် ကျေးဇူးများတယ်၊ ဒီတော့ တရားနာရင်လည်းပဲ မေတ္တာချာန် ရသည်ဖြစ်စေ၊ မရသည်ဖြစ်စေ၊ မေတ္တာတော့ ပွားကြမှဖြစ်မယ်၊ ကဲ လိုက်ဆိုကြ--

အားလုံးသတ္တဝါတွေ ဘေးရန်ကင်းကြပါစေ၊ စိတ်ဆင်းရဲကင်းကြပါစေ၊ ကိုယ်ဆင်းရဲ ကင်းကြပါစေ၊

ကိုယ်စိတ်နှစ်ဖြာ ချမ်းသာစွာနှင့် မိမိခန္ဓာဝန်ကို ရွက်ဆောင်နိုင်ကြပါစေ။

အဲဒါ မေတ္တာပွားတာပဲ၊ ချမ်းသာပါစေ ချမ်းသာပါစေလို့ နှလုံးသွင်းလိုက်တိုင်း နှလုံးသွင်းလိုက်တိုင်း ချမ်းသာစေလိုတဲ့ မေတ္တာစိတ်လေးတွေဟာ အသစ်အသစ်ဖြစ်နေတာပဲ၊ အဲဒါလေးကို ဝိပဿနာရှုရတယ်၊ ချမ်းသာပါစေလို့ စိတ်က နှလုံးသွင်းလိုက်တာနဲ့ အဲဒီ ချမ်းသာပါစေဆိုတဲ့ မေတ္တာစိတ်ကလေးကို နောက်ကလိုက်ပြီး ရှုမှတ်ရတယ်၊ စိတ်အသိကလေးနဲ့ ရှုမှတ်ဖို့ပါပဲ၊ နာမည်မတပ်ဘဲ ဖြစ်ပါတယ်၊ အခု အားလုံးသတ္တဝါတွေလို့ ဆိုလိုက်တယ်၊ နှလုံးသွင်းလိုက်တယ်၊ အဲဒီ နှလုံးသွင်းလိုက်တဲ့ စိတ်ကလေးဟာ ပျောက်သွားတယ်၊ ဘေးရန်ကင်းပါစေလို့ နှလုံးသွင်းလိုက်ရင် အဲဒီနှလုံးသွင်းလိုက်တဲ့ စိတ်ကလေးလည်း ပျောက်သွားတယ်၊ မရှိတော့ဘူး၊ ဆင်းရဲကင်းပါစေလို့ နှလုံးသွင်းလိုက်ရင်လည်း ဒီလိုပဲ အဲဒီစိတ်ကလေးဟာ မရှိတော့ဘူး၊ ပျောက်သွားတယ်၊ နောက် နှလုံးသွင်းသမျှ စိတ်ကလေးတွေလည်း ဒီအတိုင်းပဲ နှလုံးသွင်းပြီး တစ်ခါတည်း မရှိတော့ဘူး၊ ပျောက်ပျောက်သွားကြတယ်၊ အဲဒီလို နှလုံးသွင်းတဲ့ စိတ်ကလေးရယ် ရွတ်ဆိုပွားများတဲ့ စကားလေးတွေရယ် အားလုံး ပျောက်ပျောက်သွားတာချည်းပဲ၊ အဲဒါကို နောက်ကနေပြီးတော့ ရှုလိုက်လို့ရှိရင် ဒါဟာ ဝိပဿနာ ဖြစ်တော့တာပဲ။ ဒါဟာ သမာဓိခေါ်တဲ့ သမထနဲ့ ဝိပဿနာ အစုံအစုံရှုတာပါပဲ၊ ဒီလို ဝိပဿနာတစ်ခါတည်း ပါသွားအောင်ရှုရင် ပိုပြီး

ကောင်းတယ်။

မေတ္တာပို့နေရင်း ရန်သူ စဉ်းစားမိရင်လည်း ဒေါသစိတ် ဖြစ်လာတတ်တယ်၊ အဲဒီလို မဖြစ်ရအောင်လို့ အရပ်ဆယ်မျက်နှာမှ ရန်သူမရှိအောင် နှလုံးသွင်းထားရတယ်၊ ဒေါသဖြစ်နေလို့ အလကားပဲ၊ သူလည်း သူ့ကံနဲ့သူ ဖြစ်နေတာပဲ၊ ကိုယ်လည်း ကိုယ့်ကံနဲ့ ကိုယ်ပဲ၊ ဒေါသဖြစ်နေရင် ဘာမှ အကြောင်းမထူးဘူး၊ ဒေါသဖြစ်တာဟာ ဖြစ်တာရှိမှာပဲဆိုပြီး ဒေါသကို ဖျောက်ပစ်ရတယ်၊ ရန်သူရယ်လို့ မထားဘဲနဲ့ အားလုံးချမ်းသာပါစေလို့ မေတ္တာစိတ်ဖြစ်အောင် ပွားနေဖို့လိုပါတယ်၊ တစ်ဦးတည်းဆိုရင်တော့ ပွားလို့လွယ်ပါတယ်၊ ကိုယ်ပို့လိုတဲ့ ပုဂ္ဂိုလ်ကို အာရုံပြုပြီး ချမ်းသာပါစေ ချမ်းသာပါစေလို့ ပွားများရုံပါပဲ၊ ကိုယ်ပွားများလိုတဲ့ ပုဂ္ဂိုလ်ကို ရွေးပြီး မေတ္တာပွားများတာဖြစ်လို့ ဒေါသစိတ်ဖြစ်မယ် မဟုတ်ပါဘူး၊ ဈာန်မရတောင် ကာသိုလ်စိတ်တွေကတော့ ဖြစ်နေတာပဲ၊ ဈာန်ရရင်တော့ ဗြဟ္မာပြည် ဗြဟ္မာ့ဘဝကို ရနိုင်ရောက်နိုင်သေးတယ်။

# ရှာလူကြီး ဓနဉ္စာနိဝတ္ထု

ဘုရားလက်ထက်တော်ကာလတုန်းက ဓနဉ္စာနိပုဏ္ဏားကြီးဆိုတာ ရှိတယ်၊ သူဟာ အစိုးရအမှုထမ်း ရှာလူကြီးတစ်ယောက်ပါပဲ၊ အခွန်တော်ကောက်ရတဲ့ လူကြီးတဲ့၊ သူက အခွန်တော်ကောက်တဲ့အခါ အစိုးရဘဏ္ဍာတိုက်ကို သွင်းတဲ့အခါကျတော့ မိုးလေဝသမမှန်လို့ဆိုပြီး နည်းနည်းပဲသွင်းတယ်၊ ပြီးတော့ ပိုတာတွေကို သူကယူတယ်၊ သူဟာ ဒီလိုပဲ၊ မတရားအလုပ်တွေကို လုပ်နေတယ်၊ ဒီလိုနဲ့ တစ်နေ့တော့ သူဟာ မကျန်းမမာ ရောဂါဖိစီးနှိပ်စက်လာလို့ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးကို ပင့်ရတော့တယ်၊ လူ့ဘဝတုန်းကတည်းက သူနဲ့ အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးဟာ အင်မတန်ရင်းနှီးတဲ့ မိတ်ဆွေဖြစ်ခဲ့သတဲ့၊ သေခါနီး အားနည်းနေတဲ့အခါ ရောက်နေပြီဆိုတာသိတော့

ရင်းနှီးခဲ့ဖူးတဲ့ မိတ်ဆွေကို အမှတ်ရပြီး တွေ့သွားချင်လေ့ရှိတယ်။ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးက သူ့ထံရောက်လာတဲ့အခါကျတော့ သူ့ကို တရားဟောကြားတယ်၊ ဘယ်လို ဟောကြားသလဲဆိုရင်--

အပါယ်လေးဘုံမှာ အပါယ်ဘဝဖြစ်ရတာထက် လူ့ဘုံလူ့ဘဝ ဖြစ်ရတာက ကောင်းတယ်၊ အဲဒါကို နှလုံးသွင်းရမယ်၊ လူ့ဘဝထက် စာတုမဟာရာဇ်နတ်ဘဝက ပိုကောင်းပြန်တယ်၊ ဒီထက် တာဝတိံသာနတ်ဘဝ၊ ဒီထက် ယာမာနတ်ဘဝ၊ ဒီထက် တုသိတာနတ်ဘဝ၊ ဒီထက် နိမ္မာနရတိနတ်ဘဝ၊ ဒီထက် ပရနိမ္မိတဝသဝတ္တီနတ်ဘဝ ဒီလို တဆင့်ထက်တဆင့် ပိုပိုကောင်းတယ်လို့ ဟောကြားတော်မူတယ်၊ ဒီတော့ ပုဏ္ဏားကြီးက ဗြဟ္မာ့ဘဝကိုကော ဟောပါသလားလို့ အရှင်သာရိပုတ္တရာကိုမေးတယ်၊ ဟုတ်တယ်-ဗြဟ္မာ့ဘဝကို ဟောတယ်၊ အဲဒီ ဗြဟ္မာ့ဘဝကို မရောက်ချင်ဘူးလားလို့ ပုဏ္ဏားကြီးကို အရှင်သာရိပုတ္တရာက မေးတော့ ပုဏ္ဏားကြီးက ရောက်ချင်ပါတယ်လို့ လျှောက်တယ်၊ ဒီလိုဆိုရင် ဗြဟ္မာ့ဘဝရောက်နိုင်တဲ့ နည်းကိုဟောမယ်လို့ဆိုပြီး ဗြဟ္မာ့ဘဝရောက်နိုင်တဲ့ နည်းလမ်းကို မထေရ်မြတ်က ဟောကြားတော်မူပါတယ်။

ဗြဟ္မာ့ဘဝကို ရောက်လိုရင် မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာဆိုတဲ့ ဗြဟ္မဝိဟာရတရားကို ပွားရတယ်ဆိုပြီး ပွားပုံပွားနည်းကိုပါ ဟောကြားတော်မူတယ်၊ ဒီလို ဟောပြောပြီးတော့ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးလည်း ကျောင်းကိုပြန်ကြွတော်မူတယ်၊ ပြန်ကြွသွားလို့ အရှင်သာရိပုတ္တရာမထေရ်မြတ်ကြီးက ကျောင်းတောင် ပြန်မရောက်သေးဘူး ပုဏ္ဏားကြီးသေဆုံးသွားတယ်၊ သေဆုံးပြီး ဗြဟ္မာ့ဘုံမှာ ဗြဟ္မာကြီး ဖြစ်သွားသတဲ့၊ သေခါနီးကပ်ကပ်ကလေးမှာပဲ ချာန်ရသွားတယ်၊ ဒါကြောင့် ဗြဟ္မာ့ဘုံ ရောက်သွားတာပေါ့၊ ဈာန်ဆိုတော့ လွယ်လွယ်လေးပဲ၊ ခက်တာမဟုတ်ဘူး၊ တခြားကသိုလ်

အကြောင်းကံ ထင်ထင်ရှားရှား မရှိဘူးဆိုရင် မကျန်းမမာဖြစ်တဲ့အခါမျိုးမှာ မေတ္တာပွားနေတာပဲ ကောင်းတယ်၊ အဲဒီ မေတ္တာစိတ်နဲ့ သေသွားရင် နေရာကျတာပဲ၊ အင်မတန်ကောင်းတယ်။

ဝိပဿနာယောဂီတွေမှာတော့ ကိုယ့်ဝိပဿနာကို ကိုယ်ရှုနေရင် ဒါကတော့ အကောင်းဆုံးပါပဲ၊ အင်မတန်မှ ကျေးဇူးများပါတယ်၊ အရင်က အားထုတ်လေ့လာပြီးသားဆိုတော့ မကျန်းမမာဖြစ်တဲ့အခါ ရှုမှတ်လို့ လွယ်ပါတယ်၊ ရှုမှတ်နေကျအတိုင်း ရှုမှတ်လိုက်ရုံပါပဲ၊ ဝိပဿနာကုသိုလ် အထောက်အပံ့ရှိပြီးသား ယောဂီဆိုရင်တော့ ဒီပြင်တရားကို အထူးရှာကြံပွားများနေဖို့ မလိုပါဘူး။ ကိုယ့်ရှုပွားနေကျတရားကို ပွားနေလိုက်ရုံပါပဲ။

ချမ်းသာပါစေဆိုတဲ့ မေတ္တာစိတ်နဲ့ မေတ္တာပို့အပ်တဲ့ပုဂ္ဂိုလ်တို့ကို ကပ်ပြီး တပူးတပေါင်းတည်း ဖြစ်သွားပြီဆိုရင် ဈာန်ကိုရောက်ရှိသွားတော့ တာပါပဲ။ မြတ်စွာဘုရားက ဈာန်တရားတွေကို ပဋိပဒါစသည်တို့ဖြင့် အကျယ်ကြီး ဝေဖန်ဟောကြားတော်မူပါတယ်၊ ဈာန်မှာပါဝင်တဲ့ တရားတွေကိုလည်း ဖဿော ဟောတိ စသည်ဖြင့် ဟောကြားတော်မူတာပါတယ်၊ မေတ္တာဈာန်မှာ တော့ အထူးမပါပါဘူး၊ ဒီ ၅၆-ပါးပါပဲ၊ ကရုဏာဈာန်မှာ ကရုဏာပိုပြီး ပါလာတယ်၊ မုဒိတာဈာန်ကျတော့လည်း မုဒိတာပိုပါလာတာပဲ ရှိပါတယ်၊ ဥပေက္ခာဈာန်ကျတော့ စတုတ္ထဈာန် ပဉ္စမဈာန်မှသာပါတယ်၊ စတုတ္ထဈာန် ပဉ္စမဈာန် အရာဌာနရောက်မှ ဥပေက္ခာကို ပွားများရတယ်တဲ့၊ အဲဒီလို ဝေဖန်ဟောကြားပါတယ်။

## ပြီးတော့ အသုဘကမ္မဋ္ဌာန်း

နောက်ပြီးတော့ အသုဘကမ္မဋ္ဌာန်းတွေကိုလည်း ဝေဖန်ဟောကြားတော်မူပါတယ်၊ အသုဘ ၁၀-ပါးထဲက ဥဒ္ဓုမာတကတဲ့၊ ဒါကတော့ ပဌမဈာန် တစ်မျိုးတည်း အတွက်ပါပဲ၊ ဥဒ္ဓုမာတက ဖူးဖူးရောင်နေတဲ့ သူသေကောင်ကို

မပါဘူး။

သူ့စာက ဘယ်လိုလဲဆိုတော့ မြင်းမိုရ်တောင်ဆိုတာ မရှိပါဘူးတဲ့၊ ယခုခေတ်အခြေအနေနဲ့ ကြည့်လို့ရှိရင် ကမ္ဘာဟာ အလုံးကြီး ဖြစ်နေပါတယ်၊ ဒီတော့ မြင်းမိုရ်တောင်ဆိုတာ မရှိဘူး၊ မြင်းမိုရ်တောင်မရှိတော့ မြင်းမိုရ်တောင် တာဝတိံသာ သွားပြီးတော့ အဘိဓမ္မာတရား ဟောတယ်ဆိုတာလည်း မဟုတ်ဘူးတဲ့၊ သူက ဒီလို စာရေးပြီးပို့တယ်၊ သူ့ဆီကို စာပြန်ချင်ပေမယ့်လို့ အခက်သားပဲ၊ လိပ်စာက မပါလာဘူး၊ မြင်းမိုရ်တောင်ဆိုတာကို လူတွေ အရောက်အမြင်နည်းပါတယ်၊ တာဝတိံသာနတ်ပြည်ဆိုတာကတော့ လူတွေမြင်တဲ့ နေရာမဟုတ်ဘူး၊ သူတို့က လူတွေမြင်ရတဲ့ နေရာလောက်မှာ စိတ်ကူးနဲ့ ကြည့်နေကြတာကိုး၊ ဒီတော့ မြင်းမိုရ်တောင်နဲ့ တာဝတိံသာကို သူတို့က မမြင်နိုင်ဘူးပေါ့၊ ရှိတော့ ရှိနေတာပါပဲ၊ မြတ်စွာဘုရားက မရှိဘဲ မဟောပါဘူး၊ အဲဒီလို သူ့ထံပြန်ဖြေဖို့ရာပဲ၊ ဒါပေမယ့်လို့ နာမည်၊ လိပ်စာ၊ အပြည့်အစုံ မပါလာ တာဖြစ်တော့ ပြန်မဖြေရဘူး။

## အကျိုးမရဘဲ ဆုံးရှုံးနေတယ်

အဘိဓမ္မာတရားဟာ ဘုရားဟောတရား ဟုတ်၊ မဟုတ် အခုလည်း အငြင်းပွားလျက်ပဲ ရှိနေတယ်၊ သုတ္တန်တရားတော်တွေက ရဟန်း၊ ရှင်၊ လူ အကုန်လုံးကျင့်ဖို့ ဟောကြားထားတဲ့ တရားတွေပဲ၊ အဲဒါကို မျက်နှာလွှဲပြီးတော့ ဂရုမစိုက်ကြဘဲနဲ့ အဘိဓမ္မာကျမ်းဂန်တွေကို သရုပ်ခွဲကြ လေ့လာကြတယ်၊ ဒါနဲ့ပဲ အားရကျေနပ်နေကြတယ်၊ ဒီတော့ ဝိပဿနာဉာဏ်တွေ ဖြစ်သင့်သမျှ မဖြစ်ဘူးပေါ့၊ အဲဒါတွေကို သေသေချာချာ တွေးပြီးတော့ စဉ်းစားကြည့်ရင် အကျိုးမဲ့တွေလို ဖြစ်နေပါတယ်၊ အကျိုးမရဘဲနဲ့ ဆုံးရှုံးနေတာတွေပါပဲ၊ အဲဒါတွေကို သတိတရားရဖို့ ကောင်းတယ်၊ ကြုံတိုင်း ကြုံတိုင်း ဘုန်းကြီးက ဒါတွေကို အကျိုးရှိစေချင်လို့ ဟောပြောပေးနေပါတယ်၊ သတိပေးတဲ့အနေနဲ့

ဟောတာပါပဲ၊ တစ်စုံတစ်ယောက်ကို စိတ်မချမ်းသာအောင် ထိခိုက်အောင် ဟောတာတော့ မဟုတ်ပါဘူး။

အခုဆိုရင် ဓမ္မစကြာဆိုင်ရာ တရားတွေကို မူချောမူသန့်ဖြစ်အောင် ပြုလုပ်နေတာ စာမျက်နှာ ၁၀၀-လောက်တော့ ပြီးသွားပါပြီ၊ မကြာခင် ပြီးမှာပါပဲ၊ အဲဒီမှာလည်း ဆိုင်ရာ ဆိုင်ရာတွေ မသိလောက်ဘူးထင်တဲ့ နေရာလေးတွေကို ထည့်သွင်းထားပါတယ်၊ အဲဒါ တော်တော်များများ ပါပါတယ်။

## သဘောမပေါက်ကြဘူး

မြတ်စွာဘုရားက "စက္ခုကရဏီ၊ ဉာဏကရဏီ"လို့ ဟောကြားထားပါတယ်၊ မဂ္ဂင်ရှစ်ပါးတရားဟာ စက္ခုကရဏီ ပညာမျက်စိကို ဖြစ်စေတတ်တယ်၊ ဉာဏကရဏီ အသိဉာဏ်ကို ဖြစ်စေတတ်တယ်တဲ့၊ မဂ္ဂင်ရှစ်ပါးတရားကိုပွားများလို့ရှိရင် ထူးခြားတဲ့ ပညာမျက်စိ ဖြစ်လာမယ်၊ ရုပ်၊ နာမ် သရုပ်ခွဲတာတွေကို ဆင်ခြင်နေရုံနဲ့တော့ ထူးခြားတဲ့ ပညာမျက်စိဆိုတာ မဖြစ်ပါဘူး၊ ကိုယ်တိုင်လေ့လာပြီးတော့ ကျက်ထားမှတ်ထားတဲ့အတိုင်း ဒါလောက်ရှိမှာပါပဲ၊ ဒီပြင် ဘာမှထူးပြီးတော့ မသိပါဘူး၊ ဒီ သတိပဋ္ဌာန် ဝိပဿနာတရားကတော့ သေသေချာချာ ထူးထူးခြားခြား သိစေပါတယ်၊ အစက ရုပ်နဲ့နာမ် မကွဲဘူး၊ ဝိပဿနာရှုမှတ်နေလို့ရှိရင် ရုပ်နဲ့နာမ် ကွဲလာပါတယ်၊ တော်တော်ကြာလို့ရှိရင် အကြောင်းအကျိုးတွေဆိုတာကိုလည်း သူ့ဟာ သူ သိလာပါတယ်၊ ပြီးတော့ သူ့အခိုက်အတန့်နဲ့သာ ဖြစ်ပျက်နေတာကို မြင်နေရလို့ အနိစ္စ မမြဲဘူးဆိုတာကို ထူးထူးခြားခြား သိလာပါတယ်၊ ဥဒယဗ္ဗယဉာဏ်ကျတော့ အဖြစ်အပျက်တွေကို လျင်လျင်မြန်မြန် ထူးထူး ခြားခြားတွေ ကိုယ်တိုင်တွေ့လာပါတယ်၊ စက္ခုကရဏီ၊ ဉာဏကရဏီလို့ ဟောကြားထားတဲ့အတိုင်း ကိုယ်တိုင်တွေ့ရပါလိမ့်မယ်။

အဘိညာယ ဥပသမာယ ထိုးထွင်းသိခြင်း၊ ကိလေသာငြိမ်းခြင်း

အလို့ငှာဆိုတဲ့အတိုင်း သစ္စာလေးပါးကိုသိဖို့၊ ကိလေသာငြိမ်းဖို့ အားထုတ်ရပါတယ်၊ တရားအားထုတ်တယ်ဆိုရင် သစ္စာလေးပါးကို သိသင့်သလောက်သိပြီတော့ ကိလေသာတွေ ငြိမ်းတန်သမျှလည်း ငြိမ်းသွားတာပါပဲ၊ ယောဂီဟာ ရှုတိုင်း ရှုတိုင်းသော ဉာဏ်ဖြင့် သူကသိနေပါတယ်၊ ရှုမှတ်ဖို့ အင်မတန်ကောင်းတဲ့တရားပဲ၊ အဲဒါတွေကို ဘုန်းကြီးက သရုပ်ဖော်ပြီးတော့ ပြနေပါတယ်။

ပါဠိအနက်လောက် ရေးထားတဲ့ မွေစကြာသုတ်ကို ကြည့်ပြီးတော့ လူတွေက တရားအားထုတ်ဖို့နဲ့ ဘာမှမဆိုင်ဘူး ထင်နေကြပါတယ်၊ လေ့လာဖို့ ရွတ်ဖို့ ဖတ်ဖို့ရာ ဒီလောက်သာဖြစ်နေကြပါတယ်၊ မွေစကြာရဲ့ သဘောကိုပဲ သဘောမပေါက်ကြဘူး၊ အဲဒီလိုဖြစ်နေတယ်၊ အခု ဘုန်းကြီးက သဘောပေါက်အောင်ဆိုပြီးတော့ အားထုတ်ပုံတွေရော၊ အကျိုးတွေရော ဟောပြောနေပါတယ်။

# ရူပ အရူပ ကြိယာ

ကာမာဝစရကြိယာကို အပြီးသတ်လိုက်ကြပါစို့၊ ၃–နာရီနဲ့ ပြီးသေးတာက မဟုတ်တော့ ဆက်ဟောနေရတယ်၊ ရူပကြိယာ အရူပကြိယာ စိတ်ကိုဟောရအောင်လို့ ဒီက ရူပကြိယာလို့ အမည်တပ်ထားပါတယ်။

"ရူပကြိယာ အရူပကြိယာစိတ် ဖြစ်ခိုက်၌ ရူပကုသိုလ် အရူပကုသိုလ်စိတ် ဖြစ်ခိုက်နှင့်တူ၏"တဲ့။

အဲဒါကတော့ အကုန်လုံးတူတာပါပဲ၊ ရူပကုသိုလ်က သုတ္တန်နည်းအားဖြင့် လေးပါး၊ အရူပဈာန်ကုသိုလ်ကလည်း ၄–ပါး၊ အဘိဓမ္မာနည်းအားဖြင့် ရူပကုသိုလ်က ၅–ပါး၊ အရူပကုသိုလ်က ၄–ပါး၊ အရူပကုသိုလ်ကတော့ အပြောင်းအလဲမရှိပါဘူး၊ ၄–ပါး ၄–ပါးပါပဲ၊ ကြိယာကလည်း ကုသိုလ်တွေတုန်းကလို အတူတူပါပဲ၊ ကုသိုလ်နဲ့ ကြိယာဆိုတာလောက်သာ ထူးပါတယ်၊

ဘာပြုလို့တုန်းဆိုတော့ ပုထုဇဉ်၊ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ အဖြစ်တုန်းက ရူပ၊ အရူပဈာန်တွေကို ရထားလို့ရှိရင် ရဟန္တာအဖြစ် ရောက်လို့ ဈာန်ဝင်စားတော့လည်း ဒီဈာန်တွေကိုပဲ ဝင်စားရတာ ဖြစ်လို့ပါပဲ၊ အာရုံဆိုရင် လည်း ပထဝီကသိုဏ်းဆို ပထဝီကသိုဏ်းပါပဲ၊ ဟိုတုန်းကလို အတူတူပင် ယောပြတာပါပဲ၊ ဖြစ်ပုံတွေ ဘာမှမထူးပါဘူး၊ ဈာန်စိတ်အနေနဲ့ တည်ကြည်ပုံ ဆိုရင်လည်း အတူတူပဲ၊ ဒါကြောင့်လည်း အဲဒီမှာ ယှဉ်တဲ့၊ ဖဿ၊ ဝေဒနာ အစရှိသော သမ္ပယုတ် ယှဉ်ဖက်တရားတွေကလည်း အတူ တူပါပဲ၊ ဒါတွေ အတူတူပဲလို့ အတိုချုပ် ညွှန်ပြထားပါတယ်၊ ဟိုတုန်းက ကာမကုသိုလ်စိတ်နဲ့ ကာမကြိယာစိတ်ဆိုတာဟာလည်း သဘောအားဖြင့် အတူတူပဲ၊ ခုနက ပြောဖို့ဟာ ကျန်သွားတယ်၊ မပြောမိခဲ့ဘူး၊ အခုမှ ထည့်ပြော လိုက်ရတယ်။

ရဟန္တာပုဂ္ဂိုလ်များမှာ ရလာတဲ့ဆွမ်းတို့၊ လာဘ်လာဘတို့ ပိုလျှံလို့ ရှိရင် ပေးလှူတာပါပဲ၊ ဒီလိုပေးလှူရင် အမှန်ကတော့ ဒါနကုသိုလ်ပါပဲ၊ ဒါပေမယ့်လို့ အကျိုးပေးမှာ မဟုတ်ဘဲ ပြုတာလှူတာဟာ ပြုကာမျှ၊ လှူကာ မျှသာ ဖြစ်လို့မို့ ကုသိုလ်လို့ မဆိုဘဲ အဲဒါကို ကြိယာလို့ ဆိုပါတယ်၊ အခြားပုဂ္ဂိုလ်တွေက ဒီလို လှူလို့ရှိရင်တော့ ဒါနကုသိုလ်ပေါ့၊ အဲဒါ အကျိုး ပေးမှာပဲ၊ လှူပုံစေတနာထားပုံချင်းကတော့ အတူတူပါပဲ၊ အခြားကုသိုလ် ကောင်းမှုတွေ ပြုရာမှာလည်း ရဟန္တာပုဂ္ဂိုလ်တို့က ပြုတယ်ဆိုရင် ဒီအတိုင်း ပါပဲ၊ ကြိယာပါတဲ့။

အဲ နေဝကုသလာ၊ နာကုသလာတဲ့၊ ကုသိုလ်သဘောလည်း မရှိဘူး၊ ကောင်းကျိုးပေးတဲ့သဘောလည်း မရှိဘူးပေါ့၊ နာကုသလာ အကုသိုလ် သဘောလည်း မရှိဘူး၊ န ကမ္မဝိပါကာ၊ ကုသိုလ်ကံ၊ အကုသိုလ်ကံကျိုးလည်း မဟုတ်ဘူး။ ကြိယာပါတဲ့၊ တခြားပုဂ္ဂိုလ်တွေပြုတာနဲ့ အကျိုးပေးတာ မပေး တာ ဒီလောက်သာ ခြားနားတာပါပဲ၊ ဖြစ်ပုံချင်းကတော့ အတူတူပါပဲ။

ဒါကြောင့် ကုသိုလ်ဖြစ်တဲ့အခါကာလမှာ ပါဝင်တဲ့ သဘောတရား

တွေနဲ့ ကြိယာဖြစ်တဲ့အခါကာလမှာ ပါဝင်တဲ့သဘောတရား အတူတူဖြစ်နေတာပါပဲ၊ အဲဒါကို ဒီမှာ--

"ရူပကြိယာ အရူပကြိယာတို့ ဖြစ်ခိုက်၌ ရူပကုသိုလ်၊ အရူပကုသိုလ်ကို ဖြစ်ခိုက်နှင့်တူ၏"လို့ ညွှန်ထားပါတယ်။

ဒီနေရာမှာ စဉ်းစားစရာရှိတယ်၊ လောကီစိတ်၊ စေတသိက်တွေကို နှလုံးသွင်းဆင်ခြင်ရုံနဲ့ စိတ်စေတသိက်တရားတွေကို ရှုခြင်းကိစ္စပြီးတယ်လို့ ဒီလိုယူဆပြီးတော့ ပြောဟောနေတဲ့ ပုဂ္ဂိုလ်တွေရှိတယ်၊ အဲဒီ လောကီတရားထဲမှာ ရူပ အရူပကြိယာစိတ်ဆိုတာ ရဟန္တာပုဂ္ဂိုလ်များမှ ရှိတာပဲ၊ ပုထုဇဉ်ပုဂ္ဂိုလ်မှာ ရှိကိုမရှိဘူး၊ မရှိတဲ့စိတ်တွေကို ရှုလို့မဖြစ်ပါဘူး၊ ရှိတဲ့တရားကိုတောင်မှ သိမ်မွေ့တဲ့တရားဆိုရင် မရှုနိုင်ဘူးတဲ့၊ နေဝသညာနာသညာယတနစျာန်စိတ်ဟာ သိမ်မွေ့တာဖြစ်လို့မို့ စျာန်ရတဲ့ပုဂ္ဂိုလ်လည်း ဒီစိတ်ကို မရှုနိုင်ဘူးတဲ့၊ အရှင်သာရိပုတ္တရာတောင် ဒီနေဝသညာနာသညာယတနစျာန်စိတ်ကိုတော့ မရှုနိုင်ဘူး။

ပဌမစျာန်ဝင်စားပြီးတော့ ရှုနိုင်တဲ့ အနိစ္စ၊ ဒုက္ခ၊ အနတ္တတရားကဲ့သို့ ဒုတိယစျာန်စိတ်၊ တတိယစျာန်စိတ်၊ စတုတ္ထစျာန်စိတ်၊ ပဉ္စမစျာန်စိတ် အဲဒီစျာန်တွေကို ဝင်စားပြီး အဲဒီ စျာန်စိတ်တွေကိုတော့ ရှုနိုင်ပါတယ်၊ အာကာသာနဉ္စာယတန စျာန်စိတ်၊ ဝိညာဏဉ္စာယတနစျာန်စိတ်၊ အာကိဉ္စညာယတနစျာန်စိတ် အဲဒီစျာန်တွေကိုလည်း ဝင်စားပြီးတော့ အဲဒီစျာန်စိတ်တွေကိုလည်း ရှုနိုင်ပါတယ်၊ အဖြစ်အပျက်တွေက ထင်ရှားတာဖြစ်လို့ အဲဒါတွေကို အကုန်လုံးရှုနိုင်ပါတယ်၊ နေဝသညာနာသညာယတန စျာန်စိတ်ကျတော့ သိမ်မွေ့နေတယ်၊ အဖြစ်အပျက်တွေက မထင်ရှားဘူး၊ နေဝသညာနာသညာမရှိဘူးလို့ ဆိုရလောက်အောင် သိမ်မွေ့တယ်၊ ဒါပေမယ့်လို့ လုံးလုံးမရှိတာတော့လည်း မဟုတ်ဘူး၊ ရှိတော့ရှိတယ်၊ မရှိတရှိပေါ့လေ၊ စိတ်မရှိတရှိ၊ ဖဿ မရှိတရှိ၊ ဝေဒနာ မရှိတရှိ၊ အဲဒီ နေဝသညာနာ သညာယတနစိတ်မှာ ပါဝင်နေတဲ့

တရားတွေဟာ အကုန်လုံး မရှိတရှိတွေချည်း ဖြစ်နေတာပဲ၊ ဒါကြောင့် အလွန်သိမ်မွေ့နေတယ်၊ အလွန်သိမ်မွေ့နေတော့ ဖြစ်ပေါ်တဲ့ သဘောလည်း မထင်ရှားဘူး၊ ပျက်သွားတဲ့ သဘောလည်း မထင်ရှားဘူး။

## ကလာပသမ္မသနနည်းနဲ့ ရှုရတယ်

ပထမဈာန်စတဲ့ တခြားဈာန်တွေမှာတော့ အသေးစိတ်အားဖြင့် ရှုလို့ဖြစ်တယ်၊ ဈာန်မှာပါတဲ့ ဝိတက်ကိုလည်း ရှုလို့ဖြစ်တယ်၊ ဝိစာရကိုလည်း ရှုလို့ဖြစ်တယ်၊ ပီတိကိုလည်း ရှုလို့ဖြစ်တယ်၊ စတုတ္ထဈာန်ဆိုရင် ဥပေက္ခာကိုလည်း ရှုလို့ဖြစ်တယ်၊ အဲဒီ ဈာန်တွေမှာ အားလုံး အသေးစိတ်အားဖြင့် ဒီလိုရှုလို့ဖြစ်တယ်၊ အဲ နေဝသညာနာသညာယတနဈာန်မှာတော့ ဒီလို အသေးစိတ်အားဖြင့် ရှုလို့မဖြစ်ဘူး၊ ကလာပသမ္မသနရှုနည်းဆိုတဲ့ အပေါင်းရှုနည်းနဲ့ ရှုမှဖြစ်တယ်။

ဒီပြင် ဈာန်တွေတုန်းက ဖြစ်ပျက်နေသလို ဒီ နေဝသညာ နာသညာယတနဈာန်ဟာလည်း ဖြစ်ပျက်နေတာပဲ၊ သူလည်း မြဲတာမဟုတ်ဘူး၊ အနိစ္စသဘောပဲ၊ အဲဒီလို တစ်လုံးတစ်စည်းတည်း လုံးပြီးတော့ ကလာပသမ္မသနနည်းအားဖြင့် ရှုရတယ်၊ အဲဒါကို သတိပြုဖို့ပါပဲ။

အရှင်သာရိပုတ္တရာ မထေရ်မြတ်ကြီးဆိုရင် ဈာန်ရပုဂ္ဂိုလ်ကြီးပဲ၊ သူတောင် ဒီနေဝသညာနာသညာယတနဈာန်ကို ရှုလို့မဖြစ်ဘူးဆိုထားပါတယ်၊ ဘာဈာန်ကိုမှ မရဘဲနဲ့ စိတ်စေတသိက်ကို သရုပ်ခွဲပြီးတော့ လေ့ကျင့်သွားရုံနဲ့ “ဈာန်စိတ်တွေလည်း ရှုတယ်၊ အရူပဈာန်တွေကိုလည်း ရှုတယ်၊ နေဝသညာနာသညာယတနဈာန်စိတ်ကိုလည်း ရှုတယ် ဒီစိတ်တွေကို ဒီလိုရှုလို့ဖြစ်တယ်” ဆိုရင် ဒါဟာ ဝိပဿနာရှုနည်းအမှန်မဟုတ်လို့ နည်းမှန်ကို မသိလို့နေမှာပေါ့။

အရှင်သာရိပုတ္တရာမထေရ်ကြီးတောင် အောက်အောက်ဈာန်တွေကိုသာ ရှုမှတ်နိုင်တယ်၊ အထက်ဖြစ်တဲ့ နေဝသညာနာသညာယတန ဈာန်ကျတော့

ရှုလို့မဖြစ်ဘူးလို့ ကျမ်းဂန်တွေကဆိုထားတယ်၊ စိတ် စေတသိက်တွေကို သရုပ်ခွဲပြီး ဒါက ဘာစိတ်၊ ဒါကဘာစိတ် ယှဉ်ဖက်၊ စေတသိက်တွေက ဘယ်စေတသိက်၊ ဘယ်စေတသိက်လို့ ဒီလိုတော့ သိနေကြပါတယ်၊ ဒီလောက် နဲ့ ရှုမှတ်ပြီးတယ်ဆိုရင် နေဝသညာနာသညာယတနစျာန်ကိုလည်း အဲဒီပုဂ္ဂိုလ်တွေက သရုပ်ခွဲထားကြတာပဲ၊ ဒီ နေဝသညာစျာန်ကိုလည်း သူတို့က ရှုမှတ်နိုင် တယ်လို့ ဆိုရမှာပေါ့၊ အဲဒီလိုဆိုရင် အရှင်သာရိပုတ္တရာမထေရ်ကြီး မရှုမှတ်နိုင်တဲ့ စျာန်စိတ်ကို အဲဒီပုဂ္ဂိုလ်တွေက ရှုမှတ်နိုင်ရာရောက်နေမှာပဲ၊ ပြီးတော့ သရုပ်ခွဲတယ်ဆိုတာ ဘယ်စိတ်ကိုတော့ သရုပ်ခွဲနိုင်တယ်၊ ဘယ်စိတ်ကို တော့ သရုပ်မခွဲနိုင်ဘူးလို့ ဒီလိုမရှိပါဘူး၊ ဘယ်စိတ်မဆို သရုပ်ခွဲလို့ ဖြစ်တာချည်းပါပဲ၊ နေဝသညာနာသညာယတနစျာန်စိတ်ကိုပါ စိတ်မှန်သမျှ အကုန်လုံး သရုပ်ခွဲနိုင်တာချည်းပါပဲ၊ ဒီတော့ သရုပ်ခွဲလို့ သရုပ်ကွဲနေတဲ့ ပုဂ္ဂိုလ်တွေဟာ ဘယ်စိတ်မဆို အကုန်လုံး ရှုမှတ်နိုင်တယ်လို့ဆိုလိုရာ ရောက်နေပါတယ်၊ ဒါကြောင့် သရုပ်ကွဲရုံနဲ့ ဝိပဿနာ ရှုမှတ်မှုကိစ္စ မပြီးနိုင်ဘူး ဆိုတာ ထင်ရှားပါတယ်။

ဝိပဿနာ ရှုတယ်ဆိုတာ တကယ်ဖြစ်ပေါ်တဲ့တရားကို ဖြစ်ပေါ်တဲ့ အတိုင်း ရှုမှတ်ရပါတယ်၊ ဥပမာ–ဝေဒနာဆိုပါတော့၊ ဒုက္ခဝေဒနာဆိုတာ သူဖြစ်လာရင် အခံခက်တယ်၊ အင်မတန် ထင်ရှားတာပဲ၊ ရှုမှတ်လို့ လွယ်ပါတယ်၊ နာရင် နာတယ်၊ ညောင်းရင် ညောင်းတယ်၊ ပူရင် ပူတယ်၊ နာကျင်ကိုက်ခဲရင် နာကျင်ကိုက်ခဲတယ် စသည်ဖြင့် ထင်ရှားပါတယ်၊ အဲဒီလိုဖြစ်တဲ့အတိုင်း သတိနဲ့ရှုမှတ်ရတာပဲ၊ သုခဝေဒနာဆိုရင်လည်း ထင်ရှားပါ တယ်၊ စိတ်ထဲမှာ ချမ်းသာတယ်၊ နေလို့ကောင်းတယ်၊ ချမ်းသာရင် ချမ်းသာ တယ်၊ နေလို့ကောင်းရင် နေလို့ကောင်းတယ်၊ စသည်ဖြင့် ဒီလိုပဲ သူဖြစ်တဲ့ အတိုင်း ရှုမှတ်ရပါတယ်၊ ဥပေက္ခာဝေဒနာဆိုတာကတော့ သိပ်မထင်ရှားဘူး၊ မဆိုးမကောင်း ရိုးရိုးအာရုံပဲ။

အဘိဓမ္မာနည်းအားဖြင့် သုခရင်လည်း ဖြစ်ရမယ်၊ ဒုက္ခရင်လည်း

ဖြစ်ရမယ်၊ ဒီလိုမှ မဟုတ်ရင် ဥပေက္ခာဝေဒနာပဲ၊ သုတ္တန်နည်းအားဖြင့် ရိုးရိုး တွေ့သိတာကို ဥပေက္ခာလို့ဆိုပါတယ်၊ မြင်တာ ကြားတာတို့ဆိုလို့ရှိရင် အဘိဓမ္မာနည်းကတော့ ဥပေက္ခာချည်းပါပဲ၊ သုခ ဒုက္ခရယ်လို့မရှိဘူး၊ ဒါပေမယ့် လို့ သုတ္တန်နည်းကတော့ အစုလူတွေမှာ ထင်ရှားနေတဲ့အတိုင်းပဲ၊ ကောင်းတဲ့ အာရုံကို မြင်ရတဲ့အခါ ကောင်းတဲ့သဘော ထင်ရှားနေပါတယ်၊ ကြားရာမှာ လည်း ဒီအတိုင်းပဲ၊ ကောင်းတာကိုကြားရရင် သာယာချမ်းမြေ့တယ်၊ မကောင်း တာကို ကြားရရင် နားမချမ်းသာဘူး၊ ဆင်းရဲတယ်၊ သာယာတဲ့ သီချင်းသံတို့၊ ဆဲသံ၊ ဝေါက်သံတို့စသည် သာယာချမ်းမြေ့ဖွယ် မချမ်းမြေ့ဖွယ်တွေဆိုတာ တစ်ခုနဲ့တစ်ခု ထင်ရှားတဲ့အာရုံတွေပါပဲ၊ နံရာစသည့်မှာလည်း ဒီလိုပဲ အကောင်း အဆိုး ထင်ရှားပါတယ်။

အနံ့နဲ့စပ်လို့ ဘုန်းကြီး မော်လမြိုင်မှာနေတုန်းက ဆရာတော်ကြီး ပျံတော်မူသွားတော့ အနံ့က ထွက်နေတယ်၊ ခေါင်းကိုတော့ သေသေချာချာ ပြုလုပ်ကြတာပါပဲ၊ လုံခြုံလောက်တဲ့ သံဖြူခေါင်းနဲ့ပါနဲ့ လုပ်ထားပါတယ်၊ ဒါပေမယ့်လို့ မလုံတော့ အနံ့ကထွက်နေတယ်၊ ကျောင်းပေါ်တွင်ထားတာ ဆိုတော့ တစ်ကျောင်းလုံးနံနေတာပဲ၊ ရွံလို့ကြောက်လို့ မဟုတ်ပေမယ့်လို့ မကောင်းတဲ့အနံ့ဆိုတော့ ခေါင်းတွေဘာတွေ ကိုက်လာတော့တယ်၊ အခံခက် တယ်၊ ကျန်းမာရေးကိုတောင် ထိခိုက်ပြီးတော့ ဖြစ်လာတယ်၊ နောက်တော့ ကျောင်းပေါ်ထားလို့ မကောင်းတာနဲ့ အောက်ချထားရတယ်၊ အားလုံးဒုက္ခ ရောက်လွန်းလို့ မခံနိုင်ကြတာနဲ့ ရွှေ့လိုက်ကြရတယ်။

ဒီပြင်အနံ့တွေဆိုတာလည်း ဒီလိုပါပဲ၊ ရဟန်းတွေမှာသာ ဒီလိုမဟုတ် သေးဘူး၊ လူတွေမှာလည်း ဒီလိုပဲ၊ ဒီလို နံကြတာပဲ၊ အဆိပ်နဲ့ဆိုရင် သေတောင် သေနိုင်တယ်၊ ဒါဟာ မခံနိုင်လောက်အောင် ပြင်းထန်လွန်းလို့ပဲ။

အရသာကို စားတဲ့အခါမှာလည်း အဘိဓမ္မာနည်းကတော့ ဥပေက္ခာပဲ၊ အဲဒီ တစ်ခုတည်းရှိတယ်၊ ဒါပေမယ့်လို့ သုတ္တန်နည်းကတော့ သုံးခုပဲ၊ စားတဲ့ အခါ ကောင်းတာ မကောင်းတာ ထင်ရှားတဲ့အခါလည်း ထင်ရှားတယ်၊ မထင်

ရှားတဲ့အခါလည်း မထင်ရှားဘူး၊ မကောင်းတဲ့အရသာက စပ်တာတို့ ပူတာတို့ဆိုလို့ရှိရင် အင်မတန် အခံခက်တယ်၊ ဆင်းရဲတယ်၊ ရောဂါပျောက်အောင် သောက်တဲ့ ဆေးခါးကြီးတောင် အင်မတန် အခံခက်တဲ့လူကျတော့ အန်ပစ်သည်အထိ အခံခက်တာပဲ၊ သေစေတတ်တဲ့ အဆိပ်ကိုစားမိလို့ရှိရင် သေသွားအောင်တောင် အခံခက်တယ်၊ အဲဒီလောက်ထိအောင် ဆင်းရဲတာပဲ၊ ဒါဟာ ထင်ရှားတဲ့ ဆင်းရဲတွေပဲ။

ဒီလို ထင်ရှားတဲ့ ဆင်းရဲချမ်းသာတွေဟာ ဥပေက္ခာဆိုပေမယ့်လို့ ဋီကာဆရာက အတူတူမဟုတ်ဘူးတဲ့၊ ကုသိုလ်၏ အကျိုးဖြစ်တဲ့ ဥပေက္ခာနဲ့ အကုသိုလ်၏ အကျိုးဖြစ်တဲ့ ဥပေက္ခာရယ်လို့ နှစ်မျိုးကွဲပြားထူးခြားတယ်တဲ့၊ ဟုတ်တယ် ကုသိုလ်ကျိုး၊ အကုသိုလ်ကျိုးအနေနဲ့တော့ အဘိဓမ္မာဒေသနာတော်မှာလည်း ဒီအတိုင်းဟောထားပါတယ်၊ ဒါပေမယ့်လို့ ဝေဒနာအနေနဲ့တော့ ဥပေက္ခာ ဝေဒနာတစ်မျိုးတည်း ဟောပါတယ်။

ကုသိုလ်၏အကျိုးဖြစ်တဲ့ ဥပေက္ခာကောင်းတဲ့ အဆင်း၊ အသံ၊ အနံ၊ အရသာ၊ အတွေ့အာရုံတွေကို အာရုံပြုပြီးတော့ ဖြစ်တယ်၊ အကုသိုလ်၏ အကျိုးဖြစ်တဲ့ ဥပေက္ခာက မကောင်းတဲ့ အဆင်း၊ အနံ့၊ အသံ၊ အရသာ၊ အတွေ့အာရုံတွေကို အာရုံပြုဖြစ်တယ်၊ ဒါကြောင့်မို့ ဥပေက္ခာလည်း ဝေဒနာအားဖြင့် အပြားမရှိပေမယ်လို့ အကောင်းအဆိုး အကျိုးအားဖြင့်တော့ ပြားနေသေးတာပဲ။

ဝေဒနာမှာ သုခနဲ့ ဒုက္ခ ၂-မျိုးထဲမှာ ဒုက္ခက ပိုပြီးတော့ ထင်ရှားတယ်၊ သုခက ဒုက္ခလောက်မထင်ရှားဘူး၊ ဥပေက္ခာကတော့ ရိုးရိုးတန်းတန်းမြင်နေကျ ကြားနေကျလေးတွေကို မြင်ရလို့၊ ကြားရလို့ရှိရင် ကောင်းတယ်၊ ချမ်းသာတယ်၊ မကောင်းဘူး၊ ဆင်းရဲတယ်ဆိုတာ မထင်ရှားဘူး၊ အသံကို ကြားရာစသည်မှာလည်း ဒီလိုချည်းပါပဲ၊ အဲ သူကတော့ သုခ၊ ဒုက္ခတို့လောက် မထင်ရှားဘူး။

# အလွဲတွေ မသိရအောင်လို့ ဝိပဿနာ ရှုရတာ

လောဘ၊ ဒေါသ၊ မောဟရယ်လို့လည်း သုံးခုရှိတယ်၊ သူတို့မှာလည်း လောဘနဲ့ဒေါသက ထင်ရှားတယ်၊ စိတ်ဆိုးပြီဆိုလို့ရှိရင် ဒေါသက သိပ်ပြီးတော့ ထင်ရှားတာပဲ၊ ဘေးက ပုဂ္ဂိုလ်တွေတောင် သည်လူစိတ်ဆိုးနေတယ်ဆိုတာ သိကြရတယ်၊ လောဘဖြစ်ရင်လည်း ထင်ရှားတန်သလောက်တော့ ထင်ရှားပါတယ်။ ဒါပေမယ့်လို့ တော်ရုံ၊ တန်ရုံ လောဘဖြစ်ရုံတော့ ဘေးကပုဂ္ဂိုလ်တွေက မသိပါဘူး၊ ကိုယ့်ဟာကိုယ်တော့ သိပါတယ်၊ သိမ်မွေ့တဲ့ လောဘဖြစ်ရင်တော့ ကိုယ့်ဟာကိုယ်တောင် မသိပါဘူး၊ လောဘနဲ့ ဒေါသဆိုရင် ထင်ရှားတော့ ထင်ရှားတာက များပါတယ်၊ ဒါပေမယ့်လို့ သိမ်မွေ့တဲ့ လောဘ၊ ဒေါသများလည်း ရှိတာပါပဲ၊ မောဟကျတော့ ဘယ်လို ဟာတုန်းဆိုတာ မထင်ရှားဘူး၊ လောဘ၊ ဒေါသတွေလို ထင်ရှားအောင် ပြောဖို့ခက်တယ်၊ အဲဒါက အင်မတန်သိမ်မွေ့တာပဲ၊ မြန်မာပြန်ထားတာက တွေဝေတာပဲ။

အာရုံပေါ်မှာ ကောင်းကောင်း မတည်ဘဲ ဒါက ဟုတ်သလိုလို၊ ဟိုဟာက ဟုတ်သလိုလို ဒီလို တွေးတောယုံမှားမှု ဝိစိကိစ္ဆာဖြစ်တဲ့အခါမှာ မောဟနဲ့ ယှဉ်ဖြစ်တယ်၊ အဲဒီအခါမှာ လောဘလည်း မပါဘူး၊ ဒေါသလည်း မပါဘူး၊ အဲဒီလောက်ကတော့ နည်းနည်း ထင်ရှားတယ်လို့ ဆိုရမှာပေါ့လေ၊ ပြီးတော့ စိတ်တွေ ဟိုရောက်၊ ဒီရောက် ပျံ့လွင့်နေတဲ့ အခါကာလမှာလည်း (ဥဒ္ဓစ္စဖြစ်နေတဲ့ အခါကာလမှာလည်း) မောဟနဲ့ ယှဉ်ဖြစ်တယ်၊ အဲဒီမှာလည်း လောဘ၊ ဒေါသမပါဘူး၊ သို့သော်လည်း အဲဒီ လောဘ၊ ဒေါသတွေကို အကြောင်းခံပြီးဖြစ်တာလည်း ရှိသေးတယ်၊ လိုချင်နှစ်သက်ပြီးတော့ ဟိုရောက်၊ ဒီရောက် ဒီလိုရောက်နေတာလည်း ရှိတယ်၊ စိတ်ဆိုးပြီးတော့ ဟိုရောက်လိုက်၊ ဒီရောက်လိုက် ဒီလိုရောက်နေတာလည်း ရှိတာပဲ၊ အဲဒီလို မဟုတ်ဘဲ ရိုးရိုးသူ့ဘာသာသူ စိတ်တွေ ဟိုရောက် ဒီရောက် ဒီလို ရောက်နေတာလည်း

ရှိတယ်၊ အဲဒီလို ဟိုရောက် ဒီရောက် ဥဒ္ဒစ္စဖြစ်နေတဲ့အခါ မောဟနဲ့ ယှဉ်ဖြစ်တယ်၊ ဒါပေမယ့်လို့ မထင်ရှားဘူး။

လိုချင်နှစ်သက်တဲ့လောဘ ဖြစ်တိုင်း ဖြစ်တိုင်း စိတ်ဆိုးတဲ့ဒေါသ ဖြစ်တိုင်းဖြစ်တိုင်း မောဟကတော့ပါတာပဲ ဒါပေမယ့်လို့ မထင်ရှားဘူး၊ သိမ်မွေ့တယ်၊ ဒါကြောင့် မောဟကို ဥပေက္ခာနဲ့ယှဉ်တယ်လို့ ဆိုတာပဲ၊ သဘာဝချင်း၊ အသိခက်တာချင်း တူတယ်၊ စာသဘောနဲ့ပြောရမယ်ဆိုရင်တော့ လောဘက လိုချင်နှစ်သက်တဲ့သဘောပဲ၊ ဒေါသက စိတ်ဆိုးတဲ့ သဘောပဲ၊ ဒါတွေက ထင်ရှားတယ်၊ မောဟဆိုတာက တွေဝေတာပဲ၊ အမှန်တရားတွေကို မသိတာ၊ အလွဲတွေကိုသိတာ ဒီလိုပြောရင်လည်း နားလည်တော့ နားလည်ပါတယ်၊ ဒါပေမယ့်လို့ ကိုယ်တွေ့အားဖြင့်တော့ ထင်ရှားသိဖို့ရာ သိပ်မလွယ်ဘူး။

ပြီးတော့လည်း မြဲတဲ့အနေအားဖြင့် သိနေတာတွေ၊ တင့်တယ်တဲ့၊ ကောင်းတဲ့အနေအားဖြင့် သိနေတာတွေ၊ ချမ်းသာတဲ့ အနေအားဖြင့် သိနေတာတွေ၊ ပုဂ္ဂိုလ်သတ္တဝါအနေအားဖြင့် သိနေတာတွေ လောကမှာ ပကတိအတိုင်း သိရိုးသိစဉ်အားဖြင့် သိနေတာတွေ၊ အဲဒါတွေဟာ များသောအားဖြင့် မောဟပါပါတယ်။

အဲဒီ မောဟအသိနဲ့ အလွဲတွေ လျှောက်ပြီးတော့ သိနေတာပဲ၊ အဲဒီလို အလွဲတွေကို မသိရအောင်၊ အမှန်အတိုင်း သိရအောင် ဝိပဿနာ ရှုနေရတာပဲ၊ မြင်ပြီးပြီးချင်း အဲဒီလို အလွဲတွေ မရောက်ခင် အမှန်သိက အရင်ကျအောင် လက်ဦးသိအောင်လို့ ဝိပဿနာ ရှုမှတ်ရတာပဲ၊ မြင်ပြီးပြီးချင်း မြင်တယ်၊ ကြားပြီးပြီးချင်း ကြားတယ်၊ နံပြီးပြီးချင်း နံတယ်၊ စားပြီးပြီးချင်း စားတယ်၊ တွေ့ထိပြီးပြီးချင်း တွေ့ထိတယ်၊ စိတ်ကူးကြံစည်ပြီးပြီးချင်း စိတ်ကူးကြံစည်တယ်လို့ ရှုမှတ်ရတယ်၊ အဲဒီ ဝိညာဉ်ခြောက်ပါး ဖြစ်ပြီးပြီးချင်း နောက်တဝီထိမကျသေးခင် သိအောင် သတိနဲ့ရှုမှတ်ရတယ်၊ အကယ်၍ ဒီလို မရှုမှတ်နိုင်သေးလို့ရှိရင် နောက်တဝီထိ ကျကျချင်း သိရင်လည်း မဆိုး သေးဘူး၊

ပညတ်တွေဆီကို မရောက်သေးဘူး။

တစ်နေ့ကပြောခဲ့တဲ့ မြင်ဆဲအခဆင်း၊ ထင်ဆဲအဆင်း၌ မြင်ဆဲလောက်၊ ထင်ဆဲလောက်ပဲ သိတယ်ဆိုတဲ့အတိုင်း ပထမစိတ်က "မြင်ပြီးတရား၊ စဉ်းစားလေရာ"မြင်ပြီး စဉ်းစားတယ်တဲ့၊ မြင်ပြီးဖြစ်တဲ့ အတိတ်ကို စဉ်းစားတယ်တဲ့၊ သဘောတရားပဲ၊ ဒါလည်း ပရမတ်ပဲ ရှိသေးတယ်၊ ပညတ် မဟုတ်သေးဘူး၊ "သဏ္ဌာန်ဒြပ်၊ ပညတ်ပေါ်လာ"အဲဒါ တတိယစိတ်ကျပုံပဲ၊ တတိယစိတ်ကျတော့ သဏ္ဌာန်ဒြပ်တွေ ပေါ်လာပြီတဲ့၊ "မည်နာမ သိရ နောက်ဆုံးပါ"တဲ့၊ နောက်ဆုံးကျတော့ အမည်နာမတွေ သိလာတယ်၊ "ဘယ်သူပဲ၊ ဘယ်ဝါပဲ၊ ဘာပဲ၊ ညာပဲ"စသည်ပေါ့၊ နောက် စဉ်းစားတိုင်း စဉ်းစားတိုင်း အမျိုးမျိုး သိသွားတာပါပဲ၊ ချစ်စရာကောင်းတယ်၊ မုန်းစရာကောင်းတယ် စသည် အကောင်းအဆိုး အကုန်လုံး လျှောက်ပြီးတော့ သိကုန်တာပေါ့၊ အဲဒီလို အလွဲအသိတွေဆီကို မရောက်သေးခင် မြင်ပြီးပြီးချင်း၊ ကြားပြီးပြီးချင်း၊ နံပြီးပြီးခြင်း၊ စားပြီးပြီးချင်း၊ တွေ့ထိပြီးပြီးချင်း၊ ကြံပြီးပြီးချင်း၊ ချက်ချင်းလိုက်ပြီးရှုမှတ်ရတာပဲ၊ အမှန်သိလေး ဖြစ်အောင်လို့ပေါ့၊ မြင်တုန်း မြင်ဆဲမှာ မြင်တယ်လို့ သိတာက အမှန်သိပဲ၊ အဆင်းရုပ်ပရမတ်ပဲ။

မြင်တုန်း မြင်ဆဲမှာ ရှုမှတ်လိုက်ရင် မြင်ကာမျှပဲထင်တယ်၊ ပုဂ္ဂိုလ်သတ္တဝါတွေ မပါသေးဘူး၊ သူ့အစိုက်အတန့်နဲ့သူ ဖြစ်ပျက်သွားတာကို သိလိုက်ရင် အဲဒါ အမှန်သိရင် ရပ်သွားတာပဲ၊ အမှားသိအောင်မရောက်တော့ဘူး၊ အနိစ္စ၊ ဒုက္ခ၊ အနတ္တဆိုတာ သူ့အမှန်အတိုင်းသိသွားတာပဲ၊ အဲဒီလိုသိအောင်လို့ မြင်တိုင်း၊ ကြားတိုင်း ဒွါရခြောက်ပါး၌ ပေါ်လာသမျှကို လိုက်ပြီးတော့ ရှုမှတ်ရတယ်တဲ့။

ဒီလို မရှုနိုင်တဲ့ ပုဂ္ဂိုလ်တွေမှာတော့ ကြားပြီးတာနဲ့ သိရိုးသိစဉ်တွေကို လျှောက်ပြီးတော့ သိသွားတာပဲ၊ အဲဒါ မောဟအသိတွေတဲ့၊ ဒီ မောဟအသိတွေ အဝိဇ္ဇာအသိတွေကို မဖုံးမလွှမ်းရအောင်လို့ ရှုမှတ်ကြရတယ်၊ အမှတ်မသိရင်

အဝိဇ္ဇာကဖုံးလွှမ်းတယ်၊ သစ္စာလေးပါးတရားတွေကို မသိအောင် ဖုံးလွှမ်းတယ်၊ ဖုံးလွှမ်းတော့ ရေအိုးများမှာ အဖုံးနဲ့ဖုံးသလို ဖုံးသလား၊ သစ်ရွက်နဲ့ဖုံးသလို ဖုံးသလားဆိုတော့ ဒီလိုမဟုတ်ပါဘူး၊ သူက အလွဲကို သိသောအားဖြင့် ဖုံးတာပဲ၊ သူက မမြဲတာကို မြဲတယ်လို့ ပြောင်းပြန်သိသိပြီးတော့ အမှန်ကို အမှားနဲ့ ဖုံးဖုံးပစ်တယ်၊ နောက်စိတ်တွေကလည်း သူ့အတိုင်း သူညွှန်တဲ့အတိုင်း အမှားတွေကို လိုက်ပြီးတော့ သိနေကြတယ်၊ ဆင်းရဲတွေကို ချမ်းသာတယ်လို့ သူက ပြောင်းပြန်သိပြီးတော့ဖုံးတယ်၊ အနတ္တ ငါကောင်မဟုတ်တာ၊ ပုဂ္ဂိုလ် သတ္တဝါမဟုတ်တာကို၊ ငါကောင်၊ သတ္တဝါကောင်လို့ ဒီလို မမှန်မကန် သိသိပြီးတော့ ဖုံးတယ်၊ သူညွှန်တဲ့အတိုင်း နောက်စိတ်တွေက လိုက်လိုက် သိနေတာပဲ၊ ဒီတော့ အမှန်မရောက်တော့ဘူး၊ မောဟဆိုတဲ့ အဝိဇ္ဇာက အဲဒီလို ဖုံးလွှမ်းတာတဲ့။

အဲဒီလို အဝိဇ္ဇာက မဖုံးမလွှမ်းနိုင်အောင် မြင်တိုင်း၊ ကြားတိုင်း၊ နံတိုင်း၊ စားတိုင်း၊ တွေ့ထိတိုင်း၊ ကြံသိတိုင်း၊ ဒွါရခြောက်ပါးက ဖြစ်ပေါ်သမျှ အာရုံတွေကို ရှုရမှတ်ရတာတဲ့၊ အဲဒါလေးတွေကို အားထုတ်ကာစ ပုဂ္ဂိုလ်တွေက သဘောပေါက်တာမှ နေရာကျမယ်၊ အားထုတ်ပြီးသား ပုဂ္ဂိုလ်တွေကတော့ ကိစ္စမရှိဘူး၊ သူတို့က သိပြီးသားတွေပဲ။

## အသက် ၈၀–ကျော် ဆရာတော်ကြီးတစ်ပါးက ဒီလိုဆိုတယ်

စာပေဗဟုသုတများတဲ့ ပုဂ္ဂိုလ်တွေမှာ သာပြီးတော့ အရေးကြီး ပါတယ်၊ သူတို့က ကိုယ်သိ သိထားတာလေးတွေက ခံခံနေတတ်ကြတယ်၊ တစ်ခါက ဆရာတော်ကြီးတစ်ပါး ဒီမှာသာပြီးတော့ နည်းနည်းပါးပါး အားထုတ် ဖူးတယ်၊ စာတတ်ပေတတ် ဆရာတော်ကြီးပါပဲ၊ ကြီးပါပြီ၊ အသက် ရှစ်ဆယ်

တောင်ကျော်ပြီလို့ သိရပါတယ်၊ သူရေးတဲ့ကျမ်းထဲမှာ ဘယ်လိုရေး ထားသလဲဆိုတော့--

"ပစ္စုပ္ပန်တည့်တည့် ရှုရမယ်လို့ တစ်ချို့ကဆိုကြတယ်၊ ပစ္စုပ္ပန်တည့်တည့် မတည့်တည့် ရှုရင်ပြီးတာပါပဲတဲ့"။

သူကရေးထားတယ်၊ ဒီဆရာတော်ကြီးကို အများက လေးစားကြပါတယ်၊ ကျမ်းတွေလည်းတော်တော်များများ ရေးထားပါတယ်၊ ဒီမှာလည်း တရားအားထုတ်ဖူးပါတယ်၊ ဒီမှာ အားထုတ်တုန်းက ကောင်းကောင်းအားထုတ်ဟန် မတူပါဘူး၊ ဒါပေမယ့်လို့ တော်တော်တော့ ကြာအောင် အားထုတ်သွားတယ်လို့ ပြောတယ်၊ ဘုန်းကြီးကတော့ မမေးလိုက်ရပါဘူး၊ အသက်ရှစ်ဆယ်ကျော်ဆိုတော့ ဘုန်းကြီးတို့ထက်တောင် ကြီးပါပြီ၊ စာပေကျမ်းဂန်ဗဟုသုတလည်းရှိပါတယ်၊ အနေအထိုင် စသည်လည်း ကောင်းပါတယ်၊ ဒါကြောင့် ကြည်ညိုဖွယ်ဂုဏ်လည်း ရှိပါတယ်၊ ဒါပေမယ့်လို့ ပစ္စုပ္ပန်တည့်တည့် ရှုရတဲ့ အဓိပ္ပာယ်ကိုတော့ သူသဘောပေါက်ဟန် မတူပါဘူး၊ ဒီမှာ အားထုတ်သွားတုန်းကလည်း သမာဓိတို့၊ ဉာဏ်တို့ ထိထိရောက်ရောက် ဖြစ်သွားပုံမရပါဘူး။

ရုပ်တရား နာမ်တရားတွေက ပစ္စုပ္ပန်မှာသာ ထင်ရှားရှိတာပဲ၊ အတိတ်ဆိုတာလည်း လွန်သွားပြီ၊ ချုပ်ဆုံးသွားပြီး ရှိတော့တာမဟုတ်ဘူး၊ အနာဂတ်ဆိုတာကလည်း မရောက်သေးဘူး၊ ရှိသေးတာမဟုတ်ဘူး၊ အဲဒီလိုမရှိတာတွေကို သွားရှုလို့ ရုပ်နာမ်ကို ဘယ်လိုလုပ်ပြီးတော့မြင်မှာလည်း မရှိတာကို ရှုလို့ ရုပ်၊ နာမ်တို့ရဲ့ သဘောကို တကယ်သေသေချာချာ မသိနိုင်ပါဘူး၊ အနိစ္စသဘောကို အမှန်အတိုင်း ကိုယ်တွေ့ဒိဋ္ဌ မသိပါဘူး၊ အဲဒါအရေးကြီးပါတယ်။

ဒါကြောင့် မြင်တိုင်း ကြားတိုင်း ဒွါရခြောက်ပါးက ပေါ်လာတိုင်း ပေါ်လာတိုင်း မြင်ခိုက် ကြားခိုက်မှာ ရုပ်နာမ်တွေ ထင်ရှားရှိနေတုန်းကို

လိုက်ပြီးတော့ ရှုရတာ၊ အဝိဇ္ဇာက မဖုံးသေးခင် အဝိဇ္ဇာ အလွဲသိရဲ့နောက်လိုက် အကုသိုလ်ကဖြစ်စေ၊ ကုသိုလ်ကဖြစ်စေ မသိသေးခင်ပေါ့လေ၊ အဲဒါ လက်ဦး သိအောင် ချက်ချင်း လိုက်ရှုရတယ်၊ အဲဒီလို ရှုပါမှ ရုပ်တရား နာမ်တရားတို့ရဲ့ မမြဲပုံ၊ ဆင်းရဲပုံ၊ အလိုသို့ မပါပုံတွေကို တကယ်သိတယ်၊ အဲဒီတော့မှ သမာဓိလည်း ဖြစ်လာတယ်၊ ဝိပဿနာဉာဏ်တွေလည်း ထူးထူးခြားခြားဖြစ် လာတယ်၊ အင်မတန် ကောင်းပါတယ်၊ သူက အင်မတန်ကို ရှင်းနေတာပဲ။

အချိန်မရှိတော့ဘူး၊ တရားသိမ်းကြစို့၊ ၃–နာရီ ၁၅–မိနစ်တောင် ကျော်သွားပြီ၊ ဒီနေ့ ရုပ်ပိုင်းကို ဟောမယ်လို့ဟာ အချိန်ကကုန်သွားလို့ မဟောတော့ဘူး၊ ရုပ်ပိုင်းပြီးလို့ရှိရင် ဝိဘင်းကျမ်းကို ဆက်ဟောရမယ်၊ ဝိဘင်းကျမ်းကလည်း ရုပ်ကစပြီးတော့ဟောရမှာပဲ၊ နောက်ရက်ကျမှ ရုပ်ပိုင်းနဲ့ အာယတန ၁၂–ပါးအကြောင်း၊ ဓါတ် ၁၈–ပါးအကြောင်း၊ သစ္စာလေးပါး အကြောင်းကို ဟောရမယ်။ ဝိပဿနာရှုအပ်တဲ့ တရားတွေချည်းပါပဲ၊ အဲဒီမှာ ပဋိစ္စသမုပ္ပါဒ်တွေလည်းပါတယ်၊ ဟောစရာဟောချက်တွေ အင်မတန် ကောင်း ပါတယ်။

ယနေ့အဖို့ အကျွန်ုပ်တို့ ပြုစုပွားများအားထုတ်အပ်သော ကောင်းမှု အပေါင်း၏ အဖို့ဘာဂကို အမျှ…အမျှ…အမျှ…..ယူတော်မူကြပါကုန်လော့။

သာဓု….သာဓု….သာဓု….။

# အဘိဓမ္မာတရားတော်ကြီး

ယနေ့ ၁၃၃၇–ခုနှစ်၊ ဝါဆိုလပြည့်နေ့ (၂၂–၇–၇၅)ဖြစ်တယ်၊ ၁၃၃၅–ခု၊ ဝါဆိုလပြည့်နေ့ကစပြီးတော့ ဝါစဉ်နဲ့ မြတ်စွာဘုရားဟောတဲ့တရား ကျရာကျရာ ဟောလာတာ အခု ၃၇–ခုဆိုတော့ ၂–နှစ်ရှိလာပြီပေါ့လေ။ မြတ်စွာဘုရားကတော့ ခုနှစ်ဝါမြောက်မှာ တာဝတိံသာ၌ အဘိဓမ္မာတရားကို ဟောတော်မူခဲ့တယ်တဲ့၊ (အဘိဓမ္မာကို စဟောတဲ့နှစ်ကတော့ ၁၃၃၆–ခုနှစ်၊ ပြာသိုလပြည့်နေ့ကဖြစ်သည်။) အဘိဓမ္မာအဋ္ဌကထာများက ဒီလိုပြဆိုထားကြပါသည်။ အဲဒီလို ပြဆိုထားတဲ့အတိုင်း ခုနှစ်ဝါမြောက်မှာ ကျရောက်တဲ့တရားကို ဟောလာတာ တော်တော်ကြာပါပြီ၊ စဟောတာကတော့ (၂၆–၁–၇၅)ပြာသိုလပြည့်နေ့ကစပြီး ဟောလာခဲ့ပါတယ်၊ ဓမ္မသင်္ဂဏီကတော့ အတော်လေးတော့ စုံသွားပါပြီ။

ဒါပေမယ့်လို့ ဓမ္မသင်္ဂဏီမှာ ဟောထားတဲ့တိတ်တွေ၊ ဒုတ်တွေကို အကုန်လုံးလျှောက်ပြီး မဟောနိုင်ပါဘူး၊ ဓမ္မသင်္ဂဏီက ကုသလာဓမ္မာ၊ အကုသလာ ဓမ္မာကိုလည်း ဟောပြီးသွားပါပြီ၊ အဗျာကတာ ဓမ္မာဆိုရင်လည်း ဝိပါက်အဗျာကတ ကြိယာအဗျာကတ ပြီးသွားပြီ၊ ရုပ်အဗျာကတ၊ နိဗ္ဗာန် အဗျာကတ၊ ဒါတွေကိုတော့ မဟောရသေးဘူး၊ နိဗ္ဗာန်ကိုတော့ အကျယ် ဟောဖို့ သိပ်မလိုပါဘူး၊ အခုရုပ် အဗျာကတတွေကို ဟောဖို့အလှည့်ကျ နေပြီ။

ဝိဘင်းကျမ်းမှာ အစဆုံး ဟောတာကခန္ဓာငါးပါးထဲက ရုပ်အဗျာကတ ကို စပြီးဟောထားပါတယ်၊ ဒါကြောင့် ဓမ္မသင်္ဂဏီကျမ်းထဲက ရုပ်အဗျာကတကို မဟောတော့ဘဲ ဝိဘင်းကျမ်းက ခန္ဓာငါးပါးကို ဟောမှပဲလို့ ဒီလိုစဉ်းစားထား ပါတယ်၊ ဒါပေမယ့်လို့ ဓမ္မသင်္ဂဏီကျမ်းထဲမှာ အထူးမှတ်သားစရာ ကောင်းတဲ့ ဒုက်တစ်ခုရှိတယ်၊ အဲဒီဒုက်ကို ဟောဦးမှပဲ။

"သာရမ္မဏာ ဓမ္မာ၊ အနာရမ္မဏာ ဓမ္မာ"

သာရမ္မဏာ၊ အာရုံရှိကုန်သော။ ဝါ၊ အာရုံကိုသိတတ်ကုန်သော–အာရုံပြုတတ်ကုန်သော။ ဓမ္မာ၊ တရားတို့သည်။ သံဝိဇ္ဇန္တိ၊ ရှိကုန်၏။

အနာရမ္မဏာ၊ အာရုံမရှိကုန်သော။ ဝါ အာရုံမပြုတတ်ကုန်သော–အာရုံကို မသိတတ်ကုန်သော။ ဓမ္မာ၊ တရားတို့သည်။ သံဝိဇ္ဇန္တိ၊ ရှိကုန်၏တဲ့။

လောကမှာ တရားက အာရုံပြုတတ်တဲ့တရား အာရုံမပြုတတ်တဲ့ တရားလို့ နှစ်မျိုးပဲရှိပါတယ်၊ လောကလူတွေ အမြင်ကတော့ ပုဂ္ဂိုလ်သတ္တဝါ၊ ယောက်ျား၊ မိန်းမ စသည်ဖြင့် ဒီလိုခေါ်ဝေါ်ပြီးတော့ နေကြတယ်၊ အစစ်အမှန်ကတော့ သာရမ္မဏနဲ့ အနာရမ္မဏ–အာရုံပြုတတ်တဲ့တရားနဲ့ အာရုံမပြုတတ်တဲ့တရား–ဒီနှစ်ခုရှိတာပဲ၊ ပုဂ္ဂိုလ်တစ်ဦးတစ်ဦး သန္တာန်မှာရှိနေတာက အဲဒီအာရုံပြုတတ်တဲ့ တရားကတမျိုး၊ အာရုံမပြုတတ်တဲ့ တရားကတမျိုး ဒီနှစ်မျိုးရှိတာပဲ။ လူတိုင်း လူတိုင်းမှာ ဒီနှစ်မျိုးပဲရှိတယ်၊ နတ်တွေလဲ နှစ်မျိုးစီရှိတာပဲ၊ ဗြဟ္မာတွေလဲ နှစ်မျိုးစီထက်ပိုပြီး မရှိပါဘူး၊ ဒါပေမယ့်လို့ ရုပ်သက်သက် ဗြဟ္မာတွေလဲ ရှိတယ်၊ နာမ်သက်သက် ဗြဟ္မာတွေလဲ ရှိတယ်၊ ရုပ်သက်သက်ဗြဟ္မာတွေမှာတော့ အနာရမ္မဏ–အာရုံမပြုတတ်တဲ့ ရုပ်တရားသက်သက်တမျိုးသာ ရှိတယ်၊ နာမ်သက်သက် ဗြဟ္မာတွေကတော့ အာရုံပြုတတ်တဲ့ သာရမ္မဏတရား သက်သက်တမျိုးသာ ရှိတာပဲ၊ ရုပ်ရော နာမ်ရော ရှိတဲ့ ရူပဗြဟ္မာတွေမှာတော့ အဲဒီနှစ်မျိုးစလုံး ရှိတယ်၊ ဒီနှစ်မျိုးထက်ပိုပြီးတော့ မရှိဘူး။

အခု ကာမဘုံကလူတွေ၊ နတ်တွေ အပါယ်လေးဘုံက အပါယ်သတ္တဝါတွေမှာတော့ ရုပ်ရော၊ နာမ်ရော နှစ်မျိုးရှိနေကြတာဖြစ်လို့ သာရမ္မဏရော အနာရမ္မဏရော နှစ်မျိုးစီရှိတာပါပဲ၊ တရားအားထုတ်တဲ့ ပုဂ္ဂိုလ်တွေမှာ သမာဓိလေး အတော်ကောင်းလာလို့ရှိရင် အဲဒီအာရုံပြုတတ်တဲ့ တရားနဲ့

မပြုတတ်တဲ့တရား ဒီနှစ်ခုကစပြီး ကွဲကွဲပြားပြား သိလာကြပါတယ်၊ အဲဒါ နာမရူပပရိစ္ဆေဒဉာဏ်လို့ ခေါ်ပါတယ်။

နာမ်ဆိုတာအာရုံပြုတဲ့တရား၊ ရုပ်ဆိုတာအာရုံမပြုတတ်တဲ့တရား ဒီလိုကွဲသွားတယ်၊ နာမ်ဆိုတာနဲ့ သာရမ္မဏနဲ့အတူတူပဲ၊ ရုပ်ဆိုတာနဲ့ အနာရမ္မဏနဲ့ အတူတူပဲ၊ အဲဒီမွေသင်္ဂဏီဒုကမာတိကာ သာရမ္မဏဒုက်ဟာ ယောဂီပုဂ္ဂိုလ်အခါကျတော့ မှတ်သိစရာရုပ်ကတမျိုး၊ မှတ်သိတဲ့စိတ်နာမ်က တမျိုး–ဒီနှစ်ခုဟာ ကွဲပြားလာတယ်။

ပထမစပြီး ရှုစမှာတော့ ဒီရုပ်နဲ့နာမ်ဟာ မကွဲသေးဘူး၊ ရုပ်နဲ့နာမ် နှစ်ခုပေါင်းလျက် တပေါင်းတည်း အနေအားဖြင့်လဲ ထင်နေတယ်၊ သမာဓိ အားကောင်းလာတဲ့ အခါကျတော့ စိတ်ဟာ ဘယ်မှမသွားဘူး၊ မပျံ့လွင့်တော့ ဘူး၊ ရှုမှတ်ရာ အာရုံ၌သာ တည်နေတော့တယ်၊ အဲဒီ အခါကာလမှာ မှတ်သိစရာ ရုပ်ကတမျိုး၊ မှတ်သိနေတဲ့ စိတ်နာမ်ကတမျိုး– ဒါနှစ်ခုပဲ ရှိတာကို တွေ့ရတယ်၊ မှတ်သိစရာရုပ်က အနာရမ္မဏာဓမ္မာ–အာရုံမပြုတတ်တဲ့ တရား ပဲ၊ အာရုံမသိတတ်တဲ့ ရုပ်နဲ့ အာရုံသိတတ်တဲ့နာမ်တရား–ဒီနှစ်ခုပဲ ရှိတယ် ဆိုတာ ရှုယင်းရှုယင်းပိုင်းခြားပြီးတော့ သိလာတယ်၊ နာမရူပပရိစ္ဆေဒဉာဏ်ဆို တာ ဒီလိုဖြစ်လာတာပဲ။

ဒီလို ကွဲပြားခြားနားမသိခင်က ရုပ်နဲ့နာမ်ရောပြီးတော့ တယောက် တည်း တကိုယ်တည်း ထင်နေတာ၊ ဒါကြောင့်မို့ ပုဂ္ဂိုလ်သတ္တဝါ ငါကောင် အနေနဲ့ အတ္တစွဲ စွဲလမ်းနေတာပဲ၊ မရှုမှတ်တဲ့ ပကတိပုဂ္ဂိုလ်တွေဟာ ဒီလိုပဲ အတ္တစွဲ စွဲနေကြတာ၊ အသက်ရှင်နေတာဟာ ငါကောင်ဘဲလို့ ဒီလိုလဲ ထင်နေကြတာ၊ စာပေကျမ်းဂန် ဗဟုသုတ ရှိနေတဲ့ ပုဂ္ဂိုလ်တွေလဲ စာပေ၏ကျမ်း ဂန် အရသာပေါတတ်ပြောတတ်ကြတယ်၊ ဒါပေမယ့်လို့ ဒီလို အတ္တစွဲကတော့ စွဲနေတာပဲ၊ ပြောပေါနေတာလဲ ငါပဲ၊ ငါက ပြောပေါနေတယ်၊ ဒီလိုစွဲလမ်း လျက်ပဲ၊ မပျောက်ဘူး အဲ–ဝိပဿနာရှုမှတ်လို့ သမာဓိအားကောင်းလာတဲ့

အခါကျတော့မှ ရုပ်နဲ့နာမ်ကို ပိုင်းခြားပြီးတော့ သိလာတယ်၊ နာမရူပပရိစ္ဆေဒ ဉာဏ်ဖြစ်လာတယ်၊ အဲဒီအခါကျတော့မှ ရုပ်နာမ်ကွဲတာ၊ ရုပ်တခြား နာမ်က တခြားပဲ၊ ဒီနှစ်ခုရှိတာ ရောလို့မရဘူး၊ တခုနဲ့တခုကွဲနေတယ်။

# အဲဒါ အရေးကြီးတယ်

ဖောင်းတယ်၊ ပိန်တယ်မှတ်လို့ရှိယင် ဖောင်းတာနဲ့သိတာ၊ ပိန်တာနဲ့ သိတာဟာ တခြားစီပဲ၊ ကွေးတယ်၊ ဆန့်တယ်ဆိုလို့ရှိယင်လဲ ကွေးတာနဲ့ သိတာ၊ ဆန့်တာနဲ့သိတာ တခြားစီပဲ၊ လမ်းလျှောက်နေတဲ့အခါမှာလဲ ကြွတယ်၊ လှမ်းတယ်၊ ချတယ်ဆိုလို့ရှိရင်ကြွတာကတခြား၊ သိတာကတခြား၊ လှမ်းတာကတခြား၊ သိတာကတခြား၊ ချတယ်ဆိုလို့ရှိရင် ခြေထောက်ချလိုက်တာက တခြား၊ သိတာကတခြား၊ ဒီလိုသိစရာ အာရုံရုပ်နဲ့ သိတဲ့စိတ်၊ နာမ်တရားနှစ်ခု ကွဲပြားပြီးတော့ သိတာပဲ၊ စာသိမဟုတ်ဘူး၊ စာသိဆိုတာက တော့ ဒီလိုရှုမှတ်ပြီး အားထုတ်မနေရပါဘူး၊ သင်ကြားပေးလိုက်ရင် လွယ်လွယ် လေးပါ၊ အခုဟာက ဝိပဿနာရှုမှတ်ရင်း သေသေချာချာ တကယ်သိတာပဲ၊ အင်မတန်ကောင်းပါတယ်၊ အဲဒါအခြေခံပဲ၊ ဒီလို သေသေချာချာသိမှ နာမ်၊ ရုပ်ကို ပိုင်ခြားသိမှာပဲ၊ အဲဒီကနေ နာမ်နဲ့ရုပ်တို့အကြောင်းကို ပိုင်းခြားပြီး တော့သိလာမယ်၊ အဲဒီလို သိလာတဲ့အခါကျတော့ ပစ္စယပရိဂ္ဂဟာဉာဏ် ဖြစ် လာတယ်။

အစနဲ့အဆုံး အဖြစ်နဲ့အပျက် သိပြီးတော့ အနိစ္စပဲ၊ ဒုက္ခပဲ၊ အနတ္တ ပဲလို့ သုံးသပ်မိတဲ့အခါ သမ္မသနဉာဏ်ဖြစ်လာတယ်၊ ဒီလိုအသိတွေ မှန်လာတဲ့ အခါကျတော့မှ ဥဒယဗ္ဗယဉာဏ်စသည့် ဝိပဿနာဉာဏ်တွေ အကုန်လုံး လျှောက်ပြီးတော့ အစဉ်အတိုင်းဖြစ်လာတယ်၊ အဲဒါ အရေးကြီးပါတယ်၊ မှတ်သားထားဖို့ပါပဲ၊ မွေသင်္ဂဟကျမ်းက မှတ်သားစရာ ကောင်းလို့မို့ ပြောချင် တာဟာ ဒါလေးပါပဲ။

## ဝိဘင်းကျမ်းမှ ခန္ဓာငါးပါး

ဒီနေ့ ဝိဘင်းကျမ်း–တဲ့၊ အဲဒါကို ဟောရမယ်။

"ပဥ္စက္ခန္ဓာ–ရူပက္ခန္ဓော၊ ဝေဒနာက္ခန္ဓော၊ သညာက္ခန္ဓော၊ သင်္ခါရက္ခန္ဓော၊ ဝိညာဏက္ခန္ဓော"

ပဥ္စ၊ ငါးပါးကုန်သော။ ခန္ဓာ၊ ခန္ဓာတို့သည်။ သန္တိ၊ ရှိကုန်၏။ ရူပက္ခန္ဓော၊ ရုပ်အဖို့အစုဟူသော ရူပက္ခန္ဓာလည်းကောင်း။ ဝေဒနာက္ခန္ဓော၊ ဝေဒနာအဖို့အစုဟူသော ဝေဒနာက္ခန္ဓာလည်းကောင်း၊ သညာက္ခန္ဓော၊ သညာအဖို့အစုဟူသော သညာက္ခန္ဓာ လည်းကောင်း၊ သင်္ခါရက္ခန္ဓော၊ သင်္ခါရအဖို့အစုဟူသော သင်္ခါရက္ခန္ဓာလည်းကောင်း၊ ဝိညာဏက္ခန္ဓော၊ ဝိညာဏ်အဖို့အစုဟူသော ဝိညာဏက္ခန္ဓာလည်းကောင်း။ ဣတိ၊ ဤသို့။ ပဥ္စ၊ ငါးပါးကုန်သော။ ခန္ဓာ၊ အဖို့အစုတရားတို့သည်။ သန္တိ၊ ရှိကုန်၏။

အဲဒီ ဝိဘင်းအဘိဓမ္မာမှာ ခန္ဓာငါးပါးပဲ ဟောပါတယ်၊ ဥပါဒါနက္ခန္ဓာလို့ ဒီလိုမဟောဘူး၊ သုတ္တန်တရားတော်တွေမှာ ဥပါဒါနက္ခန္ဓာလို့ ဟောထားပါတယ်၊ သုတ္တန်တရားတွေကတော့ ဝိပဿနာရှုဖို့ တရားအားထုတ်ပုံကို ပြပါတယ်၊ ဒါကြောင့် "ပဥ္စုပါဒါနက္ခန္ဓာ"တဲ့၊ ဒီလိုလာတယ်၊ "ကတမဉ္စ ဘိက္ခဝေ ဒုက္ခံ အရိယသစ္စံ၊"ဘိက္ခဝေ၊ ရဟန်းတို့။ ဒုက္ခံ အရိယသစ္စံ၊ အရိယာတို့ သိအပ်သော ဆင်းရဲအစစ် အမှန်တရားသည်။ ကတမဉ္စ၊ အဘယ်ပါနည်း၊ ဒုက္ခသစ္စာဆိုတာ ဘာလဲတဲ့၊ မြတ်စွာဘုရားက မေးပါတယ်၊ "ပဉ္စုပါဒါနက္ခန္ဓာတိဿဝစနီယံ" ပဥ္စုပါဒါနက္ခန္ဓာတိ၊ ငါးပါးသော ဥပါဒါနက္ခန္ဓာဟူ၍။ ဝစနီယံ၊ ပြောဆိုအပ်သည်။ အဿ၊ ဖြစ်ရာ၏။ ဥပါဒါနက္ခန္ဓာ ငါးပါးပဲလို့ ပြောဆိုရမယ်တဲ့။ ဒုက္ခသစ္စာဆိုတာ ဥပါဒါနက္ခန္ဓာ ငါးပါးပါပဲတဲ့၊ အဲဒီငါးပါးက ဘယ်ဟာတုန်း ဆိုလို့ရှိရင်––

ရူပုပါဒါနက္ခန္ဓော–ရုပ်ဥပါဒါနက္ခန္ဓာက တစ်ပါး။

ဝေဒနုပါဒါနက္ခန္ဓော–ဝေဒနာဥပါဒါနက္ခန္ဓာက တစ်ပါး။
သညုပါဒါနက္ခန္ဓော–သညာဥပါဒါနက္ခန္ဓာက တစ်ပါး။
သင်္ခါရုပါဒါနက္ခန္ဓော–သင်္ခါရဥပါဒါနက္ခန္ဓာက တစ်ပါး။
ဝိညာဏုပါဒါနက္ခန္ဓော–ဝိညာဏ်ဥပါဒါနက္ခန္ဓာက တစ်ပါး။

အဲဒီ ငါးပါးပါပဲတဲ့၊ ဒါက သုတ္တန်တရားမှာ ဝိပဿနာရှုမှတ်ရမယ့် တရားတွေပဲ၊ ဥပါဒါန်၏အာရုံဖြစ်တဲ့ ခန္ဓာတဲ့၊ ဒီလို ဝိသေသန မပြီးတော့ စေတသိက်ခန္ဓာ ၃–ပါးကိုပြတယ်၊ အဘိဓမ္မာက အဲဒီလိုမပြဘူး၊ ခန္ဓာငါးပါး ဆိုပြီးတော့ အကုန်လုံးခြုံပြတယ်၊ ဝိပဿနာရှုရတာလည်းပါတယ်၊ မရှုရတာ လည်းပါတယ်၊ သုတ္တန်မှာတော့ ဝိပဿနာရှုရမှာတွေကိုချည်းပြတယ်၊ ပြီးတော့ ဒုက္ခသစ္စာတွေလို့ ဆိုတာပါပဲ၊ ဥပါဒါန်၏ အာရုံမဟုတ်တဲ့ သာမညခန္ဓာတွေ ဟာ ဒုက္ခသစ္စာထဲမပါဘူး၊ ဥပါဒါန်၏ အာရုံမဟုတ်တဲ့ သာမည ခန္ဓာဆိုတာ ဘယ်ဟာတွေတုန်းဆိုတော့ လောကုတ္တရာခန္ဓာတွေပဲ၊ မဂ်စိတ်နဲ့ စေတသိက်၊ ဖိုလ်စိတ်နဲ့ စေတသိက်တွေ၊ အဲဒါတွေဟာ လောကုတ္တရာ တရားတွေ၊ ဥပါဒါန်၏အာရုံ မဟုတ်ဘူး၊ ဥပါဒါန်၏ အာရုံမဟုတ်လို့မို့ ဒုက္ခသစ္စာထဲလည်း မဝင်ဘူး၊ ဒါကြောင့် အဲဒီတရားတွေကို ဒုက္ခလို့ မဆိုရဘူး၊ လောကီ ရုပ်နာမ် တွေကိုသာ ဒုက္ခသစ္စာဆင်းရဲအမှန်တွေလို့ ဆိုရတယ်၊ လောကီ ရုပ်နာမ်တွေ ဆိုတာလည်း ပုဂ္ဂိုလ်တစ်ဦးတည်းမှာ အပြည့်အစုံ မရှိပါဘူး။

အဖို၊ အမ ဖြစ်ကြောင်းဖြစ်တဲ့ ဘာဝရုပ်ဆိုတာရှိတယ်၊ အဖိုဖြစ်တဲ့ ပုဂ္ဂိုလ်တွေမှာ ပုမ္ဘာဝရုပ်ရှိပြီးတော့ ဣတ္ထိဘာဝရုပ် မရှိဘူး၊ အမဖြစ်တဲ့ ပုဂ္ဂိုလ်တွေ ကျတော့ ဣတ္ထိဘာဝရုပ် ရှိတယ်၊ ပုမ္ဘာဝရုပ် မရှိဘူး၊ ရုပ်တောင် ဒီလို တစ်ယောက်တည်းမှာ အပြည့်အစုံရှိတာ မဟုတ်ဘူး၊ စိတ်၊ စေတသိက်ဆို တာတော့ သာပြီးမပြည့်စုံဘဲ နေမှာပဲ၊ ဈာန်မရတဲ့ ပုဂ္ဂိုလ်တွေမှာ ကာမစိတ်၊ စေတသိက်လောက်ပဲရှိတယ်၊ မဟဂ္ဂုတ်စိတ်၊ စေတသိက်တွေ မရှိဘူး။

ဒုက္ခသစ္စာဆိုတာ မိမိသန္တာန်မှာရှိတဲ့ တရားတွေပဲ၊ အဲဒါတွေကို

ဆင်းရဲအနေနဲ့ ရှုပြီးတော့ သိရတာပဲ၊ ကာမစိတ်၊ စေတသိက်တွေကိုလည်း ဒီလို ရှုမှတ်ရတာပဲ၊ အဲဒီ တရားတွေကို ဝိပဿနာရှုမှတ်ရမှာမို့ ဉပါဒါနက္ခန္ဓာလို့ ဉပါဒါနဆိုတဲ့အမည်နဲ့ ဝိဘင်္ဂသနမပြီး၊ သုတ္တန်ဒေသနာတော်တွေမှာ ပြထားပါတယ်၊ ဖြေကြားထားပါတယ်၊ ဒီ အဘိဓမ္မာမှာတော့ ဝိပဿနာရှုဖို့ ပြထားတာမဟုတ်ဘူး၊ သရုပ်ခွဲတာလည်း မဟုတ်ဘူး၊ ခန္ဓာငါးပါးဟူသမျှ အကုန်လုံးသိမ်းရုံးပြီး "ပဉ္စက္ခန္ဓာ–ခန္ဓာငါးပါး"လို့ဆိုပြီးတော့ သာမည်ပဲ ပြထားတယ်၊ ဒါကြောင့် ဒီမှာဆိုရင် လောကီရော၊ လောကုတ္တရာရော အကုန်လုံး ခန္ဓာတွေချည်းယူရတယ်။

ခန္ဓာဆိုတာ အဖို့အစုပဲ၊ အဖို့အစုဆိုတာ တစ်မျိုးစီ တစ်ပုံစီ စုပုံသလို ပုံပုံပြီး ပြထားတာပါပဲ၊ ရုပ်ကတစ်စု၊ ဝေဒနာကတစ်စု၊ သညာကတစ်စု၊ သင်္ခါရကတစ်စု၊ ဝိညာဏ်ကတစ်စု၊ အဲဒီလို သူ့အစုနဲ့သူ စုပုံပြထားပါတယ်၊ စိတ်၊ စေတသိက်၊ ရုပ်တရားတွေကို တူရာစုပေါင်းလိုက်ရင်လည်း ဒီလို ငါးစု၊ ငါးပုံရှိတယ်လို့ ဟောပြထားတာပါပဲ။

## ရူပက္ခန္ဓာ ရုပ်အစု

ရူပက္ခန္ဓာဆိုတာ ဘာတုန်းဆိုပြီးတော့ ရူပက္ခန္ဓာကို ဝေဖန်ပြထားတယ်၊ အဘိဓမ္မာပါဠိတော်မှာ တိုက်ရိုက်ဟောထားတဲ့ ရူပက္ခန္ဓာကတော့ "စတ္တာရောစ မဟာဘူတာ၊ စတုန္နဉ္စ မဟာဘူတာနံ ဉပါဒါယရုပ်"တဲ့ မဟာဘုတ်က ၄–ခု၊ ဉပါဒါရုပ်တွေက ၂၃–ခု၊ ဒီလို ၂၇–ခုပဲ တိုက်ရိုက်ဟောထားပါတယ်။

ဒါပေမယ့်လို့ အဋ္ဌကထာဆရာက ဟဒယဝတ္ထုရုပ်လို့လည်း ရုပ်တစ်ခု ထည့်သွင်းဖော်ပြထားပါတယ်၊ ဒါ ပါဠိတော်မှာတော့ တိုက်ရိုက်မရှိဘူး၊ ဒါကြောင့် တချို့က သဘောမကျကြဘူး၊ ဒါ ပိုနေတယ်လို့ ဆိုပြီးတော့ ရုပ် ၂၇–ခုလို့ ဒီလိုလည်း ပါဠိတော်အတိုင်း သဘောကျကြတယ်။

ပါဠိတော်က ဒီမှာ အသေးစိတ်ပြီးတော့ ဝေဖန်ထားတယ်၊ မပြီးနိုင်

ဘူး၊ မဟာဘုတ်တွေကိုလည်းဝေဖန်၊ ဥပါဒါရုပ်တွေကိုလည်းဝေဖန် တဖြည်းဖြည်းချင်းလေး ဝေဖန်နေတာ မပြီးနိုင်ဘူး၊ ရုပ်တွေကို ဝေဖန်နေတာ အရှည်ကြီးပဲ၊ ဒါကြောင့် ရုပ်ကို လွယ်လွယ်ကူကူမှတ်နိုင်အောင်လို့ ဒီမှာ ဆောင်ပုဒ်ရေးထားပါတယ်၊ အရင်ကလဲ ဟောဖူးပါပြီ၊ ဓာတ်ကြီး ၄–ပါး၊ ပထဝီဓာတ်၊ အာပေါဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်၊ အဲဒါ "စတ္တာရော မဟာဘူတာ" အရ ဓာတ်ကြီး ၄–ပါး၊ မဟာဘုတ် ၄–ပါးပေါ့၊ ဒါကိုတော့ သိနေကြမှာပါပဲ၊ အဲဒါကို လွယ်လွယ်မှတ်ရအောင် အတိုကောက် ဆောင်ပုဒ် ရေးထားတယ်၊ ဒါဆိုရမယ်။

ပ၊ အာ၊ တေ၊ ဝါ၊ ရုပ်လေးဖြာ၊ မှတ်ပါ မဟာဘုတ်။

(ဆို ၃–ခေါက်)

ဓာတ်ကြီး ၄–ပါးရဲ့ အစတစ်လုံးစီကိုယူပြီး အတိုကောက် ရေးထားတဲ့ ဆောင်ပုဒ်တဲ့၊ ပထဝီဓာတ်ဆို လက္ခဏာအားဖြင့် ကက္ခဠလက္ခဏာရှိတယ်၊ ကက္ခဠဆိုတာ ခက်မာကြမ်းတမ်းတာကိုဆိုပါတယ်၊ ခက်မာကြမ်းတမ်းတဲ့ သဘောမှန်သမျှ အဲဒါ ပထဝီပဲ၊ မြေကြီးဟာ ခက်မာကြမ်းတမ်းသလိုပဲ ဒီပြင်နေရာတွေမှာလည်း ခက်မာကြမ်းတမ်းတဲ့ သဘောတွေဟာ ပထဝီပဲ၊ ကိုယ်ထဲမှာစမ်းသပ်ကြည့်လို့ ခက်မာကြမ်းတမ်းတာကို တွေ့မယ်ဆိုရင် အဲဒါ ပထဝီဓာတ်တဲ့၊ ကြမ်းတမ်းတာကလည်း များများကြမ်းတမ်းတာနဲ့ နည်းနည်းကြမ်းတမ်းတာ၊ အဲဒီလို နှစ်မျိုးရှိတယ်၊ များများကြမ်းတမ်းတာကို ခက်မာပထဝီ၊ နည်းနည်းကြမ်းတမ်းတာကို နူးညံ့ပထဝီ–လို့ ခေါ်ရတယ်၊ ဥပမာ–ဝါဂွမ်းဆိုရင် ပကတိအနေနဲ့ နူးညံ့တယ်လို့ဆိုရမှာပဲ၊ ဒါပေမယ့်လို့ သူ့ထက်နူးညံ့တဲ့ အစိတ်အပိုင်းသာ ဆိုလို့ရှိရင်တော့ သူဟာ ကြမ်းတမ်းတယ်လို့ ဆိုရမှာပါပဲ၊ ဝါဂွမ်းနဲ့ ကိုယ်တို့၊ မျက်နှာတို့၊ လက်တို့ကို တို့ကြည့်မယ်ဆိုရင် ဝါဂွမ်းဟာ နူးညံ့တယ်လို့ ဆိုရမှာပေါ့၊ သူ့ထက်နူးညံ့တဲ့ မျက်လုံးကို တို့ကြည့်မယ်ဆိုလို့ ရှိရင်တော့ အတို့မခံနိုင်ဘူး၊ အဲဒီကျတော့ ဝါဂွမ်းဟာ

နူးညံ့တယ်ဆိုပေမယ့် သူ့ထက်နူးညံ့တဲ့ မျက်လုံးနဲ့စာလိုက်ရင် သူက မျက်လုံးလောက်မနူးညံ့ပြန်ဘူး၊ မျက်လုံးက ပိုပြီး နူးညံ့ပြန်ပါတယ်၊ ဒီလိုပါပဲ သူ့ထက်နူးညံ့တဲ့ ရုပ်နဲ့ကျတော့ သူက ကြမ်းတမ်းတာပဲ၊ နူးညံ့တယ်ဆိုတာလဲ စင်စစ်တော့ ကြမ်းတမ်းတာပါပဲ၊ အဲ ကြမ်းတမ်းတဲ့ သဘောဟူသမျှ ပထဝီဓာတ်တဲ့၊ ဒီလို ဆိုပါတယ်။

အပြင်ဘက်မှာရှိတဲ့ မြေကြီးတို့၊ ကျောက်ခဲတို့၊ အဲဒီလို ခက်မာကြမ်းတမ်းတဲ့ အရာဝတ္ထုတွေဟာ စမ်းကြည့်လိုက်လို့ရှိရင် ခက်မာကြမ်းတမ်းတာကို တွေ့ရမယ်၊ အဲဒါဟာ ပထဝီဓာတ်ပါပဲ၊ ဒါပေမယ့်လို့ အဲဒီ မြေကြီးတို့၊ ကျောက်ခဲတို့ဆိုတာ ပထဝီဓာတ်ချည်းတော့ မဟုတ်ဘူး၊ ဒီပြင်ဓာတ်တွေလည်း ပါဝင်နေသေးတာပဲ၊ ပထဝီဓာတ်က လွှမ်းကဲနေလို့ သူကိုပထဝီဓာတ်လို့ ဆိုရတယ်။

အာပေါဓာတ်ဆိုတာကတော့ ယိုစီးဖွဲ့စည်းတဲ့သဘော၊ အရည်သဘော၊ အစိုသဘောပဲ ကိုယ်ထဲမှာလည်း အရည်တွေ၊ အစိုတွေရှိတာပဲ၊ အပြင်မှာလည်း ရှိတာပဲ၊ အဲဒါ အာပေါဓာတ်တဲ့။

တေဇောဓာတ်ဆိုတာကတော့ ဥဏှတ္တလက္ခဏာ ပူလောင်ခြင်း လက္ခဏာရှိတယ်၊ ပူတဲ့ အနိုးအငွေ့သဘောပဲ၊ ဒါပေမယ့်လို့ သူ့လောက်မပူတဲ့ အပူနည်းတာကိုတော့ အအေးလို့ခေါ်ရတယ်၊ ဥပမာ–သောက်ရေအိုးထဲက ရေဟာ အေးတယ်၊ အပြင်ဘက်က တခြားရေတွေနဲ့ ထောက်စာလို့ရှိရင်ပေါ့၊ သူကအေးတယ်၊ တစ်ဖန်ရေခဲရေကျပြန်တော့ ကိုင်လိုက်တယ်ဆိုရင် လက်ကို ကျဉ်သွားတာပဲ၊ သောက်ရေအိုးထဲကရေထက် အဲဒီ ရေခဲရေက ပိုအေးတယ်၊ သောက်ရေအိုးထဲက ရေက ရေခဲရေထက်ပူတယ်၊ ဒီလိုပါပဲ၊ ပူတာအဆင့်ဆင့်၊ အေးတာ အဆင့်ဆင့်ဟာ တေဇောဓာတ်ချည်းပဲ၊ ဒါကြောင့် ပူတယ်ဆိုလည်း တေဇောဓာတ်၊ နွေးတယ်ဆိုလည်း တေဇောဓာတ်၊ အေးတယ်ဆိုလည်း တေဇောဓာတ်၊ ဒါတွေဟာ တော်တော်ထင်ရှားပါတယ်၊ ကိုယ်မှာစမ်းသပ်ပြီး

တော့ကြည့်ရင် ပူတာ အေးတာကို တွေ့နိုင်ပါတယ်၊ မစမ်းမသပ်ဘဲလည်း စိတ်က ကိုယ်ထဲမှာ စိုက်ကြည့်ရင်လည်း တွေ့နိုင်တာပါပဲ။

ဝါယောဓာတ်ဆိုတာက ဝိတ္ထမ္ဘနလက္ခဏာရှိတယ်၊ တောင့်တင်းခြင်း၊ ထောက်ကန်ခြင်းသဘောဟာ ဝါယောဓာတ်ရဲ့ လက္ခဏာပဲ၊ ကိုယ်ထဲမှာ တောင့်တင်းနေတဲ့သဘော၊ အခုလို ထိုင်နေတယ်ဆိုလို့ရှိရင် တောင့်တင်းတဲ့ ဝါယောက ထောက်ကန်ထားလို့ လဲကျမသွားတာပဲ၊ အပေါ်ကရုပ်တွေဟာ ပိုပြီးတော့ အောက်သို့ ကျမလာဘူး အဲဒါ ဝါယောက ထောက်ကန်ထားလို့ပါပဲ။

ဥပမာ–အုတ်ခဲတွေကို ပုံပြီးတော့ထား၊ အဲဒီ အုတ်ခဲပုံကြီးဟာ ဝါယောဓာတ်က ထောက်ကန်ထားလို့ အထက်ကအုတ်ခဲတွေ အောက်ကို ပြားပြီးတော့ဆင်းမလာတာပဲ၊ အကယ်၍သာ ဝါယောဓာတ် မရှိဘူးဆိုရင်၊ ထောက်ကန်ခြင်းသဘော မရှိဘူးဆိုရင် ဒီလို မဖြစ်နိုင်ဘူး၊ ပြားဆင်းသွားမယ်၊ အဲဒီလိုပါပဲ။

နောက်ပြီးတော့ လှုပ်ရှားတတ်တဲ့သဘော ရှိတယ်၊ ဝါယောဓာတ် အားကောင်းလို့ရှိရင် လှုပ်ရှားတယ်၊ ဝါယောဓာတ်ဆိုတာ လေပါပဲ၊ လေဆိုတာ အားကောင်းလို့ ရှိရင် လှုပ်ရှားနေတာပဲ၊ ကိုယ်ထဲမှာ ဝါယောဓာတ်ဟာ အထူးထင်ရှားတာဖြစ်လို့ သတိပဋ္ဌာန် ဒေသနာတော်မှာ ဒီဝါယောဓာတ်ကို ရှုဖို့ရာ မြတ်စွာဘုရားက ဟောထားပါတယ်။

"ဂစ္ဆန္တောဝါ၊ သွားသည်ရှိသော်လည်း၊ ဂစ္ဆာမိတိ၊ သွားသည်ဟူ၍။ ပဇာနာတိ သိ၏"တဲ့၊ သွားရင် သွားတာကိုသိရမယ်၊ သွားတိုင်း သွားတိုင်း အဲဒါကို သိရမယ်၊ သွားတဲ့အခါ ဘာကို သိတုန်းဆိုတော့ ဝါယောဓာတ်ကို သိတာတဲ့၊ ဝါယောဓာတ်လွန်ကဲလို့ သွားတာပဲ၊ ဒါပေမယ့်လို့ ဝါယောဓာတ် ချည်း တစ်ခုတည်းတော့ မဟုတ်ပါဘူး၊ ဝါယောဓာတ် ရှေ့ဆောင်နေတဲ့ဓာတ် ၄–ပါးလုံးနဲ့ တခြားရုပ်တွေလည်း ပါပါတယ်၊ ဝါယောဓာတ် လွန်ကဲနေလို့ သွားတဲ့အခါကာလမှာ ခြေထောက်ထဲ၊ ကိုယ်ထဲက တောင့်တာ၊ တင်းတာ၊

တွန်းကန်တာ၊ လှုပ်ရှားတာတွေဟာ ဝါယောဓာတ်တွေတဲ့၊ အဲဒါတွေကို သိရမယ်။

ပထမရှုကာစတော့ ကြွတယ်၊ လှမ်းတယ်၊ ချတယ်၊ ဆိုပြီးတော့ သွားနေတဲ့အခါကိုယ်ခန္ဓာ အထည်ဝတ္ထုကြီးအနေနဲ့ ဒီလိုသိနေတာပဲ၊ နောက် တဖြည်းဖြည်းနဲ့ သမာဓိအားကောင်းလာပြီဆိုတော့ ဉာဏ်ကလည်း အားကောင်းလာတယ်၊ ဒီတော့ ဒါဟာ သဘောတရားတွေပဲ၊ ကိုယ်ထဲ တောင့်တဲ့သဘော၊ တင်းတဲ့သဘော၊ တွန်းကန်တဲ့သဘော၊ လှုပ်ရှားတဲ့ သဘော အဆင့်ဆင့်ပဲ၊ ပြီးတော့ ဗိုက်ကဖောင်းတာ၊ ပိန်တာကို မှတ်တဲ့အခါ ကာလမှာလည်း ဒီအတိုင်းပဲ၊ အစမှာတော့ ဝမ်းဗိုက်နဲ့ကိုယ် အကောင်အထည် ကြီးကို တွေ့နေတာပဲ၊ နောက် ရှုပါများတဲ့အခါကျတော့ ဖောင်းတယ်ဆိုတဲ့ အမည်တောင်မရှိတော့ဘူး၊ တောင့်တဲ့သဘော၊ တွန်းတဲ့သဘော၊ လှုပ်ရှားတဲ့ သဘောတွေပဲလို့ ဒီလိုသိလာတယ်။ အဲဒါ ဝါယောဓာတ်တွေတဲ့၊ အဲဒါကို ရှုရတယ်၊ အဲဒါတွေကိုရှုဖို့ မြတ်စွာဘုရားက ကာယာနုပဿနာသတိပဋ္ဌာန် ဣရိယာပထပိုင်းမှာရှုဖို့ ပြထားပါတယ်၊ သမ္ပဇဉ်ပိုင်းတွေမှာ လည်းပြထား တယ်၊ ဓာတုမနသိကာရပိုင်းတွေမှာလည်း ဓာတ် ၄-ပါးရှုပုံတွေကို ပြထားပါ တယ်။ "ပ၊ အာ၊ တေ၊ ဝါ၊ ရုပ်လေးဖြာ၊ မှတ်ပါမဟာဘုတ်"တဲ့၊ မဟာဘုတ် လေးပါးကို မှတ်မိလောက်ပါပြီ၊ အဲဒီမှာ-

ပ-က ဘာတုန်း-
ပထဝီဓာတ်ပါဘုရား။
အာ-က ဘာတုန်း--
အာပေါဓာတ်ပါဘုရား
တေ-က ဘာတုန်း--
တေဇောဓာတ်ပါဘုရား။
ဝါ-က ဘာတုန်း-

ဝါယောဓာတ်ပါဘုရား။

အဲဒါမဟာဘုတ်လေးပါးတဲ့၊ အခု ယောဂီတွေ ရှုမှတ်နေကြတာဟာ ကိုယ်ထဲမှာ စိုက်ပြီးတော့ ရှုမှတ်လို့ရှိရင် ဒီဓာတ်လေးပါး တစ်ခုခုတော့ ထင်ရှားသိနေတာပဲ၊ တရားအားထုတ်တဲ့အခါမှာ စပြီးထိုင်နေလို့ရှိရင် "ဥဇုံကာယံ ပဏိဓာယ"အထက်ပိုင်းကိုယ်ကို ဖြောင့်ဖြောင့်ထားပြီး ရှုမှတ်ရမယ်တဲ့၊ အဲဒီတော့ ကိုယ်ထဲစိုက်ရှုလို့ရှိရင် ခါးကနေပြီးတော့ တောင့်တဲ့သဘောဟာ အင်မတန် ထင်ရှားတယ်၊ နည်းနည်းလေးလှုပ်ကြည့်ရင် သာပြီးတော့ထင်ရှားတယ်၊ လှုပ်တဲ့အခါကျတော့ လှုပ်ရှားတဲ့သဘောထင်ရှားတယ်၊ အဲဒါ ဝါယောဓာတ်ပဲ၊ တချို့အခါမှာ မာတဲ့သဘော၊ နူးညံ့သဘော၊ တချို့အခါမှာ ပူတာတို့၊ အေးတာတို့ အဲဒါတွေ ထင်ရှားတယ်၊ တေဇောဓာတ်သဘောပဲ၊ အာပေါဓာတ်ကလည်း အစို၊ အရည်အားဖြင့် ထင်ရှားတယ်၊ အဲဒါ မဟာဘုတ် ၄–ပါးတဲ့၊ ဝိပဿနာရှုရမယ့် တရားတွေ ရုပ်ဥပါဒါနက္ခန္ဓာတွေပါပဲ။

အဲဒါတွေကို မရှုမှတ်လို့ရှိရင် စွဲလမ်းနိုင်တယ်၊ ဓာတ်လေးပါးကိုပဲ တဏှာနဲ့ သာယာနှစ်သက်နိုင်တယ်၊ ဒိဋ္ဌိနဲ့ပုဂ္ဂိုလ် သတ္တဝါအနေအားဖြင့်လည်း စွဲလမ်းနိုင်တယ်၊ ဒီလို စွဲလမ်းနိုင်တာဖြစ်လို့ ဥပါဒါန်၏ အာရုံဖြစ်တဲ့ ဥပါဒါနက္ခန္ဓာ တရားတဲ့၊ ရုပ်မှာတော့ ဥပါဒါန်၏ အာရုံမဟုတ်တဲ့ တရားရယ်လို့ မရှိပါဘူး၊ နာမ်တရားတွေကျတော့ မဂ်၊ ဖိုလ်တရားတွေဟာ ဥပါဒါန်ရဲ့အာရုံထဲမှာ မပါဝင်ဘူး၊ လောကီစိတ်၊ စေတသိက်တွေသာ ဥပါဒါန်၏အာရုံဖြစ်တဲ့ နာမ်တရားတွေပဲ အဲဒါတွေဟာ ဥပါဒါန်ရဲ့ အာရုံအဖြစ်နဲ့ ပါဝင်ပါတယ်၊ ဒါကြောင့် ဥပါဒါနက္ခန္ဓာဆိုရင် လောကီရုပ်နာမ် တရားတွေကိုသာ ဥပါဒါနက္ခန္ဓာလို့ ဆိုရမယ်၊ အဲ–ခန္ဓာသာမည ကောက်ယူမယ်ဆိုရင်တော့ လောကီရော၊ လောကုတ္တရာရော အားလုံးပါဝင်ကောက်ယူရတယ်၊ အားလုံးကို ခန္ဓာလို့ ဆိုရတာချည်းပဲ။

# မဟာဘုတ်ကိုမှီဖြစ်တဲ့ ဥပါဒါရုပ်

အခြေခံဓာတ်ကြီးလေးပါးကို ပြောပြီးသွားပြီ၊ အဲဒီ ဒုတိယပိုင်းကို ပြောရမယ်၊ အဲဒီ ဒုတိယပုဒ်က "စတုန္နံမဟာဘူတာနံ ဥပါဒါယ ရူပံ"တဲ့၊ မဟာဘုတ်လေးပါးကို မှီပြီးတော့ဖြစ်တဲ့ရုပ်၊ အဲဒီရုပ်ကို ဥပါဒါရုပ်လို့ဆိုတယ်၊ ရုပ် ၂၈–ပါးထဲမှာ မဟာဘုတ် ဓာတ်ကြီးလေးပါး နုတ်လိုက်ရင် ၂၄–ပါးကျန်တယ်၊ အဲဒီ ကျန်တာတွေဟာ ဥပါဒါရုပ်တွေချည်းပဲ။

ပါဠိလိုကတော့ "စက္ခုပသာဒ၊ သောတပသာဒ၊ ဃာနပသာဒ၊ ဇိဝှါပသာဒ၊ ကာယပသာဒ"လို့ ပသာဒရုပ် ၅–ပါးရှိတယ်၊ အကြည်ရုပ် ၅–ပါးတဲ့၊ မြန်မာလိုကတော့ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်တဲ့၊ အဲဒါကို အစဉ်အတိုင်းဆိုရင် ကာရန်ကမရဘူး၊ ဒါကြောင့် ကိုယ်နဲ့လျှာကို ရှေ့နောက် ပြောင်းပြီးတော့ ကာရန်ရအောင် လင်္ကာရေးထားတယ် အဲဒါကိုဆိုရမယ်။

"မျက်စိ၊ နား၊ နှာ၊ ကိုယ်၊ လျှာ၊ ငါးဖြာ အကြည်ရုပ်"

(ဆို ၃–ခေါက်)

မြန်မာလိုဆိုတော့ ဒါဟာလွယ်နေတာပဲ၊ စက္ခုပသာဒလို့ဆိုရင် စက္ခုက ဘယ်လိုအနက်၊ ပသာဒက ဘယ်လိုအနက်လို့ အဓိပ္ပာယ်ရှင်းပြနေရဦးမယ်၊ မျက်စိဆိုတော့ မြန်မာလိုခေါ်နေကျအတိုင်း တစ်ခါတည်း သိသွားတာပေါ့၊ စက္ခုနဲ့ မျက်စိဆိုတော့ အတူတူပါပဲ၊ အဲ ငါးဖြာအကြည်ရုပ်တဲ့၊ ကြည်လင်တဲ့ မျက်စိ၊ အဲဒါပကာတိမျက်လုံးကြီးကို ပြောတာမဟုတ်ဘူး၊ မျက်လုံးထဲမှာ အဆင်းရုပ် ထင်နိုင်လောက်အောင် ကြည်လင်တဲ့ရုပ်၊ အဲဒါကို စက္ခုပသာဒခေါ်တယ်၊ ပါဠိလို စက္ခုပသာဒရုပ်၊ မြန်မာလို မျက်စိအကြည် ရုပ်ပါပဲ၊ မျက်စိဆိုလည်း ဒါပါပဲ။

နား အကြည်ရုပ်၊ နားထဲမှာလည်း အသံကိုဖမ်းယူနိုင်တဲ့ အကြည်ရုပ်တစ်မျိုးရှိတယ်၊ အသံကလည်း အဲဒီမှာသွားပြီးတော့ ရိုက်ခတ်တာ သိတာပဲ။

နှာခေါင်းထဲမှာလည်း အနံ့ကိုဖမ်းယူနိုင်တဲ့ အကြည်ရုပ်တစ်မျိုးရှိတယ်၊ လျှာပေါ်မှာလည်း အရသာကိုဖမ်းယူနိုင်တဲ့ အကြည်ရုပ်တစ်မျိုးရှိတယ်၊ ကိုယ်တစ်ကိုယ်လုံးမှာလည်း အတွေ့အထိကို ဖမ်းယူနိုင်တဲ့ အကြည်ရုပ်တစ်မျိုး ရှိတယ်၊ ဒါကတော့ အများကြီးပဲ၊ ကိုယ်တစ်ကိုယ်လုံး အနံ့အပြားပါပဲ။

မျက်စိအကြည်ကတော့ မျက်လုံးနှစ်ခုထဲမှာရှိတယ်၊ နား အကြည်ကတော့ နားနှစ်ခုထဲမှာရှိတယ်၊ နှာအကြည်ဆိုတာကလည်း နှာခေါင်း၊ နှစ်ပေါက်ထဲမှာရှိတယ်၊ လျှာအကြည်ကလည်း လျှာအပေါ်ထဲမှာ ရှိတယ်၊ ဒီပြင်မှာ မရှိဘူး၊ ကိုယ်အကြည်ရုပ်ဆိုတာကတော့ တစ်ကိုယ်လုံမှာပဲ၊ အသားအသွေး ကောင်းတဲ့ နေရာဆိုလို့ရှိရင် ခြေထောက်ကနေ ဦးခေါင်းအထိ တစ်ကိုယ်လုံးမှာ ရှိတာပဲ၊ မျက်စိထဲလည်းရှိတာပဲ၊ နားထဲလည်း ရှိတာပဲ၊ နှာခေါင်းထဲလည်း ရှိတာပဲ၊ လျှာထဲလည်းရှိတာပဲ၊ ကိုယ်အကြည်ကတော့ တွေ့ထိလို့သိတဲ့ နေရာ ဟူသမျှ အကုန်ရှိတာပဲ၊ အပ်ဖျားတစ်နေရာစာလောက်တောင် လွတ်နေရာ ရယ်လို့ မရှိဘူး၊ အပ်ဖျားကလေးနဲ့ လိုက်ပြီးတို့ကြည့်၊ တို့တိုင်းတို့တိုင်း သိတဲ့နေရာတွေဟာ ကိုယ်အကြည်ရုပ် ရှိတာချည်းပဲ။

အပ်ဖျားနဲ့ တို့ကြည့်လို့ မသိဘူးဆိုရင်တော့ အဲဒါ ကိုယ်အကြည်ရုပ် မရှိတဲ့နေရာပဲ၊ အသားတွေခြောက်နေတဲ့ နေရာတွေရယ်၊ ခြေသည်းဖျား၊ လက်သည်းဖျားတွေရယ်၊ အဲဒီလို နေရာတွေဆိုရင် ကိုယ်အကြည်ရုပ်မရှိဘူး၊ အပ်ဖျားလေးနဲ့ တို့ကြည့်ပေမယ့်လို့ အဲဒီလိုနေရာတွေက မသိဘူး၊ အဲဒါ ကိုယ်အကြည်ရုပ်မရှိလို့တဲ့။

"မျက်စိ၊ နား၊ နှာ၊ ကိုယ်၊ လျှာ၊ ငါးဖြာအကြည်ရုပ်"တဲ့၊ ရုပ်ဘယ် လောက်ရှိသွားပြီတုန်းဆိုရင် အခုနက မဟာဘုတ် ၄-ပါးနဲ့ အခု ၅-ခုပေါင်းရင် ရုပ် ၉-ပါးရှိသွားပြီ။

"ဆင်း၊ သံ၊ နံ့၊ မှာ၊ အရသာ၊ တွေ့တာအာရုံရုပ်"တဲ့၊ အာရုံရုပ်က သူလည်း ၅-ခုပဲ၊ ဒါပေမယ့်လို့ ဂဏန်းကတော့များလာတယ်၊ အဆင်းမြင်ရတဲ့

အဆင်း၊ အသံ နားကကြားရတဲ့အသံ၊ အနံ့နှာခေါင်းကနံတဲ့အနံ့၊ အရသာ လျှာကသိတဲ့အရသာ၊ တွေ့တာ ကိုယ်ဖြင့်တွေ့ထိရတဲ့ အတွေ့အထိ၊ အဲဒါ အာရုံရုပ်တွေပဲ၊ ပါဠိလိုကတော့ ဝိသယရုပ်လို့ခေါ်တယ်၊ အတွေ့အာရုံက သုံးခုဆိုတော့ ဝိသယရုပ်ခေါ်တဲ့ အာရုံရုပ်က ခုနစ်ခုရှိတယ်၊ အဲဒါဆိုရမယ်။

"ဆင်း၊ သံ၊ နံ့မှာ၊ အရသာ၊ တွေ့တာ အာရုံရုပ်" (၃–ခေါက်ဆို)

မျက်စိနဲ့ မြင်ရတဲ့အတိုင်း အဲဒါ အာရုံရုပ်တစ်ခု၊ မျက်စိနဲ့မြင်ရတဲ့ အဆင်းဆိုတာ မြင်ကောင်းတဲ့သဘောလေးပဲ၊ ပကတိပုဂ္ဂိုလ်တွေအနေနဲ့ ဆိုရင် အကောင်အထည်ကြီးကို မြင်ရတယ်လို့ထင်ရတယ်၊ အကောင်အထည်ကြီး မဟုတ်ဘူး၊ အပေါ်ယံလေးတွင်၊ ကိုယ်တစ်ကိုယ်လုံးမှာ ရှိနေတဲ့ ရုပ်တွေရဲ့ အပေါ်ယံလေး၊ အပေါ်ယံတောင် ဟိုဘက်က မပါဘူး၊ ကိုယ်နဲ့တည့်တည့် ဒီဘက်ကမြင်ရတာလေးတင်ပဲ၊ မြင်ပြီးတော့ ယောကျ်ားပဲ၊ မိန်းမပဲ စသည်ဖြင့် ဒီလိုစွဲလမ်းနေကြတယ် မြင်ရတာကတော့ အပေါ်ယံ အဆင်းလေးတင် အပေါ်ယံက မှိုပြီးတော့ဖြစ်နေတဲ့ အဆင်းလေးပဲ အဲဒါလေးကိုသာ မြင်ရတာ။

အသံရုပ်ဆိုတာက နားထဲမှာ ကြားရတဲ့အသံပဲ၊ အသံကတော့ အခုကြားနေတာပဲ၊ ဒါပေမယ့် ကြားရုံတင်မနေဘဲ ပြောတဲ့ပုဂ္ဂိုလ်ဆီကို စိတ်က ရောက်သွားတတ်တယ်၊ အနံ့ဆိုတာလည်း နှာခေါင်းထဲမှာ နံတဲ့အနံ့ပဲ၊ အရသာဆိုတာက စားတဲ့အခါကာလမှာ ပေါ်လာတဲ့အရသာပဲ၊ အတွေ့ရုပ် ကတော့ ပါဠိလိုဖောဋ္ဌဗ္ဗရုပ်–လို့ခေါ်တယ်။ အဲဒါကို အစိတ်အစိတ်ခွဲလို့ရှိရင် တွေ့တာက တစ်မျိုးတည်းမဟုတ်ဘူး။ ခက်မာကြမ်းတမ်းပြီး တွေ့တဲ့အတွေ့ ကတစ်မျိုး၊ အဲဒါက ပထဝီဓာတ်၊ ပူနွေး–အေးပြီး တွေ့တာကတစ်မျိုး၊ အဲဒါက တေဇောဓာတ်၊ တောင့်တင်း၊ တွန်းကန် လှုပ်ရှားပြီး တွေ့တာကတစ်မျိုး၊ အဲဒါက ဝါယောဓာတ်လို့ အဲဒီ ဓာတ်သုံးပါးဟာ အတွေ့အထိရုပ်ပဲ၊ တွေ့ထိ တယ်ဆိုရင်၊ အဲဒီရုပ်သုံးခုပဲ၊ ဒါကြောင့် အတွေ့ရုပ်ဟာ တစ်ခုတည်းမဟုတ်ဘူး၊ သုံးခုရှိတယ်၊ ပြီးတော့ တခြားရုပ်တွေ မဟုတ်ဘူး၊ ပ၊ အာ၊ တေ၊ ဝါ–

ဆိုတဲ့ ရုပ်ကြီးလေးပါးထဲမှာပါပြီးသား ရုပ်တွေပဲ၊ အဲဒါကိုသိအောင် လက်သည်းကွင်းလေးနဲ့ ဆောင်ပုဒ်လုပ်ထားတယ်၊ အဲဒါဆိုရမယ်။

"အတွေ့ဆိုတာ၊ ပ၊ တေ၊ ဝါ၊ သုံးဖြာမဟာဘုတ်"(ဆို ၃–ခေါက်)

အတွေ့ရုပ်က ရှေ့က ပါပြီးသားတွေဖြစ်လို့ တစ်ခုတိုးပြီး အထူးမရဘူး၊ အဆင်းရုပ်၊ အသံရုပ်၊ အနံ့ရုပ်၊ အရသာရုပ်–အာရုံရုပ်က ဒီလေးခုပဲ၊ အထူးအားဖြင့် အရေအတွက်ရတယ်၊ ငါးခုရှိပေမယ်လို့ အာရုံရုပ်က ဒီလေးခုပဲ၊ ဒါတွေက ထင်ရှားပါတယ်၊ ဩဠာရိက ရုပ်ဆိုတာတွေပါပဲ၊ အကြမ်းစားရုပ်တွေတဲ့၊ ယောဂီပုဂ္ဂိုလ်တွေ ဒီအကြမ်းစား ဩဠာရိကရုပ်တွေကိုပဲ အများအားဖြင့် ရှုနေရတာပဲ၊ နူးညံ့တဲ့ သုခုမရုပ်တွေကို ရှုရတာနည်းပါတယ်၊ ပြီးတဲ့ရုပ်တွေကို ပေါင်းလိုက်ရင် ဩဠာရိကရုပ် ၁၂–ပါးရှိသွားပြီ၊ ဒီအကြမ်းစား ဩဠာရိက ရုပ်တွေက သိလွယ်ပါတယ်၊ သူတို့က ထင်ရှားပါတယ်။

အဲ သိမ်မွေ့တဲ့ သုခမရုပ်ဆိုတာ "ဗို၊ မ ဖြစ်စေ၊ ရုပ်နှစ်ထွေ၊ မှတ်လေဘာဝရုပ်"တဲ့၊ အဖိုဖြစ်ကြောင်း၊ အမဖြစ်ကြောင်းရုပ်ကို ဘာဝရုပ်လို့ ခေါ်တယ်၊ ဒါတွေဟာ ပဋိသန္ဓေကတည်းက ပါလာတဲ့ရုပ်တွေပဲ အဖိုဖြစ်တဲ့ ပုဂ္ဂိုလ်တွေမှာ ပုမ္ဘာဝရုပ် ပါလာတယ်၊ အမဖြစ်တဲ့ ပုဂ္ဂိုလ်တွေမှာ ဣတ္ထိဘာဝရုပ် ပါလာတယ်၊ ဒီရုပ်တွေပါလာတော့ တဖြည်းဖြည်း ပုံသဏ္ဍာန်တွေဟာ အဖို၊ အမ၊ ပုံသဏ္ဍာန်တွေ ဖြစ်ပေါ်လာတယ်၊ အဲဒီဘာဝရုပ်နှစ်ခုကို ဆိုရမယ်။

"ဗို၊ မ ဖြစ်စေ၊ ရုပ်နှစ်ထွေ၊ မှတ်လေဘာဝရုပ်" (ဆို ၃–ခေါက်)

ပါဠိလိုကတော့ ရုပ်အနေနဲ့ ပုမ္ဘာဝရုပ်၊ ဣတ္ထိဘာဝရုပ်–တဲ့၊ ဣန္ဒြေအနေနဲ့ဆိုရင် ဣတ္ထိန္ဒြေ ပုရိသိန္ဒြေ–တဲ့၊ ဒီလို အမည်ပေးထားတယ်၊ အဲဒီရုပ်က ၂–ခု၊ မှတ်ထားနဲ့။

နောက်ပြီးတော့ ဇီဝိတဆိုတဲ့ အသက်ရုပ်ရယ်၊ အစားအစာဆိုတဲ့ အာဟာရရုပ်ရယ်၊ နှလုံးလို့ဆိုတဲ့ ဟဒယရုပ်ရယ်၊ အဲ သူတို့က သုံးခု၊ အဲဒါကျန်နေတယ်၊ အသက်ဆိုတော့ ဇီဝိတရုပ်၊ ဇီဝိတိန္ဒြေ၊ အစားအစာဆိုတဲ့

အာဟာရရုပ်၊ အဲဒါက သောက်တဲ့အထဲမှာလည်းပါတာပဲ၊ ဟဒယဆိုတာကတော့ စိတ်ဓါတ်တည်ရာနှလုံးရုပ်တဲ့၊ အဲဒီဟဒယရုပ်ကိုတော့ အဋ္ဌကထာဆရာတွေက ထည့်ထားတာ၊ ပါဠိတော်မှာ တိုက်ရိုက်မရှိဘူး၊ အဲဒီရုပ်သုံးခုက သီခြားရုပ်တွေပဲ၊ ဘယ်အထဲမှမပါဘူး၊ ဒီမဟာဘုတ်ထဲလည်း မပါဘူး၊ အကြည်ရုပ်ထဲလည်း သူတို့မပါဘူး၊ အာရုံရုပ်ထဲလည်း သူတို့မပါဘူး၊ သူတို့က သီးသန့်ပဲ၊ မှောရုံထဲ ထည့်မယ်ဆိုရင်တော့ ရတာပေါ့လေ၊ ဒါပေမယ့်လို့ မထင်ရှားဘူး၊ ဒါကိုဆိုရမယ်။

"အသက်၊ အာဟာရ၊ ဟဒယ၊ သုံးဝသီးခြားရုပ်" (ဆို ၃-ခေါက်)

အဲ ဝိပဿနာရှုရတဲ့ ရုပ်တွေကတော့ စုံသွားပြီ၊ ပြန်ပေါင်းကြည့်မယ်ဆိုရင် ၁၈-ပါးဖြစ်သွားပြီ။

ပ၊ အာ၊ တေ၊ ဝါ၊ ရုပ်လေးဖြာ၊ မှတ်ပါမဟာဘုတ်။ (၄-ခု)
မျက်စိ၊ နား၊ နှာ၊ ကိုယ်၊ လျှာ၊ ငါးဖြာ အကြည်ရုပ်၊ (၅-ခု)
ဆင်း၊ သံ၊ နံ့၊ မှာ၊ အရသာ၊ တွေ့တာအာရုံရုပ်။ (၄-ခု)
ဖို၊ မဖြစ်စေ၊ ရုပ်နှစ်ထွေ၊ မှတ်လေသဘာဝရုပ်။ (၂-ခု)
အသက်၊ အာဟာရ၊ ဟဒယ၊ သုံးဝသီးခြားရုပ်။ (၃-ခု)

အဲဒါပေါင်းလိုက်ရင် ၁၈-ပါးပဲ၊. သူတို့ကို သဘာဝရုပ်လို့လည်း ခေါ်တယ်၊ နိပ္ဖန္နရုပ်လို့လည်း ခေါ်တယ်၊ သူတို့က ပင်ကိုရင်သဘောအားဖြင့် သဘာဝလက္ခဏာရှိတဲ့ ရုပ်တွေတဲ့၊ ပရမတ္ထအားဖြင့်လည်း ထင်ရှားရှိတယ်၊ သူတို့ကိုပဲ ဝိပဿနာလည်း ရှုရတယ်၊ အဲဒါတွေကို ဒီမှာပေါင်းပြထားတယ်၊ "ဘုတ်လေးကြည်ငါး၊ အာရုံငါး၊ နှစ်ပါးဘာဝမည်။ သီးခြားသုံးပါး၊ ဆယ့်ရှစ်ဖြာ သဘာဝရုပ်မည်"တဲ့၊ အဲဒါ ဆိုခဲ့ပြီးသားရုပ် ၁၈-ပါးကို ပေါင်းပြထားတာပဲ။ ပြီးတော့ "သဘာဝရုပ်မာတိ၊ ပရမတ်၊ ဝိပဿ်ရှုရတယ်"တဲ့၊ ကဲ-ဆိုရမယ်။

"ဘုတ်လေး၊ကြည်ငါး၊အာရုံငါး၊ နှစ်ပါးဘာဝမည်" (ဆို ၃-ခေါက်)

ဘုတ်က လေးခု၊ အကြည်ရုပ်က ငါးခု၊ ကိုးခု၊ အာရုံက ငါးခု၊

ငါးခုဆိုပေမယ်လို့ တစ်ခုတော့ နုတ်ထားရမယ်ပေါ့၊ အတွေ့အာရုံက ပါပြီးသား ထပ်ပြီးတော့ ပါနေလို့၊ ပြီးတော့ ဘာဝရုပ်က နှစ်ခု၊ ဆယ့်ငါးခုရတယ်၊ ကဲ ဆိုရဦးမယ်။

"သီးခြားသုံးပါး၊ ဆယ့်ရှစ်ဖြာ၊ သဘာဝရုပ်မည်" (ဆို ၃-ခေါက်)

သီးခြားသုံးခုကပြောခဲ့တဲ့ အသက်ရယ်၊ အာဟာရရယ်၊ ဟဒယရယ် သုံးခု၊ အသက်ဆိုတာ ရုပ်တွေဆက်ဆက်ပြီးတော့ ဖြစ်ခြင်းရဲ့အကြောင်းတဲ့၊ ရုပ်တွေဆက်ဆက်ပြီးတော့ ဖြစ်နေအောင်လို့ အားပေးနေတဲ့ အသက်ရုပ်ဆိုတာ ရှိတယ်၊ သူလည်းပဲ ဖြစ်ပျက်နေတာပါပဲ၊ အမြဲတည်နေတာ မဟုတ်ပါဘူး၊ သူတည်နေတုန်းသာ အားပေးနေတာပဲ၊ ရေဟာ သူရှိတုန်း ကြာကိုအားပေး သလိုပဲ၊ အားပေးတဲ့ရေဟာ အမြဲတည်ရှိနေတာ မဟုတ်ဘူး၊ ဒါပေမယ့်လို့ သူရှိတုန်းတော့ ကြာတို့၊ ရေမှော်တို့ကို အားပေးတယ်၊ အဲဒါလိုပဲ၊ ဒီအသက် ရုပ်က သူရှိတုန်း အခိုက်အတန့်မှာ ကျေးဇူးပြုနေတာဖြစ်လို့ ရုပ်တွေ ဆက်ကာ ဆက်ကာ ဖြစ်နေကြတယ်၊ သတ္တဝါတွေ အသက်ရှည်နေတယ်၊ အာဟာရရုပ် ဆိုတာကတော့ သုံးဆောင်စားသောက်တဲ့ အစာအာဟာရထဲမှာပါတဲ့ ဩဇာရုပ်ပါပဲ၊ ဟဒယရုပ်ကတော့ စိတ်ရဲ့မှီရာဖြစ်တဲ့ နှလုံးရုပ်တဲ့၊ အဲ အားလုံး သီးခြားရုပ်က သုံးခု၊ အဲဒါ ၁၈-ခုဖြစ်တယ်၊ ဆိုရဦးမယ်။

"သဘာဝရုပ်ဓာတ်၊ ပရမတ်၊ ဝိပဿ် ရှုရမယ်"(ဆို ၃-ခေါက်)

ဒါဟာ အဘိဓမ္မာအကျဉ်းချုပ်ကလေးပဲ၊ အင်မတန်ကောင်းတယ်၊ ဒါတွေကိုရရင် စုံနေပြီ၊ ရုပ်ဘက်က ဝိပဿနာရှုကောင်းတဲ့ရုပ်တွေ အကုန်လုံးစုံ နေပြီ၊ ဒီပြင်ရုပ်က ၁၀ ကျန်သေးတယ်၊ အဲဒါတွေ ပညတ်ရုပ်တွေ၊ သဘာဝရုပ် တွေရဲ့ အရှိန်အဝါတွေ အဲဒီကျန်တဲ့ ၁၀-ရုပ်က သီးခြားရုပ်တွေ မဟုတ်ဘူး၊ ဒါကြောင့် ဝိပဿနာရှုလို့ မဖြစ်ဘူး၊ မရှုရဘူး၊ အဲ သဘာဝရုပ် ၁၈-ခုကိုတော့ ဝိပဿနာရှုရတယ်၊ သူတို့က တကယ်ရှိတဲ့ ပရမတ်ရုပ်တွေကိုး၊ တကယ် ရှိနေတာကိုမှ ဝိပဿနာရှုရတယ်။

# အာပေါဓာတ်ကို ရှုမှတ်နည်း

ဝိပဿနာရှုရင် မြင်တဲ့အခါကာလမှာ မြင်တယ်ရှု၊ မျက်စိနဲ့ အဆင်းရုပ်တွေ့တဲ့အခါမှာ မြင်တာပဲ၊ ကြားတဲ့အခါကာလမှာ ကြားတယ်ရှု၊ နားနဲ့အသံရုပ်တွေ့တဲ့အခါမှာ ကြားရတယ်၊ နံတဲ့အခါကာလမှာ နံတယ်ရှု၊ နှာခေါင်းနဲ့အနံ့ ရုပ်တွေ့တဲ့အခါမှာ နံတာပဲ၊ စားတဲ့အခါကာလမှာ စားရင် စားတယ်လို့မှတ်ရှု၊ လျှာနဲ့အရသာတွေ့တဲ့အခါမှာ ချိုရင်ချိုတယ်၊ ချဉ်ရင် ချဉ်တယ်စသည်ပေါ့လေ၊ လျှာနဲ့အရသာရုပ်တွေ့တော့ ဒီလိုသိရတယ်၊ ကိုယ်နဲ့အတွေ့ သိတဲ့အခါကာလကျတော့ အဲဒါအများကြီးပဲ၊ တွေ့တယ်၊ သိတယ်၊ ကွေးတယ်၊ ဆန့်တယ်၊ ဖောင်းတယ်၊ ပိန်တယ် စသည် အများကြီး ပါပဲ၊ ကိုယ်အမူအရာတွေ ဖြစ်တိုင်းဖြစ်တိုင်း ရှုမှတ်ရတယ်၊ အဲဒါတွေဟာ အတွေ့အထိတွေပဲ၊ အဲဒီမှာ တွေ့ထိရာဌာနတိုင်း အကြည်ရုပ်နဲ့ တွေ့ထိရတဲ့ အတွေ့ရုပ်တွေပဲ၊ ခက်မာကြမ်းတမ်းတဲ့အတွေ့၊ နူးညံ့တဲ့အတွေ့၊ ပထဝီဓာတ်၊ ပူးနွေးတာတို့၊ အေးတာတို့ တေဇောဓာတ်၊ တောင့်တင်း၊ တွန်းကန်၊ လှုပ်ရှားတဲ့ ဝါယောဓာတ် အတွေ့အထိရုပ် အဲဒါတွေကို ရှုမှတ်ရတယ်။

အဲဒီအထဲမှာ ဘာကျန်နေတုန်းဆိုတော့ အာပေါဓာတ် ကျန်နေတယ်၊ အာပေါဓာတ် မပါသေးဘူး၊ မြင်ရာမှာလည်း မပါဘူး၊ ကြားရာ၊ နံရာ၊ စားရာမှာလည်း မပါသေးဘူး၊ အဖို၊ အမဖြစ်စေတတ်တဲ့ ဘာဝရုပ်လည်း မပါသေးဘူး၊ ဟဒယရုပ် လည်းမပါသေးဘူး၊ အသက်ဆိုတဲ့ ဇီဝိတရုပ်လည်း ရှုမှတ်ဖို့အထဲ မပါသေးဘူး၊ ဒါတွေကို ဘယ်လိုလုပ်ပြီးတော့ သိရမယ်ဆိုတာ ဒါလည်း စဉ်းစားစရာပဲ။

အာပေါဓာတ်ကတော့ အတွေ့အထိကနေပြီး သိနိုင်ပါတယ်၊ တွေ့တာကတော့ သူ့ကို မတွေ့ကောင်းဘူး၊ သို့ပေမယ့်လို့ အာပေါဓာတ်နဲ့ ပူးပေါင်းပြီး နေတဲ့ ပထဝီတို့၊ တေဇောတို့၊ ဝါယောတို့ကို တွေ့ထိတာနဲ့ပဲ သိပါတယ်၊

အဲဒါကို အဋ္ဌကထာများနဲ့ အဘိဓမ္မာသင်္ဂဟကျမ်းမှာ "လက္ခဏ ရသ ပစ္စုပဋ္ဌာန ပဒဋ္ဌာနဝသေန နာမရူပပရိဂ္ဂဟော ဒိဋ္ဌိဝိသုဒ္ဓိနာမ"လို့ ဆိုတဲ့အတိုင်း လက္ခဏ အလိုအားဖြင့်လည်း နာမ်ရုပ်တွေကို ရှုတယ်၊ ရသကိစ္စနဲ့လည်း ရှုရတယ်၊ ပစ္စုပဋ္ဌာန သူ့ထင်ပုံအခြင်းအရာအားဖြင့်လည်း ရှုရတယ်၊ အဲဒီလို ရှုပြီးတော့ ဒီရုပ်နာမ်တွေကိုသိရတယ်၊ ဒါတင်လားဆိုတော့ ပဒဋ္ဌာန နီးသောအကြောင်း အားဖြင့်လည်း ရှုရတယ်လို့သိရတယ်။

နီးသော အကြောင်းအားဖြင့် ရှုရာမှာ ဒီပြင်ရုပ်တွေအတွက် သိပ်မထင်ရှားပေမယ်လို့ အာပေါဓာတ်မှာတော့ထင်ရှားတယ်၊ အာပေါဓာတ်ရဲ့ နီးသော အကြောင်းကတော့ ပထဝီ၊ တေဇော၊ ဝါယောတို့ပါပဲ၊ အဲဒီ ဓာတ်သုံးပါးက သူနဲ့အတူ ယှဉ်တွဲပြီးတော့ဖြစ်တယ်၊ အဲဒီဓာတ်သုံးပါးကိုမှီပြီးတော့ အာပေါဓာတ်က ဖြစ်ရမယ်၊ တွေ့ထိရာမှာ အာပေါ၏နီးသော အကြောင်းဖြစ်တဲ့ ပထဝီ၊ တေဇော၊ ဝါယောတို့က တွေ့ထိတာ၊ အာပေါဓာတ်က မတွေ့မထိကောင်းဘူး၊ သူ့ကို မထိသိနိုင်ဘူး၊ သို့သော်လည်း သူနဲ့တွဲပြီးတော့နေတဲ့ ပထဝီဓာတ် မာကြမ်းတဲ့သဘောကို နူးညံ့တဲ့သဘောကို တွေ့ထိနိုင်တယ်၊ ပူအေးတဲ့ တေဇောဓာတ်ကို တွေ့ထိနိုင်တယ်၊ တောင့်တင်း၊ တွန်းကန်၊ လှုပ်ရှားတဲ့သဘောကို တွေ့ထိနိုင်တယ်၊ အဲဒီထူးခြားတဲ့ ပထဝီ၊ တေဇော၊ ဝါယောတွေကို တွေ့ထိပြီးတော့ ဒါက စိုနေတာပဲ၊ ဒါက အရည်ပဲဆိုတာ သိရတာပေါ့၊ ဒါဟာပဒဋ္ဌာန်အားဖြင့် အာပေါဓာတ်ကို သိရတာတဲ့၊ ဒီလို တိုက်ရိုက်မတွေ့နိုင်တဲ့ ရုပ်တရား၊ နာမ်တရားတွေကို ပဒဋ္ဌာန်ကနေပြီးတော့ သိနိုင်တယ်၊ ရှုမှတ်နိုင်တယ်၊ ဒီအတိုင်း အဲဒီလို သိနိုင်တာကြောင့် အဋ္ဌကထာတွေက ပဒဋ္ဌာန်အားဖြင့် သိရတယ်လို့ ဒီလိုဆိုထားတယ်။

## ဘာဝရုပ်စသည်ကို ရှုမှတ်နည်း

ပြီးတော့ ဣတ္ထိဘာဝ၊ ပုမ္ဘာဝရုပ်ကိုသိဖို့က ဘယ်လိုတုန်းဆိုလို့ရှိရင်

အမျိုးသားနဲ့ အမျိုးသမီးတွေဆိုတာ စိတ်နေသဘောထား၊ စိတ်ကူး ကြံစည်မှုမှ စပြီးတော့ တစ်ဦးနဲ့တစ်ဦး တူကြတာမဟုတ်ဘူး၊ ထူးခြားတာတွေရှိတယ်၊ အဲဒီလို ထူးခြားတာတွေကို တွေ့ရလို့ တည်မှီရာ ဘာဝရုပ်ကိုသိရတယ်၊ ဒါက ဣတ္ထိဘာဝပဲ၊ ဒါက ပုမ္ဘာဝပဲဆိုတာ သူတို့ အမူအရာ၊ သူတို့စိတ်နေသဘောထားကို တွေ့တာနဲ့ သိနိုင်တယ်ပေါ့။

ဟဒယရုပ်ဆိုတာကို သိဖို့ကတော့ စိတ်ကူးတိုင်း၊ ကြံစည်တိုင်း၊ စဉ်းစားတိုင်း၊ စိတ်ကူးကြံစည်၊ စဉ်းစားတယ်လို့ ရှုမှတ်တဲ့အခါ အဲဒီစိတ်ကူး၊ ကြံစည်စဉ်းစားမှု၏ တည်ရာ နှလုံးရုပ်ကို သိရတယ်။

အာဟာရရုပ်ကို သိဖို့ကတော့ အစာအာဟာရ စားသောက်တဲ့အခါ ကာလ၊ အစာအာဟာရကို အကြောင်းပြုပြီးတော့ ကိုယ်ထဲမှာ ဆာလောက်ခြင်း ကင်းမှု၊ အားအင်ပြည့်ဖြိုးမှု၊ နေသာထိုင်သာရှိမှုတို့ဖြင့် အာဟာရရုပ်ကို သိရတယ်။

အသက်ရုပ်ကိုသိဖို့ကတော့ မျက်စိ၊ နား အစရှိတဲ့၊ ကမ္မဇရုပ်တွေ ဆက်ကာဆက်ကာ ဖြစ်နေတာတွေကို တွေ့သောအားဖြင့် အသက်ရှင်စေ တတ်တဲ့ ရုပ်ဆိုတာ ရှိတယ်လို့သိရတယ်၊ ဒါဟာ အင်မတန်သိမ်မွေ့ပါတယ်၊ အင်မတန် ဗဟုသုတရှိတဲ့ ပုဂ္ဂိုလ်တွေ၊ ပညာရှိပုဂ္ဂိုလ်တွေမှသိနိုင်မှာပါ၊ သာမန် ပုဂ္ဂိုလ်တွေသိဖို့ မလွယ်ပါဘူး၊ အဲဒီရုပ်တွေက သူတို့ကို တိုက်ရိုက်ရှုလို့ မရတဲ့ ရုပ်တွေတဲ့၊ အဲဒီတစ်ဆယ့်ရှစ်ပါးသောရုပ်တွေကို သဘာဝရုပ်တွေလို့ပဲ ခေါ်တယ်၊ ဒီရုပ်တွေကို ဝိပဿနာရှုရတယ်။

မြင်တိုင်း၊ ကြားတိုင်း၊ နံတိုင်း၊ စားတိုင်း၊ ထိသိတိုင်း၊ ကွေးတိုင်း၊ ဆန့်တိုင်း၊ လှုပ်ရှားတိုင်း၊ စိတ်ကူးစဉ်းစား၊ ကြံစည်တိုင်း၊ ကိုယ်အမူအရာ တွေကို ရှုမှတ်နေတာဟာ မျက်စိနဲ့အဆင်း၊ နားနဲ့အသံ၊ နှာခေါင်းနဲ့အနံ့၊ လျှာနဲ့အရသာ၊ ကိုယ်နဲ့အတွေ့အထိ အဲဒါတွေကို ရှုမှတ်နေတာပဲ၊ အဲဒီ ရှုမှတ်နေတာတွေထဲမှာ အာပေါဓာတ်လည်း ပါသွားတယ်၊ စိတ်ကူးစဉ်းစား

ကြံစည်မှုကိုရှုတော့ နှလုံးရုပ်လည်းပါသွားတယ်၊ မြင်မှု၊ ကြားမှု၊ စသည်ကို ထပ်ခါထပ်ခါ ရှုနေတော့ မျက်စိရုပ်၊ နားရုပ်၊ စသည်တွေ ထပ်ခါထပ်ခါဖြစ်နေ တာကို တွေ့ရသောအားဖြင့် အဲဒီမှာ အသက်ရုပ်လည်း ပါသွားပြီဆိုတာ သိရတယ်၊ ဇာစာအာဟာရ စားမျိုလို့ ကိုယ်ထဲတောင့်တင်းနေတာတွေကို တွေ့ရသောအားဖြင့် ဒီအာဟာရုရုပ်လည်း ရှုတဲ့အထိ ပါသွားတယ်၊ ဒါကြောင့်–

"ဘုတ်လေး ကြည်ငါး၊ အာရုံငါး၊ နှစ်ပါးဘာဝမည်"

"သီးခြားသုံးပါ၊ ဆယ့်ရှစ်ဖြာ၊ သဘာဝရုပ်မည်"

"သဘာဝရုပ်ဓာတ်၊ ပရမတ်၊ ဝိပဿ် ရှုရမည်"

သဘာဝ ရုပ်ဓာတ်တွေဟာ ပရမတ်တရားတွေပဲ၊ ဝိပဿနာရှုတဲ့ တရား၊ ရုပ်၊ တစ်ဆယ့်ရှစ်ပါးပြီးသွားပြီ၊ ရုပ်က ဟဒယရုပ်ပါဆိုရင် နှစ်ဆယ့် ရှစ်ပါးတောင် ရှိတယ်၊ အခု တစ်ဆယ့်ရှစ်ပါးပြီးသွားတော့ ဆယ်ပါးကျန်နေ သေးတယ်၊ အဲဒါကို ဆိုရမယ်။

"ကြွင်းရုပ်ဆယ်ဖြာ၊ ပညတ်သာ၊ ရှုစရာမလိုပြီ"(ဆို ၃–ခေါက်)

ကျန်တဲ့ရုပ်တွေက ဆယ်ပါးရှိသေးတယ်၊ အဲဒါ ပညတ်ရုပ်တွေပဲ၊ သူတို့ကို ကြောင့်ကြစိုက်ပြီးတော့ ရှုစရာမလိုဘူးတဲ့၊ အဲဒါ ဘယ်ရုပ်တွေလဲ ဆိုလို့ရှိရင်–

"အာကာသဓာတ်၊ နှစ်ဝိညတ်၊ ပေါ့လတ်၊ နူ၊ ခံသည်"

"ဖြစ်ပွားရင့်လည်း၊ သေပျက်မှတ်၊ ပညတ်ရုပ်ဆယ်မည်"

ပညတ်ရုပ် ဆယ်ခုဟာ ဒါတွေပဲ၊ အဲဒီထဲ အာကာသဓာတ်ဆိုတာ ဟင်းလင်းပြင်လိုပဲ၊ ဒါပေမယ့်လို့ ဒီမှာတော့ ရုပ်ကလာပ်နှစ်ခုတို့၏ အကြား အကြားကို အာကာသဓာတ်လို့ ဆိုလိုတယ်၊ ရုပ်ကလာပ်တွေဟာ တစ်ခုနဲ့တစ်ခု မရောဘူး၊ သီးခြားစီတည်နေကြတယ်၊ အဲဒီ သီးခြားတည်နေတဲ့ ရုပ်ကလာပ် တွေမှာ ထိသကဲ့သို့ ရောစပ်တည်နေ ကြပေမယ့်လို့ အမှန်ကတော့ တစ်ခုနဲ့ တစ်ခု မရောမစပ်ဘူး၊ ဥပမာ လက်နှစ်ချောင်းကို ပူးပြီးတော့ လက်မနဲ့

လက်ညှိုးနှိပ်ထားလို့ရှိရင် အကြားရယ်လို့ ဘယ်မြင်ရမလဲ၊ ဒါပေမယ့်လို့ ဒီလက်နှစ်ချောင်းဟာ တစ်ပေါင်းတည်း တစ်ခုတည်း ရောနေတာတော့ မဟုတ်ဘူး၊ တခြားစီပဲ၊ အဲဒီလို တခြားစီကွဲနေတဲ့ အကြားအကြားကို အာကာသဓာတ်လို့ ခေါ်တယ်၊ ဆန်တို့၊ စပါးတို့၊ ပြောင်းတို့ကို တောင်းထဲမှာ ထည့်ပြီးတော့ ရေလောင်းရင် အဲဒီအထဲမှာ ရေဝင်သွားတာပဲ၊ အဲဒါခြားနေတဲ့ အာကာသရှိလို့ ရေတွေဝင်သွားတာပဲ၊ ရုပ်ကလာပ်တွေလည်း ဒီလိုပဲ၊ သူတို့အကြား အကြားမှာ အာကာသတွေရှိတယ်၊ အဲဒီလိုရှိတဲ့ အာကာသဓာတ် အဲဒီအာကာသဓာတ်ဟာ ပညတ်ရုပ်၊ ပရမတ်ရုပ် မဟုတ်ဘူး၊ ကောင်းကင် ပြင်ကြီးကိုလည်း အာကာသလို့ ခေါ်တာပဲ၊ သူလည်း ပညတ်ပါပဲ။

နှစ်ဝိညတ်တဲ့၊ ဝိညတ်ရုပ် နှစ်ခုရှိတယ်၊ ကာယဝိညတ်၊ ဝစီဝိညတ်တဲ့၊ အဲဒီ ဝိညတ်ကလည်း စာပေကျမ်းဂန်အရ တိတိကျကျပြောရရင် အသိခက်တာပဲ၊ အခု ဒီမှာတော့ လွယ်လွယ်ပဲပြောရမယ်၊ ကိုယ်ဖြင့်သိစေတဲ့ အမူအရာကို ကာယဝိညတ်၊ နှုတ်ဖြင့်သိစေတဲ့ အမူအရာကို ဝစီဝိညတ်လို့ခေါ်တယ်၊ ကိုယ်အမူအရာ၊ နှုတ်အမူအရာ တွေပေါ့လေ၊ ကိုယ်အမူအရာကိုမြင်ရုံနဲ့ ဒီပုဂ္ဂိုလ် ဘာဖြစ်နေတယ်ဆိုတာ သိနိုင်တာတွေရှိတယ်၊ မျက်နှာပြုံးနေတာကို မြင်လို့ရှိရင် သူ့မှာ စိတ်ချမ်းသာနေတယ်ဆိုတာ သိနိုင်တယ်၊ စိတ်ဆိုးနေပြီ ဆိုရင် သူ့မျက်နှာဟာ နီပြီးတော့ မျက်စိမျက်နှာမလှဘဲ ဖြစ်နေတတ်တယ်၊ အဲဒါ သူ စိတ်ဆိုးနေပြီဆိုတာကို သိရမယ်၊ အဲဒီလို သူဖြစ်နေတဲ့ ကိုယ်အမူ အရာဖြင့် သိစေတဲ့ ရုပ်ဟာ ကာယဝိညတ်ရုပ်တဲ့၊ ဝစီဝိညတ်ဆိုတာကတော့ နှုတ်ဖြင့် ပြောပြီးတော့ သိစေတာပါပဲ၊ ဘာပြောတာပဲ၊ ဘာသိစေတယ်ဆိုတာ နှုတ်က ပြောတာကျတော့ သာပြီးထင်ရှားပါတယ်၊ အဲဒီလို သိစေတဲ့ရုပ်ကို ဝိညတ်ရုပ်လို့ ဆိုပါတယ်၊ လွယ်လွယ်ပြောရတာပဲ၊ ကာယဝိညတ်၊ ဝစီဝိညတ်၊ ရုပ်တဲ့၊ အဲ သူကနှစ်ခု အာကာသပါဆိုရင် သုံးခု။

"ပေါ့လတ် နူးညံ့သည်"တဲ့၊ ပေါ့တာကတစ်ခု၊ နူးညံ့တာကတစ်ခု၊

ခံ့ကျန်းတာက တစ်ခု၊ ဒီသုံးခုဟာ တွဲလျက် တပေါင်းတည်းပါပဲ၊ ပေါ့တဲ့ရုပ်ဟာ နူးလည်းနူးညံ့တယ်၊ ခံ့လည်း ခံ့ကျန်းတယ်၊ ဒါက ရုပ်တို့ရဲ့ဂုဏ်ပါပဲ၊ စိတ်တွေ ရွှင်ရွှင်လန်းလန်း ဖြစ်နေတဲ့ အခါကာလမှာ ကွေးလိုက်၊ ဆန့်လိုက်၊ ထိုင်လိုက်၊ ထလိုက်တိုင်း ပေါ့ပါးနေတာပဲ၊ နူးနူးညံ့ညံ့လည်း ဖြစ်နေတာပဲ၊ ခံ့ခံ့ကျန်းကျန်း လည်းဖြစ်နေတာပဲ၊ နေမကောင်းထိုင်မသာ ဖြစ်နေပြီဆိုရင်တော့ စိတ်တွေ လည်းလေး ရုပ်တွေလည်းလေးနေတာပဲ၊ နေကောင်းပေမယ်လို့ စိတ်လေးနေ တဲ့အခါကာလမှာ ကိုယ်တွေ၊ လက်တွေ့ ပြုရပြင်ရတာ မပေါ့ပါးဘူး၊ မနူးညံ့ ဘူး၊ မခံ့ဘူး၊ စိတ်တွေ ရွှင်ရွှင်လန်းလန်း ဖြစ်နေတဲ့အခါ ကာလမှာ ပေါ့တဲ့ရုပ်၊ နူးညံ့တဲ့ရုပ်၊ ခံ့ကျန်းတဲ့ရုပ်တွေ ထင်ရှားတယ်၊ ဥတုတို့ အာဟာရတို့ ဆိုတာ တွေကလည်း ရှိသေးတယ်၊ အဲ သူတို့နဲ့စပ်ပြီးတော့လည်း ပေါ့မှု၊ နူးညံ့မှု၊ ခံကျန်းမှုတွေ ဖြစ်နိုင်သေးတယ်၊ ဒါတွေ နောက်နားကျတော့ ပါလာ လိမ့်မယ်။

ဒီမှာ "ပေါ့လတ်၊ နုခံ့"လို့ဆိုထားတယ်၊ နူးခံ့ဆိုရင် ဆိုလို့တယ် မကောင်းဘူး၊ ဒါကြောင့် နုခံ့လို့ ဆိုထားတယ်၊ အဲ အာကာသဓါတ်– ဟင်းလင်းပြင်ရုပ်ကတစ်ခု၊ ဝိညတ်–ကိုယ်အမူအရာ၊ နှုတ်အမူအရာ၊ ဝိညတ်ရုပ်ကနှစ်ခု၊ ပေါ့ရုပ်၊ နူးညံ့ရုပ်၊ ခံကျန်းရုပ် သုံးခု၊ ပေါင်းလိုက်တော့ ခြောက်ခု၊ အဲဒါဆိုရမယ်–

"အာကာသဓာတ်၊ နှစ်ဝိညတ်၊ ပေါ့လတ် နုခံ့သည်"

အာကာသဓာတ်ရယ်၊ ဝိညတ်ရုပ်နှစ်ခုရယ်၊ ပေါ့က ပေါ့ရုပ်၊ နုက နူးညံ့ရုပ်၊ ခံ့က ခံ့ကျန်းရုပ်၊ အဲဒါခြောက်ခုတဲ့၊ ပေါ့ဆိုတာက "ကာယဿ လဟုတာ" ကာယဿ၊ ကိုယ်၏။ ရူပဿ၊ သဘာဝရုပ်၊ နိပ္ဖန္နရုပ်၏။ လဟုတာ၊ ပေါ့ပါးသည်၏ အဖြစ်၊ ပေါ့ပါးခြင်း။ "ရူပဿ မုဒုတာ" ရူပဿ၊ သဘာဝရုပ် နိပ္ဖန္နရုပ်၏။ မုဒုတာ၊ နူးညံ့သည်၏အဖြစ် နူးညံ့ခြင်း၊ "ရူပဿ ကမ္မညတာ" ရူပဿ၊ သဘာဝရုပ် နိပ္ဖန္နရုပ်၏။ ကမ္မညတာ၊ အမှုခံ့သည်၏ အဖြစ် အမှုခံခြင်း၊ ဒီမှာ နားလည်လွယ်အောင်လို့ ဆိုပြီးတော့ လဟုတာရုပ်ကို

ပေါ့ရုပ်၊ မုဒုတာကို နူးညံ့ရုပ်၊ ကမ္မညတာကို ခံ့ရုပ်လို့ မြန်မာလိုဆိုထားတယ်၊ ပြီးတော့

"ဖြစ်ပွားရင့်လတ်၊ သေပျက်မှတ်၊ ပညတ် ရုပ်ဆယ်မည်"တဲ့။

သဘာဝရုပ် တစ်ဆယ့်ရှစ်ခု၏ အစဖြစ်ပေါ်တဲ့သဘော၊ နောက်ဆက်ကာ ဆက်ကာ ပွားလာတဲ့သဘော၊ အဲဒါက ဖြစ်တာချည်းပဲ၊ ဖြစ်တာကလည်း အစဆုံး ဖြစ်တာနဲ့ နောက် ဆက်ကာဆက်ကာဖြစ်ပွားနေတာကို ဆိုတာပါပဲ၊ နောက်ပြီးတော့ ရင့်တဲ့ အလယ်ပိုင်းရယ်၊ နောက်ဆုံး သေပျက်သွားရတာရယ် အဲဒါကို သိလွယ်အောင်လို့ မြန်မာလိုဆိုပြီး ဆောင်ပုဒ်လုပ်ထားတာပဲ၊ တိုတိုပြောရရင် ရုပ်တို့၏ ဥပါဒ်၊ ဌီ၊ ဘင်လို့မှတ်ရမယ်။ ဖြစ်ပွားဆိုတာက ဥပါဒ်၊ ရင့်လတ်ဆိုတာက ဌီ၊ သေပျက်ဆိုတာက ဘင်တဲ့၊ ရုပ်မှာသာ ဒီလိုဆိုထားတာပဲ၊ နာမ်တရားတွေမှာတော့ ဒီလိုမရှိဘူး၊ ရုပ်တရားမှာ ပဋိသန္ဓေကစပြီးတော့ ပထမဆုံး ဖြစ်လာတာကို ဖြစ်တယ်ဆိုပြီးတော့ ဥပစယ ဥပါဒ်လို့ ဆိုပါတယ်။ နောက် ဆက်ကာဆက်ကာ ဖြစ်နေတာကျတော့ သန္တတိဖြစ်စဉ်-ဖြစ်ပွားတာပဲ၊ ပြီးတော့ ရုပ်တို့၏ အလယ်ပိုင်းရင့်တာကို ဇရတာတဲ့၊ အဲဒါ ရုပ်တို့၏ ဌီပါပဲ၊ နောက်ဆုံးပျက်တာကျတော့ အနိစ္စတာတဲ့၊ အဲဒါ ရုပ်တို့၏ ဘင်ကိုဆိုတာပဲ အဲဒီရုပ်က လေးခု၊ အဲဒီရုပ်လေးခုကို လက္ခဏာရုပ်လို့ခေါ်တယ်၊ လက္ခဏာဆိုတာ မှတ်ကြောင်းဖြစ်တဲ့ရုပ်ပါပဲ၊ နိပ္ဖန္နရုပ်တွေကို ဥပစယ၊ သန္တတိ-အစဖြစ်ပေါ်လာမှု ဖြစ်ပွားမှုနဲ့လည်း မှတ်ရတယ်၊ ဇရတာ၊ အလယ်ရင့်ကျက်မှု ဌီနဲ့လည်း မှတ်ရတယ်၊ အနိစ္စတာ အဆုံးပျက်စီးမှုနဲ့လည်း မှတ်ရတယ်။

မဖြစ်တာဆိုရင် မဖြစ်မှ မဖြစ်ဘဲ မမြဲဘူးလို့ မပြောနိုင်ဘူး၊ ဖြစ်ပြီးတော့ မပျက်ဘဲ တည်နေရင်လည်းပဲ မမြဲဘူးလို့ မပြောနိုင်ဘူး၊ အခုတော့ ဖြစ်တော့ပျက်စီးသွားတာ ဖြစ်လို့မို့ ဒါမမြဲဘူးလို့ ဆိုရတယ်၊ အဲဒီလို မမြဲခြင်းကို မှတ်ကြောင်းဖြစ်လို့ လက္ခဏ မှတ်ကြောင်း လက္ခဏာရုပ်တဲ့၊ ဆိုကြရမယ်။

"ဖြစ်ပွားရင့်လတ်၊ သေဖျက်မှတ်၊ ပညတ်ရုပ်ဆယ်မည်"
(ဆို ၃–ခေါက်)

အဲဒါ ကိုယ်ထဲရှိတဲ့ရုပ်တွေ အားလုံးနှစ်ဆယ်ရှစ်ပါး၊ အဖိုဖြစ်ကြောင်း၊ အမဖြစ်ကြောင်း ဘာဝရုပ်ကတော့ တစ်ခုပဲရတယ်၊ နှစ်ဆယ့်ခုနစ်ပါးပေါ့လေ၊ ဒါလူတိုင်း လူတိုင်းမှာ အပြည့်အစုံရှိရင် အဲဒီအတိုင်းပဲ၊ အဲ မျက်စိကွယ်နေတဲ့ ပုဂ္ဂိုလ်ဆိုရင်တော့ မျက်စိရုပ်မရှိဘူး၊ နားပျက်နေတဲ့ ပုဂ္ဂိုလ်ဆိုရင်လည်း နားရုပ်မရှိဘူးပေါ့လေ၊ အဲဒီလို နည်းနည်းပါးပါး လျော့နေတဲ့ပုဂ္ဂိုလ်တွေလည်း တချို့ ရှိပါလိမ့်မယ်၊ များသောအားဖြင့် လူတိုင်းလူတိုင်းမှာ ရုပ်နှစ်ဆယ့်ခုနစ်ပါး ကတော့ ရှိနေတာပဲ။

## ထင်ရှားတဲ့ရုပ်ကို ရှုရတယ်

အဲဒီမှာ ထင်ရှားတဲ့ ရုပ်တွေကို ဝိပဿနာရှုရတယ်၊ မြင်တိုင်း၊ ကြားတိုင်း၊ ဒွါရခြောက်ပါးမှာထင်လာတဲ့ ရုပ်တွေကို ရှုရတယ်၊ ထင်လာတဲ့ ရုပ်တွေကို မရှုမိလို့ရှိရင် အဲဒါတွေကို ပုဂ္ဂိုလ်သတ္တဝါအနေနဲ့ အထင်မှားပြီးတော့ တဏှာနဲ့သာယာပြီးတော့လည်း စွဲလမ်းတယ်၊ ဒိဋ္ဌိနဲ့အထင်မှားပြီးတော့လည်း စွဲလမ်းတယ်၊ အဲဒီလို စွဲလမ်းတာတွေ ပျောက်အောင်လို့ မြင်တိုင်း၊ ကြားတိုင်း ဒွါရခြောက်ပါးမှာ ထင်လာတဲ့ရုပ်တွေကို ရှုရတယ်၊ ဒီမှာ နာမ်အမည်တွေ မပါသေးဘူး၊ နာမ်ကိုတော့ နောက်မှပဲ ပြောရမယ်၊ အခုတော့ "ရူပက္ခန္ဓာ" ရုပ်ဝတ္ထုပဲ ရှိသေးတယ်။

## အနည်းဆုံး ရုပ်ရှစ်ခုပေါင်းဖြစ်တယ်

အဲဒီရုပ်တွေကလည်း ရုပ်တစ်ခုချင်း တစ်ခုချင်း ဖြစ်တာမဟုတ်ဘူး၊ အနည်းဆုံးရုပ်ရှစ်ခုပေါင်းဖြစ်တယ်၊ ရှစ်ခုထက်နည်းပြီးတော့ မဖြစ်ဘူး၊ ဘယ်လိုပေါင်းဖြစ်သလဲဆိုရင် မြင်တဲ့အဆင်းရုပ်၊ အနံ့ရုပ်၊ အရသာရုပ်၊ ပထဝီ၊

အာပေါ၊ တေဇော၊ ဝါယောဆိုတဲ့ ဘုတ်လေးပါး၊ ဩဇာရုပ်–ဩဇာရုပ်ဆိုတာ အာဟာရရုပ်ပဲ၊ အနည်းဆုံး ဒီရုပ်ရှစ်ခုကတော့ ပေါင်းပြီးတော့ဖြစ်တယ်၊ ကဲ..အဲဒါကိုဆိုရမယ်။

"ဆင်းနံ့ရသာ၊ ဘုတ်လေးဖြာ၊ ဩဇာဋ္ဌကလာပ်"(ဆို ၃–ခေါက်)

အဲဒီ ရုပ်ရှစ်ခုပေါင်းဖြစ်တာကို အဋ္ဌကလာပ်ရုပ်လို့ ခေါ်တယ်၊ အဋ္ဌဆိုတာရှစ်ခု၊ ကလာပ်–ဆိုတာအပေါင်း–အဋ္ဌကလာပ်–ရုပ်ရှစ်ခုအပေါင်းတဲ့၊ လင်္ကာဖြစ်လို့မို့ "ဋ္ဌကလာပ်"လို့ အ–ဋ္ဌ–က–အ ကို ဖျောက်ဆိုထားတာ၊ ဆိုလိုတာက အဋ္ဌကလာပ် အဲဒီလို အပြည့်အစုံဆိုလိုတာပဲ။

ကလာပ်ဆိုတာကလည်း ကမ္မဇကလာပ်၊ စိတ္တဇကလာပ်၊ ဥတုဇ ကလာပ်၊ အာဟာရဇကလာပ်ရယ်လို့ လေးမျိုးရှိပါတယ်၊ အခု ရုပ်ရှစ်ခုထဲ ပေါင်းဖြစ်တဲ့ ကလာပ်ကတော့ ကမ္မဇကလာပ်ရယ်လို့ မရှိဘူး၊ ကံကြောင့်ဖြစ်တဲ့ ကမ္မဇကလာပ်ထဲမှာ အဋ္ဌကလာပ်ဆိုတာ မရှိဘူး၊ ရှစ်ခုပေါင်းမရှိဘူး၊ ကိုးခု၊ ဆယ်ခုပေါင်းသာရှိတယ်၊ဒါကြောင့် လက်သည်းကွင်းနဲ့ ကမ္မဇမရှိလို့ပြထား တယ်၊ မြူမှုန်လေးတစ်ခုဆိုရင် အဲဒါ ရုပ်ရှစ်ခုအပေါင်း ပါဝင်တယ်၊ ဘယ်လောက်သေးသေး၊ အဲဒါ ရုပ်ရှစ်ခုအပေါင်းပဲ၊ ကိုယ်ထဲမှာလည်းပဲ ကမ္မဇ မဟုတ်တဲ့ ရုပ်တွေရှိတယ်၊ အဲဒီအထဲမှာ ပထဝီလွန်ကဲနေလို့ရှိရင် ခက်မာကြမ်း တမ်းတာ၊ နူးညံ့တာက ထင်ရှားတယ်၊ အာပေါလွန်ကဲရင်လည်း အစို၊ အရည်တွေက ထင်ရှားတယ်၊ ရေလေးတစ်မှုန်ထဲမှာလည်း အဲဒီအဋ္ဌကလာပ် ရုပ်ရှစ်ခုကတော့ ရှိတာပဲ၊ တေဇော–အပူ အခိုးအငွေ့ထဲမှာလည်း ဒီရှစ်ခုပဲ၊ ဝါယော–လေထဲမှာလည်း ဒီရှစ်ခုပဲ။ အဲ လေထဲမှာတော့ အသေးစိတ်ခွဲလို့ မလွယ်ဘူး၊ သူက ပေါင်းလျက် စုလျက်ပဲ ဖြစ်နေတယ်၊ အမှုန်လေးလုပ်လို့ မရဘူး၊ ပထဝီတို့ အာပေါတို့ကတော့ အမှုန်လေးလုပ်လို့ရတယ်။

ရုပ်ဆိုရင်တော့ အဆင်းလည်းရှိတာပဲ၊ အဲဒီအဆင်းကို မျက်စိ မကောင်းလို့ မမြင်ရင်သာရှိမယ်၊ မြင်နိုင်ကောင်းတဲ့ အဆင်းတော့ သူ့မှာ

ရှိတယ်၊ အနံ့သဘောလည်းရှိတာပဲ၊ တချို့ နမ်းကြည့်ပေမယ်လို့ အနံ့က မထင်ရှားဘူး၊ ဒါပေမယ့် သူ့မှာ အနံ့ကတော့ ရှိတာပဲ၊ သိမ်မွေ့တယ်၊ အရသာလည်း ရှိတာပဲ၊ လျှာပေါ်တင်ကြည့်သော်လည်း တချို့ အရသာ မပေါ်ဘူး၊ ဒါပေမယ့်လို့ အရသာ သဘောတော့ရှိတာပဲ၊ သဲလုံးကို လျှာပေါ် တင်ကြည့်ရင် အရသာမရှိဘူးလို့ ပြောမှာပဲ၊ ဒါပေမယ့်လို့ အဲဒီအထဲမှာ အရသာရုပ်ဆိုတာရှိတယ်၊ ဩဇာဆိုတာကတော့ အာဟာရရုပ်ပဲ၊ အာဟာရကို ဖြစ်စေနိုင်တဲ့ရုပ်တဲ့၊ ဒါလည်းရှိတာပဲ။

အဲဒီရှစ်ခုကို ပါဠိနဲ့ဆိုရင် ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယော၊ ဝဏ္ဏ၊ ဂန္ဓ၊ ရသ၊ ဩဇာတဲ့၊ အဲဒါ အဋ္ဌကလာပ်ရုပ်ရှစ်ခုအပေါင်းပဲ၊ ဒီရုပ်ရှစ်ခုကတော့ ဘယ်လောက် သေးငယ်တာဖြစ်ဖြစ် ရုပ်သာဆိုလို့ရှိရင်တော့ ဒီရုပ်ရှစ်ခုဟာ တစ်ပေါင်းတစ်စည်းထဲ ပါရှိနေတယ်လို့သာ မှတ်ဖို့ပါပဲ၊ အဲဒီရုပ်ရှစ်ခုအပေါင်းကို ပါဠိလို သုဒ္ဓဋ္ဌက ကလာပ်လို့ ခေါ်တယ်။

အဲ သုဒ္ဓဋ္ဌက ကလာပ်ရှစ်ခုထဲကို ဇီဝိတ အသက်ရုပ်တစ်ခု ထည့်လိုက်ရင် ရုပ်ကိုးခု ဖြစ်သွားတယ်၊ အဲဒီကိုးခုအပေါင်းကို ကျမ်းဂန်တွေမှာ ဇီဝိတနဝကကလာပ်လို့ ဆိုပါတယ်၊ ကံကြောင့်ဖြစ်တဲ့ ကမ္မဇကလာပ်တဲ့၊ အဲဒီမှာ ပါစက တေဇောပါတယ်လို့ ဆိုပါတယ်။ ပါစကတေဇောဆိုတာ အစာကို ကျက်စေတတ်တဲ့ ဝမ်းမီးပေါ့၊ ကဲ ဆိုရမယ်။

"အသက်နှင့်တကွ၊ ထိုအဋ္ဌ၊ နဝရုပ်ကလာပ်"(ဆို ၃-ခေါက်)

ပြဟ္မာတွေကို ပြတဲ့နေရာမှာ ဇီဝိတနဝကကလာပ်ရုပ်ကိုလည်း ပြပါတယ်၊ ကာမသတ္တဝါတွေမှာတော့ ဇီဝိတနဝကကလာပ်ကို သီးခြား မပြပါဘူး၊ ဒွတ္တိံသာကာရ ၃၂-ပါးသောအခြင်းအရာတွေကို ပြတဲ့နေရာကျ တော့ပြ ပါတယ်၊ အဲဒီမှာ ဇီဝိတနဝကကလာပ်တွင် ပါစကတေဇောရှိတယ်ဆိုပြီးတော့ ပြထားပါ တယ်။

"အကြည်ဘာဝ၊ ဟဒယ၊ ဒသရုပ်ကလာပ်"တဲ့၊ အကြည်ရယ်၊

ဘာဝရယ်၊ ဟာဒယရယ်၊ အဲဒါ တိုတိုနဲ့ မှတ်လွယ်အောင် ချုံးပြီးတော့ ဆိုထားတယ်၊ အကြည်ရုပ်ကငါးခု၊ ဘာဝရုပ်က နှစ်ခု၊ ဟာဒယရုပ်က တစ်ခု၊ အဲ ရှစ်ခုရှိသွားပြီ၊ ပြီးတော့ ဇီဝိတကဆိုခဲ့ပြီ၊ အဲဒါက တစ်ခု၊ ပေါင်းတော့ ကိုးခုရှိတယ်၊ အဲဒီကိုးခုကို အဋ္ဌကလာပ်ရုပ် ရှစ်ခုကိုထည့်ရမယ်၊ ထည့်တဲ့ အခါမှာ မျက်စိအကြည်ရယ်၊ ဇီဝိတရယ်၊ အဋ္ဌကလာပ်၊ ရှစ်ခုရယ် ပေါင်း ဆယ်ခု၊ အဲဒါ ဒသက ကလာပ်တစ်ခုပဲ၊ နောက် ဒီအတိုင်း နား အကြည်ရယ်၊ ဇီဝိတရယ်၊ အဋ္ဌက ကလာပ်ရယ် ဆယ်ခု၊ သူက ဒသရုပ် တစ်ခု၊နှာအကြည် ရယ်၊ဇီဝိတရယ်၊ အဋ္ဌကကလာပ်ရှစ်ခုရယ် ဆယ်ခု၊သူက ဒသရုပ်တစ်ခု၊ လျှာအကြည်ရယ် ဇီဝိတရယ် အဋ္ဌကလာပ်ရယ် ရှစ်ခုရယ် ဆယ်ခု၊ သူက ဒသရုပ်တစ်ခု၊ နောက် ကိုယ်အကြည်ရယ်၊ ဇီဝိတရယ်၊ အဋ္ဌကလာပ်ရယ် ဆယ်ခု၊ သူက ဒသရုပ်တစ်ခု၊ နောက် ဣတ္ထိဘာဝရယ်၊ ဇီဝိတရယ်၊ အဋ္ဌကကလာပ်ရယ်၊ ဆယ်ခု၊ သူက ဒသရုပ်တစ်ခု၊ နောက် ပုမ္ဘာဝရယ်၊ ဇီဝိတရယ်၊ အဋ္ဌက ကလာပ်ရယ် ဆယ်ခု၊ နောက် ဟာဒယရယ်၊ ဇီဝိတရယ်၊ အဋ္ဌကကလာပ်ရယ်၊ ဆယ်ခု၊ သူက ဒသရုပ်တစ်ခု၊ ဒသကကလာပ်ဘယ်နှစ်ခု ရှိသွားပြီးလဲဆိုရင် ရှစ်ခုရှိသွားပြီ၊ အဲဒါတွေဟာ ကမ္မဇကံကြောင့် ဖြစ်တာတွေ၊ စိတ်ကြောင့်လည်း မဟုတ်၊ ဥတုကြောင့်လည်း မဟုတ်၊ အာဟာရကြောင့် လည်း မဟုတ်ဘူး၊ ကံကြောင့် ဖြစ်တဲ့ ရုပ်ကလာပ်တွေတဲ့၊ ကဲဆိုရမယ်။

"အကြည် ဘာဝ၊ ဟာဒယ ဒသ ရုပ်ကလာပ်"(ဆို ၃–ခေါက်)

ဒါ ဝိပဿနာရှုတဲ့ ကလာပ်တွေ၊ ဒီတော့ သူကအရေးကြီးတယ်၊ မျက်စိက မြင်တိုင်း၊ မြင်တိုင်း၊ မြင်တယ်၊ မြင်တယ်ဆိုရင် မျက်စိရုပ်ရယ်၊ မြင်စရာရုပ်ရယ်၊ ဒီလောက်သာမကဘူး၊ ပထဝီစတဲ့ ဘုတ် ၄–ပါးရယ်၊ အဆင်း၊ အနံ့ အရသာရယ်၊ ဩဇာရယ်၊ ဇီဝိတရယ်၊ မျက်စိအကြည်ရယ် အဲဒီလို ကလာပ်ရုပ်တွေတစ်ပေါင်းတည်း ပါဝင်နေတယ်၊ အဲဒါကို သိထား ရမယ်၊ ဘယ်လောက်ပဲသေးငယ်တဲ့ ရုပ်ကလေးဖြစ်ဖြစ် ဒီအခါကာလမှာ

ဒီရုပ်ဆယ်ခုအပေါင်းကတော့ ပါဝင်လျက်ပဲရှိတယ်၊ နားရုပ်ကလည်း ဆယ်ခု အပေါင်း နှာခေါင်းရုပ်ကလည်း ဆယ်ခုအပေါင်း၊ လျှာရုပ်ကလည်း ဆယ်ခု အပေါင်း ကိုယ်ရုပ်ကလည်း ဆယ်ခုအပေါင်း အဲဒါအားလုံးလည်း တစ်ဆယ် ချည်းပဲ။

ယောကျ်ားဖြစ်ကြောင်းရုပ်၊ မိန်းမဖြစ်ကြောင်းရုပ်–အဲဒီ ဘာဝရုပ် ဆိုတာကတော့ တစ်ကိုယ်လုံး ပျံ့နှံ့နေတယ်လို့ဆိုတယ်၊ ပဋိသန္ဓေကတည်းက ပါလာတဲ့ရုပ်တဲ့၊ အဋ္ဌကထာက ဒီလိုဆိုပါတယ်၊ ယောကျ်ားဖြစ်မယ့် ပုဂ္ဂိုလ် တွေက ပုမ္ဘာဝရုပ်၊ မိန်းမဖြစ်မယ် ပုဂ္ဂိုလ်တွေက ဣတ္ထိဘာဝရုပ်ဟာ ပဋိသန္ဓေ ကတည်းက စပြီးတော့ ဖြစ်လာတယ်၊ အဲဒီ ဘာဝရုပ်ရယ်၊ ဇီဝိတရုပ်ရယ်၊ အဋ္ဌကကလာပ်ရုပ် ရှစ်ခုရယ် အဲဒါလည်း တစ်ဆယ်စီပဲ။

စိတ်ကူးစဉ်းစားကြံစည်မှု၏ တည်ရာ ဟဒယနှလုံးရုပ်ရယ်၊ ဇီဝိတ ရုပ်ရယ်၊ အဋ္ဌက ကလာပ်ရုပ်ရှစ်ခုရယ်၊ အားလုံးပေါင်း သူတို့လည်း တစ်ဆယ် စီပဲ၊ ဒသက ကလာပ်တွေ ဘယ်လောက်ရှိသွားပြီလဲ၊ အားလုံး ရှစ်ခုရှိသွားပြီ၊ အဲဒီ ဒသက ကလာပ်တွေဟာ စိတ်ကြောင့်ဖြစ်တာလည်း မဟုတ်ဘူး၊ ဥတု ကြောင့်ဖြစ်တာလည်း မဟုတ်ဘူး၊ အာဟာရကြောင့် ဖြစ်တာလည်း မဟုတ်ဘူး၊ ရှေးကပြုခဲ့ကြတဲ့ ကံကြောင့်ဖြစ်တဲ့ ကမ္မဇကလာပ်တွေတဲ့။

ရှေးကုသိုလ်ကံရှိတဲ့ ပုဂ္ဂိုလ်တွေဆိုရင် ကုသိုလ်ကံကြောင့် မျက်စိ၊ နား၊ နှာ စသည်ဖြစ်တယ်၊ အကုသိုလ်ကံရှိတဲ့ ပုဂ္ဂိုလ်တွေဆိုရင် အကုသိုလ် ကံကြောင့် မျက်စိ၊ နား၊ နှာ စသည်ဖြစ်တယ်၊ လူတို့၊ နတ်တို့မှာတော့ ကုသိုလ်ကံကြောင့် အဲဒါတွေ ဖြစ်ရတယ်ပေါ့လေ၊ အဲ ကံကြောင့်ဖြစ်တဲ့ ကမ္မဇ ကလာပ်ကိုးခုတဲ့၊ အဲဒါ မှတ်ထားဖို့ပါပဲ။

"အသံနှင့်တကွ၊ ထိုအဋ္ဌနဝ ရုပ်ကလာပ်"တဲ့၊ အဆင်းရယ်၊ အနံ့ ရယ်၊ အရသာရယ်၊ ဩဇာရယ်၊ ဘုတ်လေးပါးရယ်၊ အဲဒီရှစ်ခု သက်သက်က ကလာပ်တစ်ခု၊ သူကို ပါဠိလို သုဒ္ဓဋ္ဌက ကလာပ်လို့ခေါ်တယ်၊ အဲဒီရှစ်ခုနဲ့

အသံနဲ့ပေါင်းရင် ကိုးခုဖြစ်တယ်၊ "ထိုရှစ်ကိုးမှာ၊ ဝိညတ်ပါ၊ ကိုးဖြာဆယ် ကလာပ်"တဲ့၊ ရှစ်ခုထဲမှာ တစ်ခါ ကိုယ်အမူအရာပါတဲ့ ကာယဝိညတ်ဆိုတာ ထည့်လိုက်ရင် ကိုးခုအပေါင်း ကလာပ်တစ်ခုဖြစ်တယ်၊ အဲဒါ ပါဠိလို ကာယ ဝိညတ္တိနဝကကလာပ်တဲ့၊ သူကတစ်ခု၊ နောက်နှုတ်က ပြောတဲ့အခါကာလမှာ အဲဒီအထဲ ဝစီဝိညတ်လည်းပါတယ်၊ အသံလည်းပါတယ်၊ ရုပ်ရှစ်ခု လည်း ပါတယ်၊ အဲ-သူက ရုပ်ဆယ်ခုအပေါင်းပဲ၊ ပါဠိနဲ့တော့ ဝစီဝိညတ္တိ သဒ္ဒဒသက ကလာပ်တဲ့၊ သူက ကလာပ်တစ်ခု၊ အဲဒါဆိုရမယ်။

"အသံနှင့်တကွ၊ ထိုအဋ္ဌ နဝရုပ်ကလာပ်"

"ထို ရှစ်ကိုးမှာ၊ ဝိညတ်ပါ၊ ကိုးဖြာဆယ်ကလာပ်" (ဆို ၃-ခေါက်)

ထိုရှစ်ခုဆိုတာ အဋ္ဌကလာပ်ရုပ်၊ အဲဒီရှစ်ခုထဲမှာ အသံထည့်ရင် နဝကိုးခုဖြစ်တယ်၊ အဲဒီ ရှစ်ခု၊ ကိုးခုထဲမှာတဲ့၊ ရှစ်ခုထဲ ကာယဝိညတ်ထည့်တော့ ကိုးဖြာပေါ့၊ ကိုးခု၊ နောက်အသံနဲ့ ဝစီဝိညတ်ကိုထည့်ရင် ရုပ်ဆယ်ခုအပေါင်း၊ အဲဒါဆယ်ကလာပ်၊ သူက ကလာပ်တစ်ခု၊ ဒါကြောင့် ကိုးခုကလာပ်လည်း ရှိတယ်၊ ဆယ်ခု ကလာပ်လည်းရှိတယ်။

ပါဠိလို သုဒ္ဓဋ္ဌက ကလာပ်ကတစ်ခု၊ နဝက ကလာပ်ကတစ်ခု၊ ဒသက ကလာပ်ကတစ်ခု၊ သုံးခုရှိသွားပြီ၊ နောက်ထည့်စရာလေးတွေ ရှိသေး တယ်၊ "ပေါ့၊ နု၊ နံ့ပါ၊ ပါဝင်ရာ၊ ဆယ့်တစ်ဖြာစသည်မှတ်"တဲ့၊ အဲဒါလေးတွေ ထည့်ပေးရမယ်၊ ခုနက ပြောခဲ့တဲ့ ကလာပ်သုံးမျိုးထဲမှာ ပေါ့ရုပ် ရယ်၊ နုရုပ်ရယ်၊ နံ့ရုပ်ရယ်၊ အဲဒီသုံးရုပ်ပါဝင်လာလို့ရှိရင် အစဉ်အတိုင်း ဆယ့်တစ်ဖြာ၊ ဆယ့် နှစ်ဖြာ၊ ဆယ့်သုံးဖြာ၊ ဖြစ်သွားတယ်လို့ မှတ်ပါတဲ့။

ရှစ်ခုကလာပ်ထဲမှာ ပေါ့ရုပ်၊ နုရုပ်၊ နံ့ရုပ်၊ အဲဒီသုံးရုပ်ထည့်လိုက်ရင် ဆယ့်တစ်ခု၊ ကိုးခုကလာပ်ထဲမှာ အဲဒီသုံးရုပ်ထည့်လိုက်ရင် ဆယ့်နှစ်ခု၊ ဆယ်ခုကလာပ်ထဲမှာ အဲဒီသုံးခုထည့်လိုက်ရင် ဆယ့်သုံးခု ဖြစ်သွားတယ်၊ အခု နောက်တိုးကလာပ်သုံးခုကို အရင်ဆိုခဲ့တဲ့ ကလာပ်သုံးခု ထည့်ပေါင်း ရေတွက်လိုက်ရင် ကလာပ်ခြောက်ခု ဖြစ်သွားတယ်၊ အဲဒီကလာပ်ခြောက်ခုဟာ

စိတ်ကြောင့်ဖြစ်တဲ့ ကလာပ်တွေတဲ့၊ ကဲ ဆိုရမယ်။

"ပေါ့၊ နု၊ ခံ့ပါ၊ ပါဝင်ရာ၊ ဆယ့်တစ်ဖြာ စသည်မှတ်"

(ဆို ၃-ခေါက်)

ပေါ့၊ နု၊ ခံ့ဆိုတာ အစဉ်အတိုင်း ပါဠိလို လဟုတာရုပ်၊ မုဒုတာရုပ်၊ ကမ္မညတာရုပ်၊ များပါပဲ၊ စိတ္တဇကလာပ် ခြောက်ခု၊ ပြီးသွားပြီ။

ဥတုကြောင့်လည်း ရုပ်ကလာပ်တွေက ဖြစ်သေးတယ်၊ အဲဒါကတော့ လေးခုထဲ၊ သူ့ကျတော့ လွယ်သွားပါပြီ၊ ရှစ်ခုကလာပ်က တစ်ခု၊ အသံနဲ့တကွ ကိုးခုကလာပ်က တစ်ခု၊ အဲဒါကို သီခြားနှစ်ခုထားပြီးတော့ ရှစ်ခုထဲမှာပေါ့၊ နု၊ ခံ့ ထည့်ရင် ဆယ့်တစ်က ကလာပ်တစ်ခု၊ ကိုးခုထဲမှာ ပေါ့၊ နု၊ ခံ့ ထည့်လိုက်ရင် ဆယ့်နှစ်က ကလာပ်တစ်ခု၊ အဲ လေးခုဖြစ်သွားပါပြီ၊ အဲဒီလေးခုဟာ ဥတုကြောင့်ဖြစ်တဲ့ ကလာပ်တွေတဲ့။

ပြီးတော့ အာဟာရကြောင့်လည်း ရုပ်ကလာပ်တွေက ဖြစ်သေးတာပဲ၊ သုဒ္ဓဋ္ဌက ဆိုတဲ့ ရှစ်ခုကတစ်ခု၊ အဲဒီရှစ်ခုထဲမှာ ပေါ့၊ နု၊ ခံ့၊ သုံးခုထည့်လိုက်တော့ ဆယ့်တစ်ခု ဖြစ်တယ်၊ အဲဒီက ကလာပ်တစ်ခု၊ ပေါင်းအာဟာရ ကြောင့်ဖြစ်တဲ့ အာဟာရဇကလာပ် နှစ်ခုတဲ့၊ ဒါပဲ အာဟာရဇက ဒီနှစ်ခုပဲ ရှိတယ်၊ ကလာပ်တွေကို အားလုံးပေါင်းလိုက်ရင်--

"ကမ္မဇကိုး၊ စိတ်ခြောက်မျိုးနှင့်၊ လေးမျိုးဥတု၊ နှစ်ခုအာဟာ ပေါင်းယူရာ၊ ကလာပ်နှစ်ဆယ့်တစ်"တဲ့။

ကမ္မဇ-ကံကြောင့်ဖြစ်တဲ့ ကလာပ်က ကိုးခု၊ စိတ္တဇ-စိတ်ကြောင့်ဖြစ်တဲ့ ကလာပ်က ခြောက်ခု၊ ဥတုဇ-ဥတုကြောင့်ဖြစ်တဲ့ကလာပ်က လေးခု၊ အာဟာရဇ-အာဟာရကြောင့်ဖြစ်တဲ့ ကလာပ်ကနှစ်ခု၊ ပေါင်းနှစ်ဆယ့် တစ်ခု ရှိတယ်၊ ဒီကလာပ် နှစ်ဆယ့်တစ်ခုထဲတွင် သုဒ္ဓဋ္ဌက-ရှစ်ခုကလာပ်နဲ့ သဒ္ဒ နဝက-အသံပါကိုးခုကလာပ် နှစ်ခုတို့မှာ ဗဟိဒ္ဓအပြင်မှာရော၊ ကိုယ်တွင်း အဇ္ဈတ္တမှာရော ဖြစ်နိုင်တယ်၊ ကျန်တဲ့ကလာပ် တစ်ဆယ့်ကိုးခုကတော့ ကိုယ်

အတွင်း အဇ္ဈတ္တမှာချည်းဖြစ်နိုင်တယ်တဲ့။

"ဝိညတ်ဆိုင်ရာ၊ ကလာပ်မှာ၊ စိတ်သာဖြစ်ကြောင်းမှတ်"တဲ့၊ ကလာပ်အမည်တွေက ဥတုဇကလည်း စိတ္တဇနဲ့ရောပြီးတော့ ပါနေတယ်၊ ဝိညတ်လည်း ဥတုဇကြောင့် ဖြစ်သလားလို့ မေးစရာရှိတာနဲ့ ဒါလေးကို ထပ်ပြီးတော့ ဖြေထားတယ်၊ ဝိညတ်ပါလို့ရှိရင် စိတ္တဇပဲ၊ ဥတုဇမဟုတ်ဘူး၊ ဥတုဇမှာ မပါဘူး၊ ဒါကို ခြွင်းချက်နဲ့ ပြန်နုတ်ထားတယ်၊ ကဲ ဆိုရမယ်–

"ဝိညတ်ဆိုင်ရာ၊ ကလာပ်မှာ၊ စိတ်သာဖြစ်ကြောင်းမှတ်"

(ဆို ၃–ခေါက်)

စိတ္တဇ၊ ဥတုဇ၊ အာဟာရဇကလာပ်လို့ ၁၁–၁၂–၁၃ တို့မှာ ဥတုဇ ပါသွားတယ်။ ဝိညတ်ပါလို့ရှိရင် ဥတုဇမဟုတ်ဘူး၊ စိတ္တဇပဲ၊ ဒါလေးကို မှတ်ထား၊ ပြန်နုတ်ထားတယ်။ ခြွင်းချက်ကလေးပေါ့လေ။

ပြီးတော့ "ပေါ့၊ နု၊ ခံ့သာ၊ ဝိညတ်ပါ၊ ပြင်မှာမရှိပါ"တဲ့၊ ပေါ့တဲ့ရုပ်၊ နုတဲ့ရုပ်၊ ခံ့တဲ့ရုပ်၊ ကာယဝိညတ်၊ ဝစီဝိညတ်ရုပ် အဲဒီရုပ်ငါးခုဟာ အပြင်ဗဟိဒ္ဓမှာ မရှိဘူး၊ သတ္တဝါတို့ အဇ္ဈတ္တ ကိုယ်တွင်းမှာသာ ရှိတယ်တဲ့၊ အဲဒါဆိုရမယ်။

"ပေါ့၊ နု၊ ခံ့သာ၊ ဝိညတ်ပါ၊ ပြင်မှာ မရှိပါ" (ဆို ၃–ခေါက်)

ဒီတော့ အပြင်ဗဟိဒ္ဓမှာ ဘာတွေရှိတော့တုန်းဆိုတော့ အဋ္ဌကလာပ်ရုပ်နဲ့ သဒ္ဒနဝကကလာပ်ရုပ် ဒီနှစ်ခုပဲရှိတော့တယ်၊ ဒါလေးတွေကိုလည်း မှတ်ထားရမယ်။

## ပဋိသန္ဓေအခါ စဖြစ်တဲ့ ကလာပ်ရုပ်

"ဂဗ္ဘသေယျာ၊ သန္ဓေမှာ၊ ကာ၊ ဘာ၊ ဝတ်သုံးမည်"တဲ့၊ ဂဗ္ဘသေယျက ပုဂ္ဂိုလ်တွေ ပဋိသန္ဓေနေကာစမှာ ပဋိသန္ဓေစိတ်နဲ့အတူ တစ်ပေါင်းတည်း တစ်ခါတည်းဖြစ်တဲ့ ရုပ်ကလာပ် ဘယ်နှစ်ခုဖြစ်တုန်းဆိုတော့ သုံးခုတဲ့၊ ကာယဒသက၊ ဘာဝဒသက၊ ဝတ္ထုဒသက အဲဒီ ကလာပ်သုံးခုဖြစ်တယ်တဲ့။

ကာ–ကာယဒသက ကိုယ်အကြည်ရုပ်နှင့်တကွ တစ်ဆယ်၊ ဘာ ဣတ္ထိဘာဝ ဒသက အမဖြစ်မည်ဆိုလျှင် အမဖြစ်ကြောင်း ရုပ်နှင့်တကွ တစ်ဆယ်၊ ပုမ္ဘာဝဒသက–ယောကျ်ားဖြစ်မည်ဆိုလျှင် ယောကျ်ားဖြစ်ကြောင်း ရုပ်နှင့်တကွ တစ်ဆယ်၊ အဲဒါက ပုဂ္ဂိုလ်အလိုက် တစ်ခုသာဖြစ်မယ်၊ ဝတ်–ဝတ္ထု–ဟဒယ ဝတ္ထု ဒသက–ပဋိသန္ဓေစိတ်၏ တည်ရာမှီရာ ဖြစ်တဲ့ နှလုံးရုပ်နှင့်တကွ တစ်ဆယ်၊ အဲဒီ ကလာပ်သုံးခုစည်း ရုပ်ပေါင်းသုံးဆယ်ပေါ့လေ၊ အမိဝမ်းတွင်း ပဋိသန္ဓေနေစကတည်းက တစ်ပေါင်းတည်း အရင်းတည်ပြီးတော့ ဖြစ်လာတယ်၊ အဲဒါကို လက်သည်းကွင်းနဲ့ အဓိပ္ပာယ် ဖော်ထားပါတယ်၊ ကဲ ဆိုရမယ်–

"ဂဗ္ဘသေယျာ၊ သန္ဓေမှာ၊ ကာ၊ ဘာ၊ ဝတ်သုံးမည်"

(ဆို ၃–ခေါက်)

ဂဗ္ဘသေယျကပုဂ္ဂိုလ်တွေ အမိဝမ်းတွင်းမှာ ပဋိသန္ဓေစိတ်နှင့်တကွ တစ်ပြိုင်နက်ဖြစ်တဲ့ ရုပ်ကလာပ်သုံးခု၊ တစ်ခုတစ်ခုလျှင် တစ်ဆယ်၊ အားလုံး သုံးဆယ်ပေါ့လေ၊ ဒါပေမယ့်လို့ တစ်ဆယ်၊ တစ်ဆယ်သာဆိုတယ် အမျိုးတူ ကလာပ်တွေကတော့ အများကြီးနေမှာပါပဲ၊ ဒီ ရုပ်ကလာပ်သုံးစည်းနဲ့ စတည်ပြီး တော့ လူရယ်လို့ ဖြစ်လာကြတယ်တဲ့၊ မှတ်သားဖို့ရာကအစ ဖြစ်ကာစမှာ သိမ်သိမ်မွေ့မွေ့ သေးသေးလေးကစပြီးတော့ ဖြစ်လာခဲ့ကြတာ၊ အဲဒီက စပြီးတော့ တဖြည်းဖြည်း ပွားစီးလာတဲ့အခါ မျက်စိတို့၊ နားတို့၊ နှာခေါင်းတို့၊ လျှာတို့၊ ကိုယ်တို့ဆိုတဲ့ အကြည်ဝတ္ထုရုပ်တွေအထိ ပွားစီးလာတယ်၊ ဒါတွေ ဘယ်အခါလောက်မှာ ဖြစ်လာကြသလဲဆိုရင်၊ အဲ ကိုယ်ကတော့ပါသွားပြီ၊ အဋ္ဌကထာဆရာက "သတ္တသတ္တတိ ရတ္တိမှိ" ခုနစ်ဆယ်နဲ့ ခုနစ်ခုမြောက် ညဥ့်ကျမှ ဖြစ်တယ်တဲ့၊ ခုနစ်ဆယ့်ခုနစ်ခုမြောက် သတ္တာဟဆိုတော့ ပဋိသန္ဓေ တည်နေပြီးနောက် ကောဒသမသတ္တာဟ လောက်မှာပေါ့၊ ခုနစ်ဆယ့်ခုနစ်ရက် မြောက် ညဥ့်ကျမှပဲ အဲဒီ မျက်စိတို့၊ နားတို့၊ နှာခေါင်းတို့၊ စတဲ့ ရုပ်တွေဖြစ်

တယ်လို့ ဆိုပါတယ်၊ စတည်တည်ချင်း ရုပ်သေးသေးလေးဆိုတော့ မျက်စိစတဲ့ အကြည်ရုပ်တွေ မရှိသေးဘူးတဲ့၊ တချို့မျက်စိကွယ်တဲ့ပုဂ္ဂိုလ်တွေ စက တည်းက မဖြစ်ခဲ့တာတွေလည်း ရှိတယ်၊ ရှိပြီးမှ ပျက်တာတွေလည်း ရှိတာပဲ။

## သံသေဒဇနဲ့ ဩပပါတ်ပုဂ္ဂိုလ်တို့ ပဋိသန္ဓေကာလ

အမိဝမ်းတွင်း ပဋိသန္ဓေနေတဲ့ ပုဂ္ဂိုလ်အပြင် သံသေဒဇပုဂ္ဂိုလ်တို့ ဩပပါတ်ပုဂ္ဂိုလ်တွေဆိုတာလည်း ရှိသေးတယ်၊ သံသေဒဇပုဂ္ဂိုလ်ဆိုတာ အညှိကိုစွဲပြီးတော့ဖြစ်တာ၊ ပိုးလောက်လေးတွေ စသည်ပေါ့၊ ဩပပါတ်ဆိုတာ ကတော့ တစ်ခါတည်းကိုယ် ထင်ရှားဖြစ်လာတာ၊ တစ္ဆေတို့၊ နတ်တို့၊ ဗြဟ္မာတို့ ဒီလိုပုဂ္ဂိုလ်တွေတစ်ခါတည်း ဖြုန်းဆို ကိုယ်ကောင်အထည်ကြီးပါ အပြည့် အစုံဖြစ်လာတာ၊ အဲဒီပုဂ္ဂိုလ်တွေကျတော့ ပဋိသန္ဓေကလာပ်ပေါင်း ခုနစ်စည်း တစ်ခါတည်း ဖြစ်လာကြတယ်တဲ့။

"သံသေ၊ ဩပပါတ်၊ ပြည့်စုံလတ်၊ ကလာပ်ခုနစ်မည်" အပြည့်အစုံ ဖြစ်လာမယ်ဆိုရင် ကလပ်ခုနစ်စည်းလုံး ဖြစ်တာပဲ၊ သို့သော်လည်း အဲဒီပုဂ္ဂိုလ် တွေမှာ ကံမကောင်း အကြောင်းမသင့်ပြန်ရင် မျက်စိချို့ချင်လည်း ချို့နေမယ်၊ နားချို့ချင်လည်းချို့နေမယ်၊ အဲဒီလိုကျရင် မျက်စိကလာပ်၊ နားကလာပ်မပါ နိုင်ဘူးပေါ့၊ အဲဒီလို လျော့နေတာတွေလည်းရှိတာပဲ၊ အပြည့်အစုံ ဆိုလို့ရှိ ရင်တော့ ကလာပ်ခုနစ်စည်းတဲ့၊ အဲဒါ ဆိုရမယ်။

"သံသေ၊ ဩပပါတ်၊ ပြည့်စုံလတ်၊ ကလာပ်ခုနစ်မည်"

(ဆို ၃-ခေါက်)

ကမ္မဇ-ကံကြောင့် ဖြစ်တဲ့ ကလာပ်က ရှစ်ခုရှိတယ်၊ ဘာဝကလာပ် နှစ်ခုက တစ်ပြိုင်နက် တစ်ဦးတည်းမှာ ဖြစ်နိုင်တာ မဟုတ်ဘူး၊ တစ်ဦးမှာ ဘာဝကလာပ် တစ်ခုသာ ဖြစ်နိုင်တယ်၊ အမိုဖြစ်မည့်ပုဂ္ဂိုလ်ဆိုရင် ပုမ္ဘာဝကလာပ်၊ အမဖြစ်မည့်ပုဂ္ဂိုလ်ဆိုရင် ဣတ္ထိဘာဝကလာပ်၊ ဒီလို တစ်ခုချင်းသာ ဖြစ်ရတယ်၊

ဒါကြောင့် ရှစ်ခုပဲရှိတယ်၊ ပဋ္ဌာနဒေသနာအခါမှာ သံသေဒဇ၊ ဩပပါတ်ပုဂ္ဂိုလ်တွေဆိုရင် စက္ခုဒသက၊ သောတဒသက၊ ဃာနဒသက၊ ဇိဝှါဒသက၊ ကာယဒသက၊ ဘာဝဒသက၊ ဝတ္ထုဒသကကလာပ်၊ ဒီခုနစ်စည်း၊ အဲဒါ အပြည့်အစုံဖြစ်ရင် ဒီခုနစ်စည်းပဲ ဖြစ်တယ်၊ ဒီထက်လျှော့လို့လည်း မဖြစ်ဘူး၊ ဒီထက်တိုးလို့လည်း မဖြစ်ဘူး၊ ဒါကြောင့် ဟိုမှာ လက်သည်းကွင်းနဲ့ ပြထားတယ်၊ ဒသကကလာပ်ခုနစ်စည်းဆိုတာ ရှစ်ခုနစ်ဆယ်ပေါ့၊ သံသေဒဇ၊ ဩပပါတ်ပုဂ္ဂိုလ်တွေဆိုတာ ဒီက စဖြစ်တာ၊ ဒါလည်း အမှုန်လေး ခုနစ်ခုတင် မဟုတ်ဘူး၊ အကောင်အထည်ကြီးလိုက် အပြည့်အစုံပဲ၊ ကာယတို့၊ ဘာဝတို့ဆိုတာများ ကြီးနေမှာပေါ့၊ နည်းနည်းလေး မဟုတ်ဘူး။

စက္ခုကလည်း သူ့မျက်စိအကြည်ရှိသလောက် ပျံ့နှံ့တဲ့ မျက်စိအကြည်ဖြစ်နေတာ၊ နားအကြည်ကလည်း နားထဲမှာ ပျံ့နှံ့တည်နေတာ၊ နှာခေါင်းအကြည်ကလည်း နှာခေါင်းထဲမှာ ပျံ့နှံ့တည်နေတာ၊ သူ့နေရာဌာနနဲ့သူ အကြည်ရုပ်တွေက ပျံ့နှံ့ပြီးတော့ တည်နေကြတာပဲ၊ တစ်မှုန်တည်း သေးသေးလေးနေမှာ မဟုတ်ဘူး၊ ဇိဝှာတို့၊ ကာယတို့၊ ဟဒယတို့ဆိုတာလည်း ဒီအတိုင်း သူ့ဌာနနဲ့သူ ပျံ့နှံ့တည်နေကြမှာပဲ၊ ကာယဆိုရင် ကိုယ်ကြီးက ကြီးသလောက် ကာယအကြည်ဟာလည်း အများကြီး ပျံ့နှံ့တည် နေကြမှာပဲပေါ့၊ ဒါပေမယ့်လို့ ကလာပ်အနေအားဖြင့်တော့ ခုနစ်ခု ခုနစ်ခုပဲ၊ တစ်ခုတစ်ခုကို ဆယ်ခုဆယ်ခုပဲ တွက်ထားတယ်၊ ကလာပ်ခုနစ်ခု ရုပ်ပေါင်း ခုနစ်ဆယ် ကစပြီးတော့ဖြစ်တယ်တဲ့၊ ဒါ- သံသေဒဇပုဂ္ဂိုလ်တွေ ပဋ္ဌာနဒေသနာ၏ အခါမှာဖြစ်တဲ့ ကလာပ်တွေပဲ၊ သံသေဒဇဆိုတာ အညှိကဖြစ်တဲ့ ပုဂ္ဂိုလ် သတ္တဝါတွေ-တဲ့။

ဩပပါတ်ဆိုတာကတော့ ဖြုန်းခနဲ ခုန်ချလာသလို ဘွားခနဲ ရုပ်အပြည့်အစုံဖြစ်လာတဲ့ပုဂ္ဂိုလ်တွေ-တဲ့၊ အဲဒါ တစ္ဆေတို့၊ သရဲတို့၊ နတ်တို့၊ ဗြဟ္မာတို့လို ပုဂ္ဂိုလ်တွေပေါ့၊ သူတို့ ပဋ္ဌာနဒေသနာက ဒီလိုဖြုန်းခနဲ ဖြစ်လာကြတာ၊

ဒါ–သူတို့ပဋိသန္ဓေပဲ၊ အဲဒါ နောက်သိတင်းကျမှဟောရဦးမယ်၊ သူကအရေး ကြီးတယ်၊ ဒါတွေအခု နားလည်အောင်ဆိုရင် သဂြိုဟ်ကို လေ့လာရတယ်၊ ဒီမှာ တိုတိုလေး အကျဉ်းချုံးထားတာပဲ။

## ရုပ်ကို ကာလစသည်ဖြင့် ခွဲခြင်း

အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်၊ အတွင်း၊ အပြင်၊ အကြမ်း၊ အနု အယုတ်၊ အမြတ်၊ အဝေး၊ အနီး ဖြစ်သော ဤရုပ်အပေါင်းအစုကို ရူပက္ခန္ဓာလို့ ခေါ်တယ်။ ရူပက္ခန္ဓာဆိုတာ ရုပ်အစု–တဲ့၊ ရုပ်တစ်ခုတည်းလည်း အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် သုံးခုဆိုတော့ တစ်စုရတယ်၊ အတွင်း၊ အပြင်၊ နှစ်ခုဆိုတော့ တစ်စုရတယ်၊ အကြမ်း၊ အနုဆိုတော့ တစ်စုရတယ်၊ အယုတ်၊ အမြတ် ဆိုတော့ တစ်စုရတယ်၊ အဝေးအနီးဆိုတော့ တစ်စုရတယ်၊ အဲဒီလို အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်စသည်ဖြင့် ပေါင်းစုပြီးတော့ ရုပ်တစ်ခုတည်းကိုလည်း ရူပက္ခန္ဓာလို့ခေါ်ရတယ်၊ အဲဒါကိုတော့ နောက်သိတင်းနေ့ကျမှ ပြည့်ပြည့်စုံစုံ ဟောရမယ်၊ ကဲ တစ်ခေါက်တော့ ဆိုလိုက်ကြဦးစို့။

"အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန်၊ အတွင်း၊ အပြင်၊ အကြမ်း၊ အနု၊ အယုတ်၊ အမြတ်၊ အဝေး၊ အနီးဖြစ်သော ဤရုပ်အပေါင်းအစုကို ရူပက္ခန္ဓာ ခေါ်သည်"။

ကဲ အဲဒါကို နောက်သိတင်းလပြည့်နေ့ကျမှာ ဟောရလိမ့်မယ်၊ ဟောတော့ ရူပက္ခန္ဓာ၊ နောက်ပြီးတော့ ဝိညာဏက္ခန္ဓာ၊ ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ–ဆိုတဲ့ စေတသိက်ခန္ဓာတွေရောပေါ့၊ အဲဒီခန္ဓာငါးပါး အကြောင်းတွေပဲ၊ အဲဒါတွေကို ဟောရင် ပရမတ်တရားတွေ ကုန်သွားတာပါပဲ၊ ခန္ဓာပြီးရင်လည်း အာယတနဝိဘင်းတို့ ဘာတို့ကို ဆက်ဟောလို့ရမှာ မဟုတ်ဘူး၊ အဲဒါတွေစာရွက်ထဲမှာ မပါဘူးထင်တယ်။ ဒီတော့ ကိုယ့်ဟာကို လေ့လာ မှတ်သားထားဦးပေါ့။ နောက်တစ်ခါပြောရင် လွယ်လွယ်ကူကူနဲ့သိအောင်

မေးလို့ရှိရင်လည်း ဖြေဆိုနိုင်အောင်လို့ပါပဲ၊ ကဲ–တရားသိမ်းကြစို့ရဲ့၊ ၂–နာရီ ကောင်းကောင်းရှိသွားပြီ။

ယနေ့အဖို့ အကျွန်ုပ်တို့ ပြုစုပွားများအားထုတ်အပ်သော သီလကုသိုလ်၊ ဘာဝနာကုသိုလ်၊ ဝေယျာဝစ္စကုသိုလ်။ ပ။ အမျှပေးဝေပါကုန်၏၊ အလုံးစုံသော သတ္တဝါအပေါင်းတို့သည် အမျှရကြ၍ ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာကြပါစေသော်။

အမျှ...အမျှ...အမျှ...ယူတော်မူကြပါကုန်လော့။

သာဓု...သာဓု....သာဓု.....။

## ၁၃၃၆–ခုနှစ်၊ ပြာသိုလ်လပြည့်နေ့မှစ၍ ဝါတော်စဉ်အရ ဟောကြားတော်မူသော

# အဘိဓမ္မာတရားတော်

## ကာမာဝစရကုသိုလ် ဝေဖန်ပုံ အကျဉ်းချုပ်

## ကောက်နုတ်ချက်

၁။ သောမနဿသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကစိတ်၊ သသင်္ခါရိက စိတ်၊ ဖြစ်ခိုက်၌ အမည်ထုတ်၍ ဟောထားသော တရားတို့မှာ–

ဖဿ၊ ဝေဒနာ၊ သညာ၊ စေတနာ၊ စိတ်၊ (ဖဿပဉ္စမက–၅)

ဝိတက်၊ ဝိစာရ၊ ပီတိ၊ (သုခ) ဧကဂ္ဂတာ၊ (ဈာနင်–၅)

သဒ္ဓါ၊ဝီရိယ၊သတိ၊(သမာဓိ)ပညာ၊(မန၊သောမနဿ) ဇီဝိတ၊ (ဣန္ဒြေ–၈)

(သမ္မာဒိဋ္ဌိ၊ သင်္ကပ္ပ၊ ဝါယာမ၊ သတိ၊ သမာဓိ) (မဂ္ဂင်–၅)

(သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာ၊ ဟိရီ၊ ဩတ္တပ္ပ(ဗိုလ်–၇)

အလောဘ၊ အဒေါသ၊ (အမောဟ) (မူလ–၃)

(အနဘိဇ္ဈာ၊ အဗျာပါဒ၊ သမ္မာဒိဋ္ဌိ) (ကမ္မပထ–၃)

(ဟိရီ၊ ဩတ္တပ္ပ) (လောကပါလ–၂)

ကာယပဿဒ္ဓိ၊ စိတ္တပဿဒ္ဓိ၊ ကာယလဟုတာ၊ စိတ္တလဟုတာ၊ ကာယမုဒုတာ၊ စိတ္တမုဒုတာ၊ ကာယကမ္မညတာ၊ စိတ္တကမ္မညတာ၊ ကာယပါဂုညတာ၊ စိတ္တပါဂုညတာ၊ ကာယုဇုကတာ၊စိတ္တုဇုကတာ၊ (အစုံတရား–၁၂)

(သတိ၊ သမ္ပဇဉ်) (ဥပကာရတရား –၂)

(သမထ၊ ဝိပဿနာ) (ယုဂနဒ္ဓတရား –၂)

(ပဋိဃ၊ အဝိဂ္ဂဟ) (ညီမျှစေအပ်သည့်တရား-၂)

မှတ်ချက်။ ။ လက်သည်းကွင်းဖြင့် ရှေးနှင့်တရားကိုယ် ထပ်တူဖြစ်ကြောင်းပြသည်။

ဤ(၃၆)ပါးပင်ဖြစ်သည်။ တရားကိုယ်အားဖြင့် ၃၀-မျှသာရှိသည်။

ယေဝါပနအရ-အဋ္ဌကထာ၌ ပြထားသော တရားတို့မှာ-

ဆန္ဒ၊ အဓိမောက္ခ၊ မနသိကာရ၊ တတြမဇ္ဈတ္တတာ(အမြဲယှဉ်-၄)

ကရုဏာ၊ မုဒိတာ (ရံခါယှဉ်၊ အပ္ပမညာ-၂)

သမ္မာဝါစာ၊ ကမ္မန္တ၊ အာဇီဝ၊ (ရံခါယှဉ်၊ ဝိရတီ-၃)

ဤ(၉)ပါးတို့ပင်ဖြစ်သည်၊ ၂-ရပ်ပေါင်းလျှင် တရားကိုယ် ၃၉-ပါးဖြစ်သည်။

၂။ သောမနဿသဟဂုတ် ဉာဏဝိပ္ပယုတ် အသင်္ခါရိကစိတ်၊ သသင်္ခါရိကစိတ်ဖြစ်ခိုက်၌ ယင်း ၃၉-ပါးမှ ဉာဏ်-ပညာ မပါ၊ ၃၈-ပါးဖြစ်သည်။

၃။ ဥပေက္ခာသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကစိတ်၊ သသင်္ခါရိကစိတ်ဖြစ်ခိုက်၌ ယင်း ၃၉-ပါးမှ ပီတိမပါ ၃၈-ပါး ဖြစ်သည်။

၄။ ဥပေက္ခာသဟဂုတ် ဉာဏဝိပ္ပယုတ် အသင်္ခါရိကစိတ်၊ သသင်္ခါရိ ကစိတ်ဖြစ်ခိုက်၌ ယင်း ၃၉-ပါးမှ ဉာဏ်ပညာနှင့် ပီတိ မပါ ၃၇-ပါးဖြစ်သည်။

## ရူပကုသိုလ်နှင့် အရူပကုသိုလ် ဝေဖန်ပုံ

## အကျဉ်းချုပ်-ကောက်နုတ်ချက်

၁။ ရူပါဝစရ ပထမဈာန်ကုသိုလ်စိတ်ဖြစ်ခိုက်၌ အမည်ထုတ်၍

ဟောထားသည့်တရားများမှာ ကာမကုသိုလ် ပ+ဒု စိတ်တို့၌ကဲ့ သို့ ၅၆–ပါးပင်၊ တရားကိုယ်လည်း ၃၀–ပင်။

ယေဝါပနအရ အမြဲယှဉ် ၄–ပါးနှင့် ရံခါယှဉ် အပ္ပမညာ ၂–ပါးသာ၊ ၂–ရပ်ပေါင်း တရားကိုယ် ၃၆–ပါးဖြစ်သည်။

၂။ စတုက္ကနည်း ဒုတိယဈာန်စိတ်ဖြစ်ခိုက်၌ ဝိတက်+ဝိစာရမပါ ၃၄–ပါး။

၃။ တတိယဈာန်စိတ် ဖြစ်ခိုက်၌ ပီတိလည်းမပါ ၃၃–ပါး။

၄။ စတုတ္ထဈာန်စိတ် ဖြစ်ခိုက် သုခလည်းမပါ၊ ဥပေက္ခာနှင့်တကွ ၃၃– ပါး။ ပဉ္စကနည်း ဒုတိယဈာန်စိတ် ဖြစ်ခိုက်၌ မူလ ၃၆–ပါးမှ ဝိတက်မပါ ၃၅–ပါး။ တတိယ၊စတုတ္ထ ပဉ္စမဈာန် ဖြစ်ခိုက်၌ စတုက္ကနည်း ဒုတိယ၊ တတိယ စတုတ္ထဈာန်စိတ် တို့ ဖြစ်ခိုက်၌ကဲ့သို့ပင် ၃၄၊ ၃၃၊ ၃၃–ပါး ဖြစ်သည်။

အရူပါဝစရဈာန် ၄–ပါးဖြစ်ခိုက်၌ ရူပါဝစရပဉ္စမဈာန်ဖြစ်ခိုက်၌ ကဲ့သို့ပင် တရားကိုယ် ၃၃–ပါးဖြစ်သည်။ ယင်းအရူပဈာန် ၄–ပါးကို မွေ့ သင်္ဂဟပါဠိ၌ စတုတ္ထဈာန်ဟူသောအမည်ဖြင့်ဟောထားသည်။ ယင်း ၄–ပါး မှာ အာကာသာနဉ္စာယတန၊ ဝိညာဏဉ္စာယတန၊ အာကိဉ္စညာယတန၊ နေဝ သညာနာသညာယတန ဈာန်တို့ဖြစ်သည်။

## လောကုတ္တရာကုသိုလ် ဝေဖန်ပုံ အကျဉ်းချုပ်

## ကောက်နုတ်ချက်

အရိယမဂ်လေးပါး ဖြစ်ခိုက်၌ အမည်ထုတ်၍ ဟောထားသည့် တရားများမှာ– ကာမကုသိုလ် ပထမစိတ်၌ ဟောထားသည့် ၅၆–ပါးနှင့် ဝိရတီ ၃–ပါး၊ အနညာတညဿာမိတိန္ဒြေ ၁–ပါး၊ ပေါင်း ၆၀–ဖြစ်သည်၊

တရားကိုယ်အားဖြင့် ၃၃–သာရှိသည်။ ယေဝါပနအရ ဆန္ဒစသည် အမြဲယှဉ် ၄–ပါးနှင့်တကွ တရားကိုယ် ၃၇–ပါး၊ ဖြစ်သည်။

ဒုတိယဈာန် စသည်တို့၌ ရူပဈာန်ကဲ့သို့ ဝိတက်၊ ဝိစာရ၊ ပီတိတို့ကို နုတ်ပယ်သောအားဖြင့်လည်းကောင်း၊ သုခအရာ၌ ဥပေက္ခာကို ထည့်သော အားဖြင့်လည်းကောင်း တရားကိုယ်အရေအတွက်ကိုသိအပ်၏။

## အဋ္ဌသာလိနီစသည်၌ပြသော ပဋိပဒါနှင့်အဘိညာ ခွဲခြားချက်

(၁) ရုပ်နာမ်ကို သိမ်းဆည်းရာ၌လည်းကောင်း၊ (၂) ရုပ်နာမ်ကို ပိုင်းခြားဆုံးဖြတ်ရာ၌လည်းကောင်း၊ (၃) အကြောင်းနှင့်အကျိုးကို သိမ်းဆည်းရာ၌လည်းကောင်း၊ (၄) လက္ခဏာရေးသုံးပါးကို သိမြင်ရာ၌လည်းကောင်း၊ (၅) မဂ်မှန် မဂ်မှားကိုဆုံးဖြတ်ရာ၌လည်းကောင်း ဖြစ်ပေါ်လာသည့် ကိလေသာ စိတ်ကို သုံးကြိမ်အထိ ရှု၍ပယ်ရလျှင် ဒုက္ခပဋိပဒါ (ဆင်းရဲသောအကျင့်)မည်၏၊ တစ်ကြိမ်၊ နှစ်ကြိမ်ရှုရုံမျှဖြင့် ပယ်နိုင်လျှင် သုခပဋိပဒါ (ချမ်းသာသော အကျင့်) မည်၏၊

(ကျက်မှတ်၍ ဆင်ခြင်ရာ၌ ထိုသို့သော အခက်၊ အလွယ်ရှိ–မရှိ၊ ဆင်ခြင် ရာ၏၊)

ဥပက္ကိလေသမှ လွတ်သော ဥဒယဗ္ဗယဉာဏ်စသည်၌ ကြာမြင့်စွာ တည်နေပြီးမှ အရိယမဂ်ဉာဏ်ဖြစ်ပေါ်လျှင် ဒန္ဓာဘိညာ(နှေးသော အဘိညာဉ်) မည်၏၊ ထိုဉာဏ်များဖြစ်၍ မကြာမီပင် အရိယမဂ်ဉာဏ် ဖြစ်ပေါ် လျှင် ခိပ္ပါဘိညာ(မြန်သော အဘိညာဉ်)မည်၏။

## ဝိသုဒ္ဓိမဂ်စသည်၌ပြသော ဝိသုဒ္ဓိနှင့်ဉာဏ်ဖြစ်ပုံ အကျဉ်းချုပ်

သီလဝိသုဒ္ဓိ ပြည့်စုံမှ စိတ္တဝိသုဒ္ဓိဖြစ်နိုင်သည်၊ (နီဝရဏကင်းအောင်

စိတ်တည်ငြိမ်မှု သမာဓိကို စိတ္တဝိသုဒ္ဓိဟုခေါ်သည်။) ယင်း စိတ္တဝိသုဒ္ဓိပြည့်စုံမှ နာမရူပပရိစ္ဆေဒဉာဏ်နှင့် ဒိဋ္ဌိဝိသုဒ္ဓိဖြစ်သည်။ ယင်း ဒိဋ္ဌိဝိသုဒ္ဓိပြည့်စုံမှ ပစ္စယပရိဂ္ဂဟဉာဏ်နှင့် ကင်္ခါဝိတရဏဝိသုဒ္ဓိဖြစ်သည်။ ယင်း ဝိသုဒ္ဓိပြည့်စုံမှ သမ္မသနဉာဏ် စသည်တို့ဖြစ်ကြသည်။ သို့ဖြစ်၍ ရုပ်နာမ် ကြောင်းကျိုးစသည်ကို သရုပ်ခွဲ ဆင်ခြင်ရုံမျှဖြင့် နာမရူပပရိစ္ဆေဒဉာဏ် စသည်မဖြစ်နိုင်ဟု မှတ်ရာ၏။ အဘယ်ကြောင့်ဆိုသော် သရုပ်ခွဲဆင်ခြင်ရာ၌ စိတ္တဝိသုဒ္ဓိစသည် အကြောင်းမရှိသောကြောင့်ပင် ဤအချက်သည် ဒုက္ခပဋိပဒါကိုပြသော အဋ္ဌကထာစကားဖြင့်လည်း ထင်ရှားပေ၏။

## အကုသိုလ်ဝေဖန်ပုံ အကျဉ်းချုပ်–ကောက်နုတ်ချက်

၁။ သောမနဿသဟဂုတ် ဒိဋ္ဌိဂတသမ္ပယုတ် အသင်္ခါရိက လောဘမူ ပထမစိတ်ဖြစ်ခိုက်၌ အမည်ထုတ်၍ ဟောထားသော တရားတို့မှာ–
ဖဿပဉ္စမက ၅–ပါး၊ ဈာနင် ၅–ပါး၊ (ကုသိုလ်စိတ်၌ကဲ့သို့ပင် တရားကိုယ်–၅)
ဝီရိယ၊ (သမာဓိ၊ မန၊ သောမနဿ)၊ ဇီဝိတ၊ (ဣန္ဒြေ –၅)
မိစ္ဆာဒိဋ္ဌိ၊ (သင်္ကပ္ပ၊ ဝါယာမ၊ သမာဓိ)၊ (မိစ္ဆာမဂ္ဂင်–၄)
(ဝီရိယ၊ သမာဓိ)၊ အဟိရိက၊ အနောတ္တပ္ပ၊ (ဗိုလ်–၄)
လောဘ၊ မောဟ၊(မူလ–၂)
(အဘိဇ္ဈာ၊ မိစ္ဆာဒိဋ္ဌိ)၊ (ကမ္မပထ–၂)
(အဟိရိက၊ အနောတ္တပ္ပ) (လောကနာသက–၂)
(သမထ)၊ (အခြားကိစ္စတို့၌ ပျံ့လွင့်မှု ငြိမ်းစေသည့်တရား–၁)
(ပဂ္ဂါဟ၊ အဝိက္ခေပ) (ညီမျှစေအပ်သည့်တရား–၂)

ဤ ၃၂–ပါးပင်ဖြစ်သည်၊ တရားကိုယ်အားဖြင့် ၁၆–ပါးမျှသာရှိသည်၊ ယေဝါပန–အရ အဋ္ဌကထာ၌ ပြသောတရားတို့မှာ ဆန္ဒ၊ အဓိမောက္ခ၊

မနသိကာရ၊ ဥဒ္ဓစ္စ ဟူသော ဤ ၄–ပါးလုံးပင်၊ ၂–ရပ်ပေါင်းလျှင် တရားကိုယ် ၂၀–မျှသာဖြစ်သည်။

၃။ သောမနဿသဟဂုတ် ဒိဋ္ဌိဂတဝိပ္ပယုတ် အသင်္ခါရိက လောဘမူ တတိယစိတ်၌ မိစ္ဆာဒိဋ္ဌိမပါ ယေဝါပနအရ မာနနှင့်တကွ တရားကိုယ် ၂၀–ပင် ဖြစ်သည်။

၅။ ဥပေက္ခာသဟဂုတ် ဒိဋ္ဌိဂတသမ္ပယုတ် အသင်္ခါရိက လောဘမူ ပဥ္စမစိတ်၌ ပထမ ၂၀–မှ ပီတိမပါ ၁၉–ပါးဖြစ်သည်။

၇။ ဥပေက္ခာသဟဂုတ် ဒိဋ္ဌိဂတဝိပ္ပယုတ် အသင်္ခါရိက လောဘ မူ သတ္တမစိတ်၌ တတိယစိတ် ၂၀–မှ ပီတိမပါ ၁၉–ပါးဖြစ်သည်။

၂၊ ၄၊ ၆၊ ၈။ လောဘမူ ဒုတိယစသော အသင်္ခါရိကစိတ် ၄–ပါးတို့၌ ၁၊ ၃၊ ၅၊ ၇–စိတ်တို့ဆိုင်ရာ တရားကိုယ် (၂၀၊ ၂၀၊ ၁၉၊ ၁၉၊) တို့တွင် ယေဝါပနအရ ထိနမိဒ္ဓနှင့်တကွ အစဉ်အတိုင်း (၂၂၊ ၂၂၊ ၂၁၊ ၂၁၊) ဖြစ်သည်။

၉။ ဒေါမနဿသဟဂုတ် ဒေါသမူ အသင်္ခါရိကစိတ်၌ ပထမ စိတ်ဆိုင်ရာ ၂၀–မှ ပီတိ၊ ဒိဋ္ဌိ၊ လောဘမပါ ဒေါသနှင့်တကွ ၁၈–ပါးဖြစ်သည်။ ယေဝါပနက–အရ ဣဿာ၊ မစ္ဆရိယ၊ ကုက္ကုစ–တို့တွင် တစ်ပါးပါး နှင့်တကွ ရံခါ ၁၉–ပါးလည်းဖြစ်သည်။ အမည် ထုတ်၍ပြောရာတွင် သုခ သောမနဿအရာတို့၌ ဒုက္ခ ဒေါမနဿ ဟုပြောသည်။

၁၀။ ယင်းဒေါသမူ သသင်္ခါရိကစိတ်၌ ယေဝါပန–အရ ထိန၊ မိဒ္ဓနှင့်တကွ (၂၀–၂၁)ပါး ဖြစ်သည်။

၁၁။ ဥပေက္ခာသဟဂုတ် ဝိစိကိစ္ဆာသမ္ပယုတ် မောဟမူစိတ်ဖြစ် ခိုက်၌ ပါဝင်သောတရားများမှာ–လောဘမူ ပထမစိတ်၌ပြခဲ့သော ၁၆–ပါးမှ ပီတိ+ဒိဋ္ဌိ+လောဘမပါ ဝိစိကိစ္ဆာနှင့်တကွ တိုက်ရိုက်ပြ ၁၄–ပါး၊

ယေဝါပနအ–အရ မနသိကာရ၊ ဥဒ္ဓစ္စတို့နှင့်တကွ ၁၆–ပါးဖြစ်သည်။

၁၂။ ဥပေက္ခာသဟဂုတ် ဥဒ္ဓစ္စသမ္ပယုတ် မောဟမူစိတ် ဖြစ်ခိုက်၌လည်း ထို့အတူပင် ဝိစိကိစ္ဆာမပါ ဥဒ္ဓစ္စနှင့်တကွ တိုက်ရိုက်ပြ ၁၄–ပါး၊ ယေဝါပနအ–အရ အဓိမောက္ခ၊ မနသိကာရတို့နှင့်တကွ ၁၆–ပါးပင်ဖြစ်သည်။

(အထူးသတိပြုရန်မှာ တရားကိုယ်အရေအတွက်တို့၌ စိတ်ပါထည့်တွက်ထားသည်ကို အထူးသတိပြုပါ။)

# ဝိပါက်အဗျာကတခေါ် အကျိုးတရားဝေဖန်ပုံ

## အကျဉ်းချုပ်ကောက်နုတ်ချက်

၁။ ဥပေက္ခာသဟဂုတ် စက္ခုဝိညာဏ် မြင်သိစိတ် ဖြစ်ခိုက်၌ အမည်ထုတ်၍ ဟောထားသည့်တရားများမှ– ဖဿပဥ္စမက ၅–ပါး၊ (ဥပေက္ခာ)၊ ဧကဂ္ဂတာ–ချွန် ၂–ပါး၊ (မန၊ ဥပေက္ခာ)၊ ဇီဝိတ ဣန္ဒြေ ၃–ပါး၊ ဤ ၁၀–ပါးပင်။ တရားကိုယ်အားဖြင့် ၇–ပါးသာ၊ ယေဝါပနအ–အရ မနသိကာရနှင့်တကွ ၈–ပါးဖြစ်သည်။ (အဆင်းကောင်းကို မြင်လျှင် ကုသလဝိပါက်စိတ်၊ အဆင်းကို မြင်လျှင် အကုသလဝိပါက်စိတ်ဖြစ်သည်။

# မြင်စိတ်နှင့်တကွ ဝီထိစိတ်စဉ်ဖြစ်ပုံ

(က) ဘဝင်၊ ဆင်ခြင်၊ မြင်ပြီးလျှင်၊ ထို့ပြင် လက်ခံတုံ။

(ခ) စုံစမ်းဆုံးဖြတ်၊ ဇောစိတ်သတ်၊ နှစ်ရပ် တဒါရုံ။

(ဂ) အဆင်းမြင်လျှင်၊ ဖြစ်ရိုးပင်၊ စိတ်စဉ် မှတ်ပါကုန်။

(ဃ) ကြား၊ နံ၊ စား၊ ထိ၊ မြင်တူ၏၊ မှတ်သိစိတ်ဖြစ်ပုံ။
(င) ဆင်ခြင်ပြီးခါ၊ ဇော၊ တဒါ၊ ကြံရာစိတ်ဖြစ်ပုံ

## သာမန်လူတို့မြင်ရာ၌ စိတ်ဖြစ်ပုံ

(က) ထင်ဆဲ ဆင်း၊ ဓာတ်၊ မြင်လတ်ဦးစွာ၊
မြင်ပြီးတရား၊ စဉ်းစားပြန်ရာ။
သဏ္ဍာန်ဒြပ်၊ ပညတ်ပေါ်ကာ၊
မည်နာမ သိရ နောက်ဆုံးမှာ။

## ရှုမှတ်သူတို့မြင်ရာ၌ စိတ်ဖြစ်ပုံ

(ခ) မြင်လျှင်မြင်ခြင်း၊ လက်ငင်းမှတ်လျှင်၊
မြင်ရုံတွင်ပဲ၊ ပြတ်စဲစိတ်စဉ်။
ရုပ်နာမ်ကွဲလျက်၊ ဖြစ်ပျက် သိမြင်၊
အနိစ္စ၊ ဒုက္ခ၊ သဘောထင်။

၂။ သောတဝိညာဏ်–ကြားသိစိတ်၊ ဃာနဝိညာဏ်–နံသိစိတ်၊ ဇိဝှါ ဝိညာဏ်–စားသိစိတ်၊ ကာယဝိညာဏ်– ထိသိစိတ်ဖြစ်ခိုက်၌လည်း တရား ကိုယ်အရ အတူတူပင်၊ ကာယဝိညာဏ်၌ ကုသလဝိပါက် ဖြစ်လျှင် သုခဝေဒနာ နှင့်ယှဉ်၍ သုခသဟဂုတ်မည်ခြင်း၊ အကုသလ ဝိပါက်ဖြစ်လျှင် ဒုက္ခဝေဒနာနှင့် ယှဉ်၍ ဒုက္ခသဟဂုတ်မည်ခြင်းမျှသာ ထူးသည်။

၃။ သမ္ပဋိစ္ဆိုန်းခေါ် လက်ခံသည့်စိတ်ဖြစ်ခိုက်၌ ယင်း ၇–ပါးတွင် ဝိတက်၊ ဝိစာရတို့နှင့်တကွ တိုက်ရိုက်ပြ ၉–ပါး၊ ယေဝါပန–အရ အဓိ မောက္ခ+ မနသိကာရတို့နှင့်တကွ ၁၁–ပါးဖြစ်သည်။ ဝေဒနာမှာ ဥပေက္ခာဖြစ်၍ ဥပေက္ခာသဟဂုတ်ပင်။

၄။ သန္တီရဏခေါ် ရှုးစမ်းသည့်စိတ် ဖြစ်ခိုက်၌လည်း ဥပေက္ခာသဟဂုတ်ဖြစ်လျှင် ယင်း ၁၁-ပါးပင်၊ ကုသလဝိပါက် သောမနဿသဟဂုတ်ဖြစ်လျှင် ပီတိနှင့်တကွ ၁၁-ပါးဖြစ်သည်။

၅။ သဟိတ်ကာမကုသလဝိပါက်စိတ်သည် ကုသိုလ်ကဲ့သို့ပင် ရှစ်ပါးရှိသည်။ ယင်းစိတ်ရှစ်ပါး ဖြစ်ခိုက်၌ တရားများသည် ကာမကုသိုလ်ရှစ်ပါး ဖြစ်ခိုက်နှင့်တူ၏ ကရုဏာ+မုဒိတာနှင့် ဝိရတီသုံးပါးကို မပါဝင်ခြင်းမျှသာ ထူးသည်။

၆။ ရူပဝိပါက် အရူပဝိပါက် လောကုတ္တရာဝိပါက်စိတ်တို့ ဖြစ်ခိုက်၌ ပါဝင်သော တရားကိုယ်များမှာ-ယင်းတို့၏ အကြောင်း ကုသိုလ်စိတ်များ ဖြစ်ခိုက်နှင့် အလုံးစုံပင် အရတူ၏။

## မြင်သိမှု စသည့်တို့၏ အကြောင်းများ

၁။ မျက်စိ၊ အဆင်း၊ အလင်း၊ နှလုံးသွင်းမှု၊ ဤ ၄-ခုရှိမှ မြင်သိမှုဖြစ်သည်။

၂။ နား၊ အသံ၊ အာကာသ၊ နှလုံးသွင်းမှု၊ ဤ ၄-ခုရှိမှ ကြားသိမှုဖြစ်သည်။

၃။ နှာခေါင်း၊ အနံ့၊ သယ်ဆောင်လေ၊ နှလုံးသွင်းမှု၊ ဤ ၄-ခုရှိမှ နံ့သိမှုဖြစ်သည်။

၄။ လျှာ၊ အရသာ၊ အစိုအရည်၊ နှလုံးသွင်းမှု၊ ဤ ၄-ခုရှိမှ အရသာသိမှုဖြစ်သည်။

၅။ ကိုယ်အကြည်၊ ထိစရာ၊ အမာခံ၊ နှလုံးသွင်းမှု၊ ဤ ၄-ခုရှိမှ ထိသိမှုဖြစ်သည်။

၆။ ဘဝင်စိတ်၊ ထင်ပေါ်သည့်အာရုံ၊ မှီရာရုပ်၊ နှလုံးသွင်းမှု၊ ဤ ၄-ခုရှိမှ ကြံသိမှု ဖြစ်သည်။

၇။ အာရုံကောင်း၌ ကုသိုလ်ကံ၏အကျိုး ဝိပါက်စိတ်ဖြစ်သည်၊ အာရုံဆိုး၌ အကုသိုလ်ကံ၏အကျိုး ဝိပါက်စိတ်ဖြစ်သည်။

၈။ ထက်သန်သော ဉာဏ်ယှဉ်ကုသိုလ်ကြောင့် ဉာဏ်ယှဉ် ကုသလဝိပါက် ၄-ခုဖြစ်သည်၊ မထက်သန်သောဉာဏ် ယှဉ်ကုသိုလ်နှင့် ထက်သန်သော ဉာဏ်မယှဉ်ကုသိုလ်တို့ကြောင့် ဉာဏ်မယှဉ် ဟိတ်ရှိ ကုသလဝိပါက် ၄-ခု ဖြစ်သည်၊ မထက်သန်သော ဉာဏ် မယှဉ် ကုသိုလ်ကြောင့် ဉပေက္ခာသဟဂုတ် သန္တီရဏ‌ခေါ် အဟိတ်ကုသလဝိပါက် ဖြစ်သည်၊ ယင်း အကုသလဝိပါက် ၉-ပါးသည် လူ့ဘုံ၊ နတ်ဘုံတို့၌ ပဋိသန္ဓေ၊ ဘဝင်၊ စုတိ ကိစ္စဖြင့်လည်း ဖြစ်သည်၊ ကာမ ၁၁-ဘုံ၌ တဒါရုံကိစ္စဖြင့်လည်း ဖြစ်သည်။

၉။ အကုသိုလ်စိတ် ၁၂-ပါးကြောင့် အကုသလဝိပါက်စိတ် ၇-ပါး ဖြစ်သည်။ ထိုတွင် သန္တီရဏစိတ်သည် အပါယ်လေးဘုံ၌ ပဋိသန္ဓေ ဘဝင်၊ စုတိကိစ္စဖြင့်လည်း ဖြစ်သည်၊ သန္တီရဏစိတ်သုံးခုတို့သည် သန္တီရဏကိစ္စ၊ တဒါရုံကိစ္စတို့ဖြင့်လည်း ဖြစ်သည်။

## ကြိယာ အဗျာကတတရား ဝေဖန်ပုံ

## အကျဉ်းချုပ် ကောက်နုတ်ချက်

၁။ ပဉ္စဒွါရာဝဇ္ဇန်းစိတ်ဖြစ်ခိုက်၌ ပါဝင်သောတရားများမှာ သမ္ပယုတ္တ်ဖြစ်ခိုက် နှင့်တူ၏၊ တရားကိုယ် ၁၁-ပါးပင်။

၂။ မနောဒွါရာဝဇ္ဇန်းစိတ်ဖြစ်ခိုက်၌ပါဝင်သော တရားတို့မှာ အထက်ပါ ၁၁-ပါးတွင် ဝီရိယနှင့်တကွ ၁၂-ပါးဖြစ်သည်။ (ဤအာဝဇ္ဇန်း ၂-ပါးသည် ပုထုဇဉ်သေက္ခပုဂ္ဂိုလ်တို့နှင့်လည်း သက်ဆိုင်၏၊ ကျန်ကြိယာစိတ် ၁၈-ပါးသည် ရဟန္တာတို့နှင့်သာ ဆိုင်သည်။

၃။ ဟသိတုပ္ပါဒ်ခေါ် ရဟန္တာတို့၏ ပြုံးရွှင်စိတ် ဖြစ်ခိုက်၌ အထက်ပါ ၁၂-ပါးတွင် ပီတိနှင့်တကွ ၁၃-ပါးဖြစ်သည်၊ ဝေဒနာမှာ သောမနဿဖြစ်၍ သောမနဿသဟဂုတ်ခေါ်သည်။

၄။ သဟိတ်ကာမ ကြိယာစိတ်သည် ကာမကုသိုလ်စိတ်ကဲ့သို့ပင် ရှစ်ပါးရှိသည်၊ ယင်းစိတ် ရှစ်ပါးဖြစ်ခိုက်၌ ပါဝင်သောတရားများမှာ ကာမကုသိုလ်စိတ် ရှစ်ပါးဖြစ်ခိုက်နှင့်တူ၏၊ ဝိရတီသုံးပါး မပါဝင်ခြင်းမျှသာ ထူးသည်။

၅။ ရူပကြိယာ အရူပကြိယာ စိတ်တို့ဖြစ်ခိုက်၌ ပါဝင်သော တရားတို့မှာ ရူပကုသိုလ် အရူပကုသိုလ်စိတ်တို့ ဖြစ်ခိုက်နှင့်တူ၏၊

## ကုသိုလ် အကုသိုလ် အဗျာကတ စာရင်းပေါင်းချုပ်

၁။ ကာမကုသိုလ် ၈၊ ရူပကုသိုလ် ၅၊ အရူပကုသိုလ် ၄၊ လောကုတ္တရာကုသိုလ် (မဂ်-၄)၊ ဤကုသိုလ်စိတ် ၂၁-ပါးဖြစ်ခိုက်၌ ပါဝင်သော စိတ် စေတသိက် တရားတို့ကို ကုသလာဓမ္မ-ကုသိုလ်တရားဟု ဟောသည်။

၂။ အကုသိုလ် ၁၂-ပါးဖြစ်ခိုက်၌ ပါဝင်သော စိတ်၊ စေတသိက် တရားတို့ကို အကုသလာဓမ္မာ အကုသိုလ်တရားဟု ဟောသည်။

၃။(က) စက္ခုဝိညာဏ်စသော အကုသလဝိပါက် ၇၊ အဟိတ်ကုသလဝိပါက် ၈၊ ကာမကုသိုလ်နှင့် အလားတူ သဟိတ်ကာမဝိပါက် ၈၊ ရူပဝိပါက် ၅၊ အရူပဝိပါက် ၄၊ လောကုတ္တရာဝိပါက်ဖိုလ် ၄၊ ဤဝိပါက်စိတ် ၃၆-ပါးဖြစ်ခိုက်၌ ပါဝင်သော စိတ် စေတသိက်၊ တရားတို့ကို ဝိပါက်အဗျာကတဟုဟောသည်။

၃။(ခ) ပဉ္စဒွါရာဝဇ္ဇန်း၊ မနောဒွါရာဝဇ္ဇန်း ဟသိတုပ္ပါဒ် ဟူသော အဟိတ်ကြိယာ ၃၊ သဟိတ်ကာမကြိယာ ၈၊ ရူပကြိယာ ၅၊ အရူပကြိယာ

၄၊ ဤ ကြိယာစိတ် ၂၀–ဖြစ်ခိုက်၌ ပါဝင်သော စိတ်စေတသိက် တရားတို့ကို ကြိယာ အဗျာကတဟု ဟောသည်။

၃။(ဂ) ဟဒယဝတ္ထုမပါ ရုပ် ၂၇–ပါးကို ရုပ်အဗျာကတဟု ဟောသည်။

၃။(ဃ) နိဗ္ဗာန်ကို အသခံတ အဗျာကတဟု ဟောသည်။

ဤ ဝိပါက်၊ ကြိယာ၊ ရုပ်၊ နိဗ္ဗာန်တို့ကို အဗျာကတာ ဓမ္မာ–အဗျာကတတရားဟု ဟောသည်။

# ဗုဒ္ဓဝါတော်စဉ် တရားတော်

(ဗုဒ္ဓမြတ်စွာသည် ဘုရားအဖြစ်သို့ ရောက်တော်မူပြီးသည်နောက် ခုနစ်ဝါမြောက်၌ တာဝတိံသာနတ်တို့ရွာ ပင်လယ်ကသစ်ပင်ရင်း ခင်းထား အပ်သော ပဏ္ဍုကမ္ဗလာကျောက်ဖျာထက်တွင် ဝါတွင်းသုံးလပတ်လုံး အဘိဓမ္မာဒေသနာတော်ကို ဟောကြားတော်မူခဲ့သည်။ ဗုဒ္ဓ မြတ်စွာဟောကြား တော်မူအပ်သော ထိုအဘိဓမ္မာဒေသနာတော်ကို ဟောကြားတော်မူရန် အခွင့်ရောက်လာသော ကျေးရူးတော်ရှင် မဟာစည်ဆရာတော် ဘုရားကြီး ၁၃၃၆–ခုနှစ်၊ ပြာသိုလပြည့်နေ့မှစ၍ "ဗုဒ္ဓဝါတော်စဉ် တရားတော်" အမည်ဖြင့် ဟောကြားတော်မူရာ၌ ထည့်သွင်းဟောကြားသင့်သော အဘိဓမ္မာတရား များကိုလည်း ထည့်သွင်းဟောကြားတော်မူသည်။ ထိုသို့ ဟောကြား တော်မူရာ၌ ကာမကုသိုလ်ကို ၂–ရက်၊ ရူပကုသိုလ်၊ အရူပကုသိုလ်တို့ကို ၁–ရက်စီ၊ လောကုတ္တရာကုသိုလ်ကို တပေါင်းလကွယ်နေ့နှင့် သကြံန်တွင်း ၃–ရက် ဆက်၍ ဟောကြားတော်မူသည်၊ ပဓာနဖြစ်သော ဆောင်ပုဒ်များကိုမူ စာရွက် စာတမ်းရိုက်နှိပ်လျက် တရားနာပရိသတ်တို့အား ဝေငှထားပေသည်။ ဝေငှ ခဲ့သည့် စာရွက်စာတမ်းတို့၌ ပါရှိသော အဘိဓမ္မာတရားတို့မှာ ဖော်ပြလတ္တံ့ အတိုင်းဖြစ်၏)။

# အဘိဓမ္မာ၌ ကာမာဝစရကုသိုလ်ကို ဝေဖန်ပြပုံ

၁။ သောမနဿသဟဂုတ် ဉာဏသမ္ပယုတ် အသင်္ခါရိကစိတ်၊ သသင်္ခါရိကစိတ်ဖြစ်ခိုက်၌ အမည်ထုတ်၍ ဟောထားသော တရားတို့မှာ--

ဖဿ၊ ဝေဒနာ၊ သညာ၊ စေတနာ၊ စိတ် (ဖဿပဉ္စမက-၅-ပါး)

ဝိတက်၊ ဝိစာရ၊ ပီတိ၊ (သုခ) ဧကဂ္ဂတာ၊ (ဈာနင်-၅-ပါး)

သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာ၊ (မန-သောမနဿ)၊ ဇီဝိတ၊ (ဣန္ဒြေ-၈-ပါး)

(သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သတိ၊ သမာဓိ) (မဂ္ဂင်-၅-ပါး)

သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ(ပညာ) ဟိရီ၊ ဩတ္တပ္ပ (ဗိုလ်-၇-ပါး)

အလောဘ၊ အဒေါသ (အမောဟ) (မူလ-၃-ပါး)

(အနဘိဇ္ဈာ၊ အဗျာပါဒ၊ သမ္မာဒိဋ္ဌိ) (ကမ္မပထ-၃-ပါး)

(ဟိရီ၊ ဩတ္တပ္ပ) (လောကပါလ-၂-ပါး)

ကာယပဿဒ္ဓိ၊ စိတ္တပဿဒ္ဓိ၊ ကာယလဟုတာ၊ စိတ္တလဟုတာ၊ ကာယမုဒုတာ၊ စိတ္တမုဒုတာ၊ ကာယကမ္မညတာ၊ စိတ္တကမ္မညတာ၊ ကာယပါဂုညတာ၊ စိတ္တပါဂုညတာ၊ ကာယုဇုကတာ၊ စိတ္တုဇုကတာ၊ (ပဿဒ္ဓိစသည် ၁၂-ပါး)

(သတိ၊ သမ္ပဇဉ်) (ဥပကာရတရား-ပါး)

(သမထ၊ ဝိပဿနာ) (ယုဂနဒ္ဓတရား-၂-ပါး)

(ပဂ္ဂါဟ၊ အဝိက္ခေပ) (ညီမျှစေအပ်တဲ့တရား-၂-ပါး)

ဤ ၅၆-ပါးပင်ဖြစ်သည်။ တရားကိုယ်အားဖြင့် ၃၀-မျှသာရှိသည်။ ယေဝါပနအရ အဋ္ဌကထာ၌ ပြသောတရားတို့မှာ--

ဆန္ဒ၊ အဓိမောက္ခ၊ မနသိကာရ၊ တတြမဇ္ဈတ္တတာ၊
(အမြဲယှဉ် ၄–ပါး)

ကရုဏာ၊ မုဒိတာ (အပ္ပမညာ ၂–ပါး၊ ရံခါသာယှဉ်သည်)

သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ (ဝိရတီ ၃–ပါး၊ ရံခါသာ ယှဉ်သည်)

ဤ ၉–ပါးတို့ပင်ဖြစ်သည်၊ ၂–ရပ်ပေါင်းလျှင် တရားကိုယ် ၃၉– ပါးဖြစ်သည်။

၂။ သောမနဿသဟဂုတ်ဉာဏဝိပ္ပယုတ် အသင်္ခါရိကစိတ်၊ သသင်္ခါရိကစိတ်ဖြစ်ခိုက်၌ ယင်း–၃၉–ပါးမှ ဉာဏ်ပညာမပါ၍ ၃၈–ပါးဖြစ် သည်။

၃။ ဥပေက္ခာသဟဂုတ် ဉာဏသမ္ပယုတ်အသင်္ခါရိကစိတ်၊ သသင်္ခါရိကစိတ်ဖြစ်ခိုက်၌ ယင်း ၃၉–ပါးမှ ပီတိမပါ၍ ၃၈–ပါးဖြစ်သည်။

၄။ ဥပေက္ခာသဟဂုတ် ဉာဏဝိပ္ပယုတ် အသင်္ခါရိကစိတ်၊ သသင်္ခါရိကစိတ်၌ဖြစ်ခိုက် ယင်း ၃၉–ပါးမှ ဉာဏ်ပညာရော ပီတိရော မပါ၍ ၃၇–ပါးသာဖြစ်သည်။

မှတ်ချက်။ ။လက်သည်းကွင်းဖြင့်ရေးနှင့် ထပ်တူဖြစ်ကြောင်း ပြသည်၊ နောက်၌လည်း နည်းတူပင်။

## ဓမ္မသင်္ဂဏီပါဠိတော်မှ မဂ်စိတ်၌ဝေဖန်ချက်

## အကျဉ်းချုပ်

အရိယမဂ်စိတ်ဖြစ်ခိုက်၌ ပါဝင်သော တရားများမှာ ကာမကုသိုလ် ပဌမစိတ်၌ ပါဝင် ၅၆–ပါးနှင့် ဝိရတီသုံးပါး၊ အနုညာတညဿာမီတိန္ဒြေ တစ်ပါးအားဖြင့် ၆၀–တိတိဖြစ်သည်။ တရားကိုယ်အားဖြင့် ၃၃–ပါးသာရှိသည်။

ယေဝါပနအရမှာလည်း ဆန္ဒစသည့် အမြဲယှဉ် ၄–ပါးသာဖြစ်သည်။ နှစ်ရပ်ပေါင်းလျှင် တရားကိုယ် ၃၇–ပါးဖြစ်သည်။

## ပဋိပဒါနှင့်အဘိညာဉ်ခွဲခြားချက်(အဋ္ဌသာလိနီစသည်)

(၁) ရုပ်နာမ်ကို သိမ်းဆည်းရာ၌လည်းကောင်း၊ (၂) ရုပ်နာမ်ကို ပိုင်းခြားဆုံးဖြတ်ရာ၌လည်းကောင်း၊ (၃) အကြောင်းနှင့်အကျိုးကို သိမ်းဆည်းရာ၌လည်းကောင်း၊ (၄)၊ လက္ခဏာသုံးပါးကို သိမြင်ရာ၌လည်းကောင်း၊ (၅) မဂ်မှန် မဂ်မှားကို ဆုံးဖြတ်ရာ၌လည်းကောင်း ဖြစ်ပေါ်လာသည့် ကိလေသာစိတ်ကို သုံးကြိမ်အထိ ရှုမှတ်၍ပယ်ရလျှင် ဒုက္ခပဋိပဒါ (ဆင်းရဲသော အကျင့်) မည်၏၊ တစ်ကြိမ်၊ နှစ်ကြိမ်မျှ ရှုမှတ်ရုံဖြင့်ပယ်နိုင်လျှင် သုခပဋိပဒါ (ချမ်းသာသောအကျင့်) မည်၏။

ဥပက္ကိလေသမှ လွတ်သော ဥဒယဗ္ဗယဉာဏ်စသည်၌ ကြာမြင့်စွာ တည်နေပြီးမှ အရိယမဂ်ဉာဏ် ဖြစ်ပေါ်လျှင် ဒန္ဓာဘိညာ (နှေးသောအဘိဉာဏ်) မည်၏။ ထိုဉာဏ်များဖြစ်၍ မကြာမီပင် အရိယမဂ်ဉာဏ် ဖြစ်ပေါ်လျှင် ခိပ္ပါဘိညာ (မြန်သော အဘိဉာဏ်)မည်၏။

## ဝိသုဒ္ဓိနှင့်ဉာဏ်ဖြစ်ပုံ အကျဉ်းချုပ်

သီလဝိသုဒ္ဓိပြည့်စုံမှ စိတ္တဝိသုဒ္ဓိဖြစ်နိုင်သည်၊ နီဝရဏကင်းသော စိတ်တည်ငြိမ်မှု သမာဓိကို စိတ္တဝိသုဒ္ဓိခေါ်သည်၊ ယင်းစိတ္တဝိသုဒ္ဓိပြည့်စုံမှ နာမရူပပရိစ္ဆေဒဉာဏ်နှင့် ဒိဋ္ဌိဝိသုဒ္ဓိဖြစ်သည်၊ ယင်း ဒိဋ္ဌိဝိသုဒ္ဓိပြည့်စုံမှ ပစ္စယပရိဂ္ဂဟဉာဏ်နှင့် ကင်္ခါဝိတရဏ ဝိသုဒ္ဓိဖြစ်သည်၊ ယင်း ဝိသုဒ္ဓိပြည့်စုံမှ သမ္မသနဉာဏ် စသည်ဖြစ်သည်၊ သို့ဖြစ်၍ ရုပ်နာမ် ကြောင်းကျိုးစသည် သရုပ်ခွဲပုံ၊ ဆင်ခြင်ရုံမျှဖြင့် နာမရူပပရိစ္ဆေဒဉာဏ်စသည်မဖြစ်ဟု မှတ်ရာ၏၊ အဘယ် ကြောင့်ဆိုသော် စိတ္တဝိသုဒ္ဓိ စသည် အကြောင်းမရှိသောကြောင့်ပင် ဤအချက်

သည့် ဒုက္ခပဋိပဒါကိုပြသော အဋ္ဌကထာစကားဖြင့်လည်း ထင်ရှား၏၊

# ဓမ္မသင်္ဂဏီပါဠိတော်၌ အကုသိုလ်ကိုဝေဖန်ပုံ

## အကျဉ်းချုပ်

၁။ သောမနဿသဟဂုတ် ဒိဋ္ဌိဂတသမ္ပယုတ် အသင်္ခါရိက လောဘမူ ပထမစိတ်ဖြစ်ခိုက်၌ အမည်ထုတ်၍ ဟောထားသောတရားတို့မှာ--

ဖဿပဉ္စမက ၅-ပါး၊ ဈာနင် ၅-ပါး (ကုသိုလ်စိတ်ကဲ့သို့ပင်)

ဝိရိယ (သမာဓိ၊ မန၊ သောမနဿ)ဇီဝိတ (ဣန္ဒြေ-၅-ပါး)

မိစ္ဆာဒိဋ္ဌိ (သင်္ကပ္ပ၊ ဝါယာမ၊ သမာဓိ) (မိစ္ဆာမဂ္ဂင်-၄-ပါး)

(ဝိရိယ၊ သမာဓိ) အဟိရိက၊ အနောတ္တပ္ပ (ဗိုလ်-၄-ပါး)

လောဘ၊ မောဟ (မူလ-၂-ပါး)

(အဘိဇ္ဈာ၊ မိစ္ဆာဒိဋ္ဌိ) (ကမ္မပထ-၂-ပါး)

(အဟိရိက၊ အနောတ္တပ္ပ) (လောကနာသက-၂-ပါး)

သမထ၊ ပဂ္ဂဟ၊ အဝိက္ခေပ) (ယုဂနဒ္ဓစသည့် -၃-ပါး)

ဤ ၃၂-ပါးပင်ဖြစ်သည်၊ တရားကိုယ်အားဖြင့် ၁၆-ပါးမျှသာဖြစ်သည်။ ယေဝါပန-အရ အဋ္ဌကထာ၌ ပြသောတရားတို့မှာ-

ဆန္ဒ၊ အဓိမောက္ခ၊ မနသိကာရ၊ ဥဒ္ဓစ္စ၊-ဟူသော ဤ ၄-ပါးပင် ၂-ရပ်ပေါင်းလျှင် တရားကိုယ် ၂၀-မျှသာဖြစ်သည်။

၂။ သောမနဿသဟဂုတ် ဒိဋ္ဌိဂတဝိပ္ပယုတ် အသင်္ခါရိက လောဘမူ တတိယစိတ်၌ မိစ္ဆာဒိဋ္ဌိမပါ ယေဝါပနအရ မာနနှင့်တကွ တရားကိုယ် ၂၀-ပင်ဖြစ်သည်။

၅။ ဥပေက္ခာသဟဂုတ် ဒိဋ္ဌိဂတသမ္ပယုတ် အသင်္ခါရိက လောဘမူ ပဉ္စမစိတ်၌ ပီတိမပါ၊ ပထမစိတ်မှ ၁၉-ပါးဖြစ်သည်။

၇။ ဥပေက္ခာသဟဂုတ် ဒိဋ္ဌိဂတဝိပ္ပယုတ် အသင်္ခါရိက လောဘမူ သတ္တမစိတ်၌ ဒိဋ္ဌိနှင့် ပီတိမပါ၊ မာနနှင့်တကွ (တတိယစိတ်မှ) ၁၉-ပါးဖြစ်သည်။

၂-၄-၆-၈။ လောဘမူ ဒုတိယစသော သသင်္ခါရိကစိတ် ၄-ပါးတို့၌ ယေဝါပနအရ ထိန၊ မိဒ္ဓနှင့်တကွ ၂၂-၂၂-၂၁-၂၁ အစဉ်အတိုင်းဖြစ်ကြသည်။

၉။ ဒေါမနဿသဟဂုတ် ဒေါသမူ အသင်္ခါရိကစိတ်၌ ပီတိ လောဘနှင့် ဒိဋ္ဌိမပါ၊ ဒေါသနှင့်တကွ ၁၈-ပါးဖြစ်သည်။ ဣဿာ မစ္ဆရိယ ကုက္ကုစ္စတို့တွင် တစ်ပါးပါးနှင့်တွဲ၍ ၁၉-ပါးလည်းဖြစ်သည်။ သုခ သောမနဿအရာတို့၌ ဒုက္ခ ဒေါမနဿ-ဟုပြဆိုသည်။

၁၀။ ယင်းသသင်္ခါရိကစိတ်၌ ထိန မိဒ္ဓနှင့်တကွ ၂၀-၂၁-ပါးဖြစ်သည်။

၁၁။ ဥပေက္ခာသဟဂုတ် ဝိစိကိစ္ဆာသမ္ပယုတ် မောဟမူစိတ်၌ ပါဝင်သော တရားများမှာ လောဘမူ ပထမစိတ်၌ ပြခဲ့သော ၁၆-ပါးမှ ပီတိ၊ လောဘနှင့် ဒိဋ္ဌိမပါ ဝိစိကိစ္ဆာနှင့်တကွ တိုက်ရိုက်ပြ ၁၄-ပါး၊ ယေဝါပန-အရ မနသိကာရနှင့် ဥဒ္ဓစ္စ ၂-ပါးအားဖြင့် ၁၆-ပါးဖြစ်သည်။

၁၂။ ဥပေက္ခာသဟဂုတ် ဥဒ္ဓစ္စသမ္ပယုတ် မောဟမူစိတ်၌လည်း ထိုအတူပင် ဝိစိကိစ္ဆာမပါ၊ ဥဒ္ဓစ္စနှင့်တကွ တိုက်ရိုက်ပြ ၁၄-ပါး။ ယေဝါပန-အရ အဓိမောက္ခနှင့် မနသိကာရ ၂-ပါးအားဖြင့် ၁၆-ပါးပင်ဖြစ်သည်။

မှတ်ချက်။ ။( )လက်သည်းကွင်းဖြင့် ရှေးနှင့်ထပ်တူ ဖြစ်ကြောင်း ပြသည်။

(ဤသည်လျှင် စာရှက်စာတမ်းဖြင့် ရိုက်နှိပ်စေသည့် တရားတို့ဖြစ်၏။)

အဘိဓမ္မာတရားတော်ကြီး
ဤတွင်ပြီးပြီ။

# ထူးကဲတဲ့တရား

မြတ်စွာဘုရားဟောကြားတဲ့ တရားတော်တွေဟာ ဝိနည်းရယ်, သုတ်ရယ်, အဘိဓမ္မာရယ်လို့ သုံးမျိုးရှိတယ်။ ပိဋကတ်သုံးပုံလို့လဲ သိမ်းကျုံးပြီး ခေါ်သေးတယ်။

ဝိနည်းဆိုတာကတော့ ရဟန်းတော်တို့ ကျင့်ဝတ်ဥပဒေစည်းကမ်းတွေပါပဲ။

သုတ်ကတော့ လူနတ်ပြဟ္မာ သတ္တဝါအကုန်လုံး လိုက်နာကျင့်သုံးဖို့ တရားတွေဖြစ်တယ်၊ အဲဒီသတ္တဝါတွေရဲ့ အာသယာနုသယစသည်တို့နဲ့ သင့်တင့်အောင် သတ္တဝါတွေနားလည်အောင် ဟောထားတဲ့ တရား, သတ္တဝါတွေကျင့်နိုင်လောက်တဲ့ တရား။ အဲဒီတရားတွေကို ဟောကြားထားတယ်။

အဘိဓမ္မာတရား ဆိုတာကတော့ သတ္တဝါတွေကို မငဲ့ဘူး။ ဟောသင့်ဟောထိုက်တဲ့ သဘောသဘာဝတွေကိုအကုန်လုံးအကျယ်ချဲ့ပြီး အသေးစိတ် ဟောထားတယ်၊ အဲဒါကြောင့် အဘိဓမ္မာလို့ ခေါ်တယ်။

**မဟာစည်ဆရာတော်**

မဟာစည်ဆရာတော် ဘုရားကြီး၏ အဘိဓမ္မာတရားတော်ကြီး